# ရခိုင်ကျောက်စာပေါင်းချုပ်

ဦးဦးသာထွန်း
ဦးကျော်ထွန်းအောင်



## ပုံနှိပ်မှတ်တမ်း

| | | |
|---|---|---|
| အကြိမ် | – | ပထမအကြိမ် |
| ထုတ်ဝေသည့်လ | – | နိုဝင်ဘာ၊ ၂၀၁၇ |
| အုပ်ရေ | – | ၁၀၀၀ |
| တန်ဖိုး | – | ၁၀၀၀၀ိ/ |
| ကွန်ပျူတာစာစီ | – | အေးအေးမာတို့အဖွဲ့ |
| အဖုံးနှင့်အတွင်း | – | သိန်းဝင်း(အောင်မြင့်မိုရ်) |
| | | ၀၉ – ၂၅၄၃၄၇၇၆၆၊ ၀၉ – ၄၄၃၁၁၅၈၃၆ |
| စာအုပ်ချုပ် | – | ဦးမြင့်စိုး(ခင်မြတ်သူစာပေ) စာအုပ်ချုပ်လုပ်ငန်း |
| ထုတ်ဝေသူ | – | ဦးသိန်းဝင်း(မင်္ဂလာစာပေ ၀၀၂၈၄) |
| | | အမှတ် – ၃၇/က၊အနော်မာ(၁၉)လမ်း၊ |
| | | (၂ – က)ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်။ |
| ပုံနှိပ်သူ | – | ဦးသန်းထွန်းပုံနှိပ်တိုက် (၀၁၂၅၂) |
| | | အမှတ်(၁၀၁)၊ ၃၈ – လမ်း၊ကျောက်တံတားမြို့နယ်၊ရန်ကုန်။ |
| စီစဉ်သူ | – | ကောင်းထွန်းကျော် (ဖုန်း – ၀၉ – ၄၅၀၅၉၂၇၅၁) |




## မာတိကာ

**အခန်း (၁) လေးမြို့ခေတ်**



**အခန်း (၂) မြောက်ဦးခေတ်**

**အခန်း (၃) ဗမာမြို့ဝန်ခေတ်နှင့်အင်္ဂလိပ်ကော်မီရှင်နာခေတ်**



**အခန်း (၄) သက္ကရာဇ်မဲ့ကျောက်စာများ**

# နိဒါန်း

ရခိုင်ပြည်နယ် နေရာအနှံ့အပြား၌ ရှေးဟောင်းကမ္ပည်းကျောက်စာများကိုတွေ့နိုင်သည်။ အထူးသဖြင့် ရှေးဟောင်းမြို့တော်ကြီးများ စည်ပင်ဖြစ်ထွန်းခဲ့ရာဒေသများ၌ အများအပြားတွေ့ရသည်။ ယင်းတို့ကို ရှာဖွေစုဆောင်းခြင်း၊ ကျောက်စာရုံများသို့ ပြောင်းရွှေ့ထိန်း သိမ်းခြင်း၊ မှင်ကူးခြင်း၊ အကြိမ်ကြိမ် တိုက်ဆိုင်ဖတ်ရှုခြင်း၊ ဘာသာပြန်ဆိုခြင်း၊ မှတ်ချက်ရေးခြင်း စသည့်လုပ်ငန်းများကို မြောက်ဦး မြို့ ရှေးဟောင်းသုတေသနဌာနခွဲတွင် တာဝန်ယူဆောင်ရွက်ခဲ့ကြသည်။ သို့သော် ကျမ်းတစ်စောင်၊ စာတစ်အုပ်အဖြစ် ပုံနှိပ်ထုတ်ဝေခြင်း မပြုနိုင်ခဲ့သေးပေ။ ရှေးဟောင်းမြန်မာကျောက်စာများနှင့် မွန်ကျောက်စာများကိုမူ ရှေးဟောင်းသုတေသနဦးစီးဌာနမှ လည်းကောင်း၊ သုတေသီတစ်ဦးချင်းအနေဖြင့်လည်းကောင်း အမျိုးမျိုးပုံနှိပ်ထုတ် ဝေနိုင်ခဲ့ပေပြီ။ သို့နှင့် ရှေးဟောင်းသုတေသနနှင့် စာပေလောကတွင် ရှေးဟောင်းရခိုင်ကျောက်စာများစာအုပ်မှာ ကွက်လပ်တစ်ခုအဖြစ် လစ်လပ်နေပေသေးသည်။ ထိုကွက်လပ်ကိုဖြည့်ဆည်းခြင်းအလို့ငှာ "ရခိုင်ကျောက်စာပေါင်းချုပ်"စာအုပ်ကို ထုတ်ဝေလိုက်ရပါသည်။

ဤစာအုပ်ကို "ရခိုင်ကျောက်စာပေါင်းချုပ်"ဟု အမည်ပေးထားသော်လည်း ကမ္ပည်းကျောက်စာများအပြင် ဘုရားဆင်းတုတော်များ၏ ဓမ္မခံတော်မှစာများ၊ အုတ်ခွက်စာများ၊ အုတ်ပေချပ်စာများ၊ ငွေပေချပ်စာများကိုလည်း ထည့်သွင်းဖော်ပြထားပါသည်။

ရခိုင်ဒေသ၌တွေ့ရသော ကမ္ပည်းကျောက်စာများမှာ များသောအားဖြင့် ဗြဟ္မီအက္ခရာနှင့် ဗြဟ္မီအက္ခရာမှ ပေါက်ဖွားလာသော ရက္ခဝဏ္ဏအက္ခရာဖြစ်သည်။ ဗြဟ္မီပွားအက္ခရာကို သုတေသီအချို့တို့က ဂုတ္တအက္ခရာ (သို့မဟုတ်) ဒေဝနာဂရီအက္ခရာဟု အယူရှိကြသည်။ ဗြဟ္မီပွားအက္ခရာဖြင့် ရေးထိုးထားသောစာများမှာလည်း သက္ကဋ္ဌဘာသာဖြင့် တစ်မျိုး၊ ပါဠိဘာသာဖြင့်တစ်မျိုး၊ နှစ်မျိုးတွေ့ရသည်။ ယင်းသို့ ရေးထိုးခဲ့သည်များကို ဓညဝတီခေတ်နှောင်းပိုင်း အချိန်ထိတွေ့နိုင်သည်။ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသော ကမ္ပည်းကျောက်စာများကိုမူ ဝေသာလီခေတ်နှောင်း ပိုင်းမှသည် လေးမြို့ခေတ်၊ မြောက်ဦးခေတ်နှင့် ယခုခေတ်အထိတွေ့ရသည်။ ယင်းခေတ် ယင်းကာလများမှစ၍ မြန်မာပြည်မနှင့် ရခိုင်ဘက်မှ စာပေအရေးအသားတို့သည် တူညီလာခဲ့သည်ဟုဆိုရပေမည်။ သို့သော် ဒေသန္တရအပြောအဆို၊လေယူလေသိမ်းကိုလိုက်၍ အနည်းငယ်စကွဲပြားခြားနားမှုများရှိပေသည်။

ဤစာအုပ်တွင်လေးမြို့ခေတ်(AD 9-15 ရာစု)မှသည် မြန်မာဘုရင်သီပေါမင်းနန်းကျသော (AD 1885) သက္ကရာဇ် ၁၂၄၇-ခုနှစ်အတွင်း ရေးထိုးခဲ့ကြသော ကျောက်စာများကိုသာ ထည့်သွင်းဖော်ပြထားပါသည်။

***(ထပ်ဖြည့်ထားပါသည်။ စီစဉ်သူ)***

ကမ္ပည်းကျောက်စာများမှာ အချိန်နှင့်အမျှ ပေါ်ထွက်နေပေသည်။ ဤစာအုပ်ကိုပြုစုနေသည့်အချိန်ထိ နေရာအသီးသီးတို့၌ ကမ္ပည်းကျောက်စာအများအပြား ပေါ်ထွက်နေဆဲဖြစ်သည်။ နောက်နောင်လည်း ပေါ်ထွက်ဦး မည်ဟု ယူဆရပါသည်။ ယင်းတို့ကို ရှာဖွေကာ ဆက်လက်သုတေသနပြုကြပါ။

ကျောက်စာများကို ဖတ်ရှုတင်ပြရာ၌ အတတ်နိုင်ဆုံး မူလကျောက်ပြား၊ အုတ်ပြား၊ ငွေပြားပေါ်တွင် ပါရှိသည့် စာလုံးပေါင်း ဖတ်ရှုချက်အတိုင်းဖြစ်စေပြီး ယခုခေတ်အက္ခရာများသို့ ပြောင်းလဲရေးသားထားပါသည်။ ပျက်ပြယ်နေသော၊ လုံးဝမဖတ်သာသောစာလုံး များကိုမူ အက္ခရာတစ်လုံးစီအတွက် အစက်ငယ်(·)တစ်ခုစီပြပါသည်။ တွေးဆဆက်စပ်ယူဆရသော အက္ခရာများကိုမူ လက်သည်းကွင်းအတွင်း ရေးသားဖော်ပြပါသည်။

အစီအစဉ်ကျစေရန်အတွက် သက္ကရာဇ်ရေးထိုးပါရှိသောစာများကို သက္ကရာဇ်အကြီးအငယ်အလိုက်စီစဉ်ပြီး ခေတ်အပိုင်းအခြားအလိုက် အခန်းခွဲထားပါသည်။ ခေတ်ကာလအပိုင်းအခြားကို ခုနှစ်သက္ကရာဇ်ဖြင့်ဖော်ပြရာတွင်လည်း ယင်းခေတ်အတွင်း ယနေ့ထိစုဆောင်းမိသမျှအထဲမှ အစောဆုံးကမ္ဗည်းကျောက်စာ၏ ခုနှစ်သက္ကရာဇ်နှင့် နောက်အကျဆုံးကမ္ဗည်းကျောက်စာ၏ ခုနှစ်သက္ကရာဇ်တို့ကိုသာ ဖော်ပြထားခြင်းဖြစ်ပါသည်။

သက္ကရာဇ်ရေးထိုးမပါရှိသော ကျောက်စာများနှင့်သက္ကရာဇ်ပျက်ပြေ၊ပျက်စီးနေသည့်စာများကိုမူ ခေတ်အပိုင်းအခြားအလိုက် မခွဲခြားတော့ဘဲခန့်မှန်းယူဆရသော ခုနှစ်သက္ကရာဇ် အကြီးအငယ်အလိုက်သာစီစဉ်ပြီး အခန်း(၄)တွင် သီးသန့်ဖော်ပြထားပါသည်။ သက္ကရာဇ်ကိုခန့်မှန်းယူရာတွင်လည်း နီးစပ်မှုရှိစေရန် ကမ္ဗည်းကျောက်စာပါအမည်များ၊ ရရှိရာဘုရားပုထိုးစေတီအဆောက်အဦးတို့ကို သမိုင်းအစောင်စောင်တို့တွင် ရှာဖွေညှိနှိုင်းတိုက်ဆိုင်၍လည်းကောင်း၊ ခေတ်အလိုက်ပြောင်းလဲလာသော အက္ခရာဝဏ္ဏပုံစံများကို တိုက်ဆိုင်၍လည်းကောင်း၊ အတတ်နိုင်ဆုံးကြိုးစားတင်ပြထားပါသည်။ အခန်း(၄)မှ စာများကို ခေတ်အပိုင်းအခြားအလိုက် ခွဲခြမ်းဖော်ပြထားခြင်းမရှိသော်လည်း အားလုံးသောစာများမှာ အခန်း(၁)နှင့် အခန်း(၂)တို့မှ စာများနှင့် ခေတ်ပြိုင်ဖြစ်ပြီး အခန်း(၃)မှစာများထက် ရှေးကျပေသည်။

အခန်း(၃)မှစာများကို ဗမာမြို့ဝန်များခေတ်နှင့် အင်္ဂလိပ်(Commissioners) ကော်မီရှင်နာများခေတ်ဟု အမည်ပေးရခြင်းကို အနည်းငယ်ရှင်းပြ ရန်လိုမည်ထင်ပါသည်။ ရခိုင်ကိုသက္ကရာဇ် ၁၁၄၆-ခုနှစ်တွင် ဗမာဘုရင် ဘိုးတော်ဘုရားသိမ်းသွင်းပြီးနောက်၊ ဗမာ မြို့ဝန်များဖြင့် အုပ်ချုပ်စေခဲ့သည်။ ပထမ အင်္ဂလိပ်မြန်မာစစ်ပွဲအပြီး သက္ကရာဇ် ၁၁၈၆-ခုနှစ်တွင် တခါ ဗမာတို့ထက်စောပြီး အင်္ဂလိပ် (Commissioners)ကော်မီရှင်နာများအုပ်ချုပ်ခဲ့ကြသည်။ ယင်းပြီးနောက်မှ သက္ကရာဇ် ၁၂၄၇-ခုနှစ်တွင် ဗမာဘုရင်သီပေါမင်းနန်းကျခဲ့သည်။ သို့နှင့် ဤသို့ အမည်ပေးရခြင်းဖြစ်ပါသည်။

မူလတည်ရှိခဲ့သော နေရာမပျောက်ကွယ်စေရန်အတွက်၄င်း၊ ကိုယ်တိုင်လေ့လာဖတ်ရှုလိုသူများအဖို့ အလွယ်တကူရှာဖွေတွေ့ရှိနိုင်ရန်အတွက်၄င်း စတင်တွေ့ရှိရာနေရာနှင့် ယခုတည်ရှိရာနေရာတို့ကိုပါ ကမ္ဗည်းကျောက်စာတစ်ခုစီတို့၏ ထိပ်စီးတွင် မှတ်ချက်ရေးထား ပါသည်။ ***(ပုံစံပြောင်းထားပါသည်။ စီစဉ်သူ)***

ယခင်ကသုတေသီတို့ ကျောက်စာ၏အမည်ကိုပေးကြရာတွင် များသောအားဖြင့် ရရှိရာဒေသများကိုသာ အစွဲပြုပြီးခေါ်ဆိုခဲ့ကြသည်။ ယင်းသို့အမည်ပေးခေါ်ဆိုခြင်းမှာ ကျောက်စာ၏အမည်ဖြစ်ချင်မှဖြစ်ပေမည်။ အဘယ်ကြောင့်ဆိုသော် အချို့ကျောက်စာများမှာ မူလနေရာ၌မရှိမူဘဲ အကြောင်းအမျိုးမျိုးတို့ကြောင့် အခြားတပါး သောနေရာများသို့ရောက်နေကြသည်များလည်းတွေ့ရသည်။ မူလနေရာတခုတည်း၌ မူလရေးထိုးထားခဲ့သော ကျောက်ချပ်(မူလထိုး)ရှိသည့်အပြင် ယင်းကျောက်ချပ်တစ်ခုတည်းပေါ်တွင်ပင် အခြားအလှူရှင်တစ်ဦးဦးက ဆက်၍ တစပ်တည်းဖြစ်စေ(စပ်ထိုး)၊ မူလစာသားများပျက်ပြေသွားသည်ကို ယင်းစာသားများအတိုင်း ထပ်ဆင့်ရေးထိုး၍ဖြစ်စေ(ဆင့်ထိုး)၊ အခြားအလှူရှင်တစ်ဦးဦးက မိမိရေးလိုသောအကြောင်းအရာများကို အခြားကျောက်ချပ်တစ်ခုပေါ်၌ သီးခြားရေးထိုး၍ ဖြစ်စေတွေ့ရပေသည်။ ဤသို့သောကျောက်စာများကို တွေ့ရှိရာဒေသအရပ်ကို အစွဲပြု၍ အမည်ပေးလိုက်မည်ဆိုပါက ကျောက်စာ၏ စစ်မှန်သောအမည်ဖြစ်နိုင်တော့

မည်မဟုတ်ပါချေ။ သို့နှင့် တချို့သော ကျောက်စာများကို မူလသုတေသီတို့ပေးခဲ့သည့်အမည်များအပြင် ကျောက်စာပါအလှူရှင်၏အမည်များကို အစွဲပြု၍လည်း အမည်ပေးထားပါသည်။

အားလုံးသောကျောက်စာများကို မှင်ကူးကူးယူပြီး မူလကျောက်ချပ်ပေါ်ရှိ စာလုံးများနှင့် အကြိမ်ကြိမ်တိုက်ဆိုင်၍ အသေးစိတ်ဖတ်ရှုပြီးမှဖော်ပြထားပါသည်။ သို့သော် ကျောက်စာအချို့မှာမူ လက်လှမ်းမမှီနိုင်၍၎င်း၊ မူလကျောက် စာပျက်စီးသွား၍၎င်း၊ အကြောင်းအမျိုးမျိုးတို့ကြောင့် ပျောက်ဆုံးနေ၍၎င်း၊ မူလကျောက်ချပ်ရှိနေသေးသော်လည်း စာများ လုံးဝပျက်ပြေသွားပြီဖြစ်၍၎င်း၊ ယခင်က သုတေသီများ မှင်ကူးကူးယူမှတ်တမ်းတင်ထားခဲ့ကြသည့် စာအုပ်ပါမှင်ကူးဟောင်းများမှ ဖတ်ရှုတင်ပြလိုက်ရသည်များလည်း ပါဝင်နေပါသည်။ ၎င်းတို့မှာအိန္ဒိယနိုင်ငံဗုဒ္ဓဂါယာရှိမင်းထီးကျောက်စာကို မိဂဒါဝုန်ဆရာတော်ဦးကိတ္တိမာရေး "မဟာဗောဓိစုပ္ပတ္တိကထာ" ကျမ်းမှ၎င်း၊လုံးဝပျက်ပြေနေသော နန်းသားကန်တော်ကျောက်စာနှင့် ပျောက်ဆုံးနေသောမဟာမုနိဘုရားမှ ရှမ်းဆရာမောင်ရွှေမှုံ ကျောက်စာ၊ မဟာထီးရေတွင်းစာတို့ကို Dr. Forchammer ရေး Antiquity of Arakan မှ၎င်း ဖတ်ရှုတင်ပြထားပါသည်။

ကမ္ဘာစစ်ကြီးမဖြစ်မီအတွင်းက ရခိုင်ရှေးဟောင်းကမ္ပည်းကျောက်စာများကို လေ့လာစုဆောင်းမှတ်တမ်းတင်ခဲ့ကြသည့် သုတေသီများဖြစ်ကြသော ဦးစံရွှေဖူး၊ အရေးပိုင် မော်ရစ်ကောလိပ်(Maurice collis)နှင့် ဦးသာထွန်းအောင်တို့၏ ပုံနှိပ်မှု၊ လက်ရေးမှု မှတ်တမ်းများနှင့် အကြိမ်ကြိမ်တိုက်ဆိုင်ဖတ်ရှုတင်ပြ ထားပါသည်။

ရခိုင်ဘက်မှကျောက်စာများကို များသောအားဖြင့် အကျိုးအပဲ့၊ မစုံမလင်၊ အပျက်အပြေ၊ ဒါးသွေးထားသောဒါဏ်ရာ၊ ထုခွဲရိုက်ချိုးထားသော အနာအဆာများဖြင့်သာ ဝမ်းနည်းစဖွယ်ကြုံတွေ့ရပါသည်။ ဤသို့ဖြစ်ရခြင်း များကို ဆန်းစစ်ကြည့်ပါကကျောက်စာတို့မှာ ရာသီဥတုဒါဏ်၊ ရန်သူမျိုးအပေါင်း၏ဒါဏ် စသည့်လောကဓံတရားတို့ကို အမြဲတစေရင်ဆိုင်ခဲ့ကြရခြင်းကြောင့်ဖြစ်သည်။ ရခိုင်မိုးမှာ တနှစ်တနှစ်လျှင် မိုးရေချိန်လက်မ ၂၀၀-နီးနီးထိရွာသွန်းပြီး ကျောက်စာများကို သင်ပုန်းချေခဲ့ကြသည်။ ကမ္ဘာစစ်မီးအပေါင်းမှာလည်း ရခိုင်နယ်မြေကို စစ်တလင်းလုပ်ကာ ရှေးဟောင်းအမွေအနှစ်များကို ပျက်စီးပြုန်းတီးစေခဲ့သည်။ ဝိသမလောဘဇောတက်နေကြသော စီးပွားရေးသောင်းကြမ်းသူအချို့မှာလည်း ရှေးဟောင်းအဆောက်အဦးများမှ ကျောက်အုတ်များ၊ ကျောက်ဆစ်လက် ရာများနှင့် ကျောက်စာများကို လမ်းခင်းကျောက်အဖြစ် အရောင်းအဝယ်ပြုလုပ်ခဲ့ကြသည်။ တန်ဖိုးမဖြတ်နိုင်သော ရှေးဟောင်းအမွေအနှစ်များမှာ လမ်းခင်းကျောက်ဘဝသို့ ရောက်ရှိခဲ့ကြရသည်။ သိုက်ဆရာအချို့မှာလည်း ရှေးဟောင်းအဆောက်အဦးများ၊ ကျောက်ဆစ်လက်ရာများ၊ ရုပ်လုံးရုပ်ကြွများနှင့် ကျောက်စာများအထဲတွင် ရွှေငွေဥစ္စာရှိမည်ဟူသောအစွဲဖြင့် တွေ့မရှောင်ထုခွဲရိုက်ချိုးခဲ့ကြသည်။ အလန်္ဒေသီလများကလည်း မိမိတို့ချင်တိုင်း စူးဆောက် ပေါက်ဆိန်များဖြင့်ခြစ်ခြင်း၊ ထွင်းခြင်း၊ ပေါက်ခြင်း ပြုကျင့်ခဲ့ကြသည်။ တန်ဘိုးမသိကြသောသူများမှာလည်း ဒါးသွေးကောင်းတိုင်း သွေးပစ်ကြသည်။

သို့နှင့် သူတို့၏ရင်ဝယ် အနှစ်နှစ်အလလ သိမ်းဆည်းလာကြသည့် ကမ္ပည်းအက္ခရာများကို သူတို့ပြောပြချင်လိုလှသော သုတေသီတို့နှင့်တွေ့ပြန်သော အခါလည်း ထစ်ငေါ့ဆွံ့အနေကြလေပြီ၊ အတိတ်ကို မေ့တတ်နေကြချေပြီ၊ အချို့မှာလည်း ဒုက္ခကြီးငယ်အသွယ်သွယ်တို့ကို ရင်ဆိုင်လျက် ရင်ကော့စောင့်ဆိုင်းနေကြရင်း သူတို့တွေ့လိုလှသော သုတေသီများနှင့်မတွေ့ရဘဲ လုံးဝနှုတ်ပိတ်ကာ ကြေပျက်စီးသွားသည့်အဖြစ်ဆိုးများဖြင့်သာ ကြုံတွေ့သွားကြရရှာသည်။

ရခိုင်ပြည်နယ်ဘက်မှ ကမ္ပည်းကျောက်စာများကို ဗြိတိသျှအစိုးရလက်ထက်ကပင် အင်္ဂလိပ်အရေးပိုင်များစတင်ရှာဖွေစုဆောင်းခဲ့သည်။ ထိုစဉ်က ရှာဖွေစုဆောင်းခဲ့သော ကျောက်ရုပ် ၁၀-ခုခန့်ကို ရခိုင်ပြည်နယ်၊

မြောက်ဦးမြို့၊ နန်းတော်ကုန်း ဗိုလ်တည်း၌ သိမ်း ဆည်းထားခဲ့သည်။ ၁၉၂၀-ခန့်တွင် ဦးစံရွှေဖူးကို ရခိုင်တိုင်း အထူးကျောက်စာဝန်အဖြစ် တာဝန်ထမ်းဆောင်စေခဲ့သည်။ ၎င်းသည် ရှေးဟောင်းသုတေသနပြတိုက်၊ ယခု အစောင့်နေအိမ်ပြုလုပ်ထားသောအဆောင်၌ ကျောက်စာရုံအဖြစ်ပြုလုပ်ပြီး ကျောက်စာသစ်များကို ထပ်မံရှာဖွေစုဆောင်းခဲ့သည်။ လွတ်လပ်ရေးရပြီးနောက်ပိုင်း ၁၉၅၅-ခုနှစ်တွင် နိုင်ငံတော်အစိုးရက ရခိုင်တိုင်း၊ မြို့ဟောင်းမြို့(မြောက်ဦးမြို့)တွင် ရှေးဟောင်းသုတေသနရုံးခွဲတခုကို စတင်ဖွင့်လှစ်ခဲ့သည်။ မြန်မာပဏ္ဍိတ်တစ်ဦးနှင့် အစောင့်အမှုထမ်းတစ်ဦးကို ခန့်အပ်ပြီး တာဝန်ထမ်းဆောင်စေခဲ့သည်။ ယင်းနေ့မှစ၍ မြန်မာပဏ္ဍိတ်သည် ရခိုင်ပြည်နယ် တောတောင်အနှံ့တို့မှ ပြန့်ကြဲနေသော ကမ္ပည်းကျောက်စာ၊ ရုပ်လုံးရုပ်ကြွနှင့် ရှေးဟောင်းဝတ္ထုပစ္စည်းမှန်သမျှတို့ကို ပြတိုက်သို့ပြောင်းရွှေ့စုဆောင်းသိမ်းဆည်းခဲ့သည်။ ယင်း၏ကြိုးပမ်းမှုကြောင့် ယခင်ပြခန်းလုပ်ခဲ့သောကျောက်စာရုံ၌မဆန့်သဖြင့် ၁၉၅၈-ခုနှစ်တွင်ယခုလက်ရှိမြောက်ဦးမြို့၊ ရှေးဟောင်းသုတေသနပြတိုက်ကိုတိုးချဲ့ ဆောက်လုပ်ခဲ့သည်။ သို့သော်သွပ်မိုးသံပေါက်ကာ အဆောက်အဦးသာဖြစ်နေသဖြင့်အဖိုးတန်ပစ္စည်းများကို ပြသရန်မှာ မလုံခြုံခဲ့ပေ။ ၁၉၆၇-ခုနှစ်တွင် သံပေါက်များကိုဖယ်ရှားပြီး အင်္ဂတေအဆောက်အဦးအဖြစ် ထပ်မံပြုပြင်ခဲ့သည်။ သို့သော် တနှစ်တနှစ်လျှင် ရှာဖွေစုဆောင်းသိမ်းဆည်းမိသော ရှေးဟောင်းပစ္စည်းများမှာ မရွှေ့ပြောင်းနိုင်သော၊ သယ်ဆောင်ရန်ခဲယဉ်းသောနေရာမှပစ္စည်းများမှအပ အားလုံးလိုလိုပင် စုဆောင်းမိသဖြင့် မဆန့်ဖြစ်လာတော့သည်။ သို့နှင့် ၁၉၇၇/၇၈-ခုနှစ်အတွင်း ကျပ် ၃၇၀၀၀ိ/(ကျပ်သုံးသောင်းခုနှစ်ထောင်တိတိ) တန်ဆောင်အသစ် တစ်ခုကို တိုးချဲ့ဆောက်လုပ်ခဲ့သည်။ သို့သော် ရှေးဟောင်းပစ္စည်းများမှာ နေ့စဉ်နှင့်အမျှ ပေါ်ထွက်နေသဖြင့် ယခုလက်ရှိပြတိုက်အဆောင်တို့တွင်ပင် မဆန့်ဖြစ်နေပေသည်။ အမှန်အတိုင်းပြောရလျှင် ပြတိုက်ဟုဆိုရသော်လည်း နေရာမဆန့်တော့ပြီဖြစ်၍ ပစ္စည်းသိုလှောင်သော ဂိုဒေါင်သဖွယ်ဖြစ်နေပေပြီ။ စနစ်ကျသော ခေတ်မီသော ပြတိုက်ကြီးတစ်ခုဖြစ်လာရေးအတွက် ကြိုးစားဆောင်ရွက်သင့်သည်။

ရှေးဟောင်းအမွေအနှစ်ပစ္စည်းများကို အမြတ်တနိုးထိန်းသိမ်းစောင့်ရှောက်ရကောင်းမှန်းမသိသော၊ သိပါလျက် အသိခေါက်ခက်အဝင်နက်ဆိုသလို အလဇ္ဇီဒုဿီလ မိုက်တွင်းနက်နေကြသောသူများမှာ ယနေ့အထိရှိနေပေသည်။ စိတ်အေးကြည်သာစွာဖြင့် သုတေသနလုပ်လိုလှပါသော်လည်း ၎င်းတို့၏မိုက်မဲမှုများကို တားဆီးပိတ်ပင်နေရသည်မှာ အလုပ်ပိုတစ်ခုဖြစ်နေပေသည်။ တားဆီးဟန့်တားနေရသည်များကိုပင် အမြင်မှန်မရလာဘဲ အပြစ်မြင်ကာ ရန်ငြိုးဖွဲ့ပြီး အမျိုးမျိုးအန္တရာယ် ပြုသည်များကိုပင်ခံခဲ့ကြရသည်။ သို့နှင့်မွန်မြတ်သောအလုပ်မျိုးကို လုပ်ကိုင်နေရပါလျက် ရန်သူပွားလာပြီး အသက်အန္တရာယ်ကိုပင် စိုးရိမ်နေရပေသည်။ ၎င်းတို့ အမြင်မှန်ရလာသောနေ့ကိုသာ တောင့်တမိပါတော့သည်။

ဤစာအုပ်ကိုပြုစုရာတွင် အစစအရာရာ မိဘသဖွယ်အကူအညီပေးသော ရှေးဟောင်းသုတေသနညွှန်ကြားရေးမှူးချုပ် ဦးအောင်သော်အား၎င်း၊ ကမ္ပည်းကျောက်စာများကို ကိုယ်တိုင်ကိုယ်ကျကူးယူဖတ်ရှုကာ ဆွေးနွေးတိုင်ပင်ဖေါ်ရသော ကျွန်တော်၏သားမြောက်ဦးမြို့ရှေးဟောင်းသုတေသနဌာနမှ မောင်ကျော်ထွန်းအောင်အားလည်းကောင်း အထူးကျေးဇူးဥပကာရတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

**ဦးသာထွန်း**
**အကြံပေးပုဂ္ဂိုလ်**
**ရှေးဟောင်းသုတေသနဌာနခွဲ**
**မြောက်ဦးမြို့။**

# နိဒါန်း

ရခိုင်မြေပြင်အနှံ့တွင် ကမ္ပည်းကျောက်စာများကိုတွေ့ရသည်။ အထူးသဖြင့် ရခိုင်ရှေးဟောင်းမြို့တော်ကြီးများထွန်းကားခဲ့သည့် မြောက်ဦးမြို့နယ်နှင့် ကျောက်တော်မြို့နယ်တို့တွင် အများအပြားတွေ့နိုင်သည်။

၎င်းကမ္ပည်းကျောက်စာများကို အင်္ဂလိပ်ခေတ်မှစ၍ စတင်စုဆောင်းခဲ့သည်။ ပထမဦးဆုံး စတင်စုဆောင်းခဲ့သူမှာ အင်္ဂလိပ်အရေးပိုင် လင်ကန်းကာတာဖြစ်သည်။ ၁၉၂၀-ခုနှစ်တွင် ဦးစံရွှေဘုကို ရခိုင်တိုင်း အထူးကျောက်စာဝန်အဖြစ် တာဝန်ထမ်းဆောင်စေခဲ့သည်။ ၎င်းသည် မြောက်ဦးနန်းတော်ကုန်းပေါ်တွင် ယာယီအဆောက်အဦးငယ် တစ်ခုဆောက်လုပ်ပြီး အစောင့်အမှုထမ်းတစ်ဦးခန့်ထားကာ ရှေးဟောင်း ကမ္ပည်းကျောက်စာများကို ရှာဖွေစုဆောင်းခဲ့သည်။ ဦးစံရွှေဘုသည် အရေးပိုင်တာဝန်ကိုပါ ပူးတွဲတာဝန်ယူရသဖြင့် ကမ္ပည်းကျောက်စာများစုဆောင်းခြင်းလုပ်ငန်းကိုတပည့်ဖြစ်သည့်ဆရာကြီးဦးဦးသာထွန်းမှကူညီဆောင်ရွက်ခဲ့သည်။ ဦးစံရွှေဘု ကွယ်လွန်ပြီးနောက် ရှေးဟောင်းသုတေသန ညွှန်ကြားရေးဝန် ဦးလူဖေဝင်းသည်ရှေးဟောင်းပစ္စည်းနှင့်ကမ္ပည်းကျောက်စာအချို့ကို ရှာဖွေစုဆောင်းခဲ့သည်။ အခါအားလျော်စွာသာ လာရောက်ရှာဖွေစုဆောင်းနိုင်သော ဦးလူဖေဝင်းကိုလည်း ဆရာကြီး ဦးဦးသာထွန်းမှပင် အပျော်တမ်းကူညီခဲ့သည်။

၁၉၅၅-ခုနှစ်တွင် မြောက်ဦးမြို့ ရှေးဟောင်းသုတေသနဌာနခွဲကို တိုးချဲ့ဖွင့်လှစ်ပြီး မြန်မာပဏ္ဍိတ်တစ်ဦးနှင့် အစောင့်အမှုထမ်းတစ်ဦး ခန့်ထားခဲ့သည်။ ပထမဦးဆုံးခန့်ထားခြင်းခံရသော မြန်မာပဏ္ဍိတ်မှာ ဦးဦးသာထွန်း ဖြစ်သည်။ ဆရာကြီးသည် ကျောင်းဆရာဘဝမှ ရှေးဟောင်းသုတေသနဌာနသို့ ကူးပြောင်းတာဝန်ထမ်းဆောင်ခဲ့သည်။ ဆရာကြီး တာဝန်လွှဲပြောင်းထမ်းဆောင်စဉ်က ရှေးဟောင်းဝတ္ထုပစ္စည်းနှင့်ကမ္ပည်းကျောက်စာအားလုံးပေါင်းမှာ ပစ္စည်း(၁၀)ခုသာရှိခဲ့သည်။ ၁၉၅၅-ခုနှစ်မှ ၁၉၇၇-ခုနှစ်ထိ ဆရာကြီး၏ ကြိုးစားရှာဖွေစုဆောင်းမှုကြောင့် ရှေးဟောင်းပစ္စည်းပေါင်း (ကမ္ပည်းကျောက်စာအပါအဝင်) (၅၀၀)ခန့်ကို စုဆောင်းနိုင်ခဲ့သည်။

ရှေးဟောင်းပစ္စည်းများကို မရပ်မနားရှာဖွေဖော်ထုတ် ထိန်းသိမ်းစောင့်ရှောက်ကာကွယ်ဆော်ဩခဲ့သော ဆရာကြီးသည် မသိနားမလည်သောသူများ၏ အမျိုးမျိုးအထင်လွဲမှားမှုများကိုခံရခြင်း၊ ကျောက်စာမင်ကူးယူခြင်းကို မမြင်ဖူးသော အာဏာပိုင်အချို့၏ ပိုစတာကတ်သည့် သောင်းကြမ်းသူဟုစွပ်စွဲပြီး ဖမ်းဆီးချုပ်နှောင်ခြင်းကို ခံရခြင်း၊ ဓားပြများ၏ လုယက်ချည်နှောင်မှုကိုခံရခြင်း၊ မသမာသောသူများ၏ ပြူစုစောင်းမြောင်း ဆဲဆိုကြိမ်းမောင်းခြင်း၊ အန္တရာယ်ပြုခြင်းများကိုခံရခြင်းများရှိခဲ့သည်။

ဆရာကြီးဦးဦးသာထွန်းသည် ရခိုင်ရှေးဟောင်းကမ္ပည်းကျောက်စာများကို ကိုယ်တိုင်ရှာဖွေစုဆောင်း ထိန်းသိမ်းကာကွယ် စောင့်ရှောက်ခဲ့သူ ကိုယ်တိုင်လေ့လာဖတ်ရှုဖော်ထုတ်ခဲ့သူ၊ သူတစ်ပါးကိုလည်း လေ့လာဖော်ထုတ် ထိန်းသိမ်းစောင့်ရှောက်အောင် စည်းရုံးလှုံ့ဆော်လမ်းညွှန်ပြသခဲ့သူတစ်ဦးပင် ဖြစ်ပါသည်။ ယနေ့ထိ

စုဆောင်းဖော် ထုတ်ဖတ်ရှုထားရှိသမျှသော ကမ္ပည်းကျောက်စာများအားလုံးလိုလိုမှာဆရာကြီး၏ အားထုတ်ကြိုးပမ်းမှု၏ ရလာဒ်များသာဖြစ်ကြပါသည်။

၁၉၇၇-ခုနှစ်တွင် ဆရာကြီးအငြိမ်းစားယူသွားသဖြင့် ၎င်း၏နေရာတွင် သားဖြစ်သူကျွန်တော် ဝင်ရောက်တာဝန်ထမ်းဆောင်ခဲ့ပါသည်။ ၁၉၇၇-ခုနှစ်မှ ၁၉၉၉-ခုနှစ်ထိ ကျွန်တော်၏ ကြိုးစားရှာဖွေစုဆောင်းမှုကြောင့် ရှေးဟောင်းပစ္စည်းပေါင်းတစ်သောင်းကျော်ခန့်ကို ရှာဖွေစုဆောင်းနိုင်ခဲ့ပါသည်။

ရခိုင်တွင်တွေ့ရသော ကမ္ပည်းကျောက်စာများကို လေ့လာဆန်းစစ်ကြည့်ပါက အက္ခရာသုံးမျိုးဖြင့် ရေးသားထားသည်ကို တွေ့ရသည်။ ဓညဝတီနှင့် ဝေသာလီခေတ် ကမ္ပည်းကျောက်စာများတွင် ဗြဟ္မီပွားအက္ခရာ၊ သက္ကဋ္ဌဘာသာ၊ ပါဠိဘာသာတို့ဖြင့် ရေးထိုးထားသည်။ ဝေသာလီခေတ်နှောင်းမှ သည်လေးမြို့ခေတ် မြောက်ဦးခေတ်ထိ ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာ၊ ပါဠိဘာသာများဖြင့် ရေးထိုးထားသည်။ မြောက်ဦးခေတ် အလယ်ပိုင်းလောက်တွင် ပါရှန်အက္ခရာ ပါရှန်ဘာသာဖြင့် ရေးထိုးထားသည်များကိုလည်း တွေ့ရသည်။

ရခိုင်၌ ကမ္ပည်းကျောက်စာအမျိုးမျိုးကိုတွေ့ရသည်။ အလှူမှတ်တမ်းစာ၊ ကျိန်စာ၊ ဆုတောင်းစာ၊ အမိန့်ပြန်တမ်းစာ၊ တရားစီရင်ဆုံးဖြတ်စာ၊ မဟာမိတ်ဖွဲ့သည့်စာ၊ မင်းစဉ်မင်းဆက်ကိုဖော်ပြသည့်စာ၊ ဘာသာယုံကြည်မှုနှင့် သက်ဆိုင်သည့်စာ၊ အတိတ်တသောင်၊ ယတြာ၊ ဗေဒင်နှင့် သက်ဆိုင်သည့်စာ စသည်ဖြင့် ထူးထွေဆန်းပြားလှသည့် ကျောက်စာများလည်းပါရှိပါသည်။

ယင်းစာများကိုစုပေါင်းပြီး ဆရာကြီးဦးဦးသာထွန်းသည် ရခိုင်အက္ခရာဆင်းသက်ရာ စာအုပ်(မူကြမ်း)ကို ရေးသားခဲ့သည်။ Dr Pamela Gutman နှင့် ဆရာကြီးဦးစံသာအောင်တို့သည်လည်း ဆရာကြီးဦးဦးသာထွန်း၏ အကူအညီဖြင့် ဗြဟ္မီအက္ခရာဖြင့်ရေးထိုးထားသည့် ကမ္ပည်းကျောက်စာများကို စာအုပ်စာတမ်းများ ရေးသားထုတ်ဝေခဲ့သည်။

ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးသားထားသည့် ကမ္ပည်းကျောက်စာများကို ဆရာကြီးဦးဦးသာထွန်းနှင့် ကျွန်တော်တို့သည် "ရှေးဟောင်းရခိုင် ကျောက်စာများ" စာအုပ်မူကြမ်းကိုရေးသားပြီး ၁၉၇၉ ခုနှစ်တွင် ရှေးဟောင်းသုတေသနဦးစီးဌာနသို့ တင်သွင်းခဲ့ပါသည်။ သို့သော် ယင်းစာအုပ် များတွင် ကျောက်စာမူရင်းအရေးအသားကို ယခုခေတ်အက္ခရာပုံစံဖြင့် ပြောင်းလဲရေးသားထားခြင်းသာဖြစ်၍ ဖတ်ရှုလေ့လာသူများအဖို့ အခက်အခဲရှိနိုင်ပါသည်။ ၁၉၉၁-ခုနှစ်တွင် ရှေးဟောင်းသုတေသနညွှန်ကြားရေးမှူးချုပ် ဦးသန်းမောင်၏စေခိုင်းချက်ဖြင့် ကျောက်စာတွင်ပါရှိသော ရခိုင်ပေါရာဏဝေါဟာရအချို့ကို ကျွန်တော်ဘာသာပြန်ဆိုပေးခဲ့ပါသည်။

မြောက်ဦးအလယ်ပိုင်းခေတ်တွင်ရေးသားခဲ့ကြသော ပါရှန်အက္ခရာဖြင့် ကမ္ပည်းကျောက်စာများနှင့်၊ ဒင်္ဂါးစာများကိုမူ ဘာသာဗေဒအခက် အခဲကြောင့် ယနေ့အထိ မည်သူမျှဖတ်ရှုလေ့လာတင်ပြခြင်းမျိုးမတွေ့ရသေးပါ။

ကျွန်တော့်ထံသို့ ကမ္ပည်းကျောက်စာနှင့်ပတ်သက်၍ စာတမ်းစုပြုရန်ကျောင်းသားများ၊ ဘုန်းတော်ကြီးများ၊ ကျောင်းဆရာများ မကြာမကြာ ရောက်ရှိကြပါသည်။ အတတ်နိုင်ဆုံး အကူအညီပေးခဲ့ပါသည်။

အများပြည်သူတို့ဖတ်ရှုလေ့လာနိုင်ရန် ကျွန်တော်ဤစာအုပ်ကိုရေးပါသည်။ စာအုပ်အမည်ကို 'ရခိုင်ကမ္ပည်းကျောက်စာများ'' ဟုခေါင်းစဉ်အမည်ပေးထားပါသည်။ ကျွန်တော်ယနေ့အထိ တွေ့ရှိသမျှသော ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးသားထားသော ရခိုင်မှကမ္ပည်းကျောက် စာများသာဖြစ်ကြပါသည်။ ကျောက်စာများကို ခေတ်ကာလအလိုက်မခွဲခြားတော့ဘဲ ခုနှစ်သက္ကရာဇ်အလိုက်သာ အစဉ်လိုက်ရေးသားတင်ပြထားပါသည်။ ကျောက်စာအရေအတွက်မှာ တစုံတခုသော အတိုင်းအတာတစ်ခုထိရှိနေသဖြင့် စာအုပ်တစ်အုပ်တည်းဖြင့် ရေးသားထုတ်ဝေရန်မှာ အခက်အခဲရှိပါသည်။ သို့နှင့် အမှတ်စဉ်အလိုက် ထုတ်ဝေသွားပါမည်။ ဤစာအုပ်မှာ

ပထမဦးဆုံးထုတ်ဝေသော 'ရခိုင်ကမ္ပည်းကျောက်စာများ'' အမှတ်စဉ်(၁)သာ ဖြစ်ပါသည်။ နောင် (၂)နှင့် (၃)ကိုလည်း ပြုစုထုတ်ဝေရန် ရည်ရွယ်ထားပါသည်။ (ဦးဦးသာထွန်းနှင့် ဦးကျော်ထွန်းအောင်တို့ ဖတ်ရှုလေ့လာ မှတ်တမ်းတင်ထားခဲ့သမျှကို အကုန်အစုံ တစ်အုပ်တည်းဖြင့် ထည့်သွင်းထုတ်ဝေထားပါသည်။ ခေတ်ကာလ အလိုက်လည်း အခန်းပြန်ခွဲထားပါသည်။ စီစဉ်သူ)

ဤစာအုပ်တွင် လေ့လာဖတ်ရှုသူတိုင်း မိမိကိုယ်တိုင်လေ့လာနိုင်ရန် ကမ္ပည်းကျောက်စာများတွင်ရေးထိုး ထားသော အက္ခရာပုံစံများ၊ ကိန်းဂဏန်းပုံစံများ၊ အရေးအသားပုံစံများကို အသေးစိတ်ထုတ်နှုတ် တင်ပြ ထားပါသည်။ ကျောက်စာတစ်ချပ်ကို လေ့လာသည့်အခါ ပိုမိုလွယ်ကူစွာ နားလည်သဘောပေါက်စေရန်လည်း ကျောက်စာမင် ကူးမူရင်း၊ ယခုခေတ်သုံးအက္ခရာဖြင့် ပြောင်းလဲရေးသားချက်၊ ယခုခေတ်အရေးအသားဖြင့် ပြန်လည်ရေးသားချက်၊ ကျောက်စာတွင်ပါရှိသောပေါရာဏ၊ဝေါဟာရ၊ပါဠိစကားလုံးအဓိပ္ပာယ်များ၊ ကျောက်စာ နှင့် ပတ်သတ်သည့် အကြောင်းအရာများ၊ စသည်တို့ကို အသေးစိတ်ရှင်းလင်းရေးသားထားပါသည်။ ကိုယ်တိုင် ကိုယ်ကျ လေ့လာလိုကြ သူများအတွက် အလွယ်တကူရှာဖွေတွေ့ရှိနိုင်စေရန်အတွက် ကျောက်စာကို မူလတွေ့ရာ အရပ် ယခုတည်ရှိသည့် နေရာများကိုပါ ဖော်ညွှန်းရေးသားထားပါသည်။

သို့သော် အချို့သောကျောက်စာများမှာ ပျက်စီး/ ပျောက်ဆုံးသွားခြင်း၊ ကူးယူထားသော ကျောက်စာမင်ကူး များမှာလည်း ပျက်စီး/ပျောက်ဆုံးသွားခြင်းများရှိ၍ ကျောက်စာမင်ကူးအချို့ကို မဖော်ပြနိုင်လိုက်သည်ကို များစွာ ဝမ်းနည်းမိပါသည်။ အချို့သော ကျောက်စာများမှာ အဖျက်အဆီးခံရခြင်း ရာသီဥတုဒဏ်ကြောင့် လုံးဝပျက်ပြယ်သွားခြင်း၊ တပိုင်းတစစီအရေးအကြောင်းများထင်နေသေးသော်လည်းလုံးဝမဖတ်သာ၊ ဖတ်မရနိုင် လောက်အောင်ထိ ပျက်စီးနေခြင်းများရှိပါသည်။

ကောလိယမင်း ကောဇာသက္ကရာဇ် (၄၈၀-၄၈၅) ရေးထိုးခဲ့သော လောင်းကြက်တောင်မော် ကျောက်စာ ကြီးကို ဤစာအုပ်တွင် ထည့်သွင်းဖော်ပြလိုသော်လည်း ကူးယူဖတ်ရှုရန် အခက်အခဲအမျိုးမျိုးတို့ကြောင့် မဖော်ပြနိုင် လိုက်သည်များကို များစွာစိတ်မကောင်း ဖြစ်မိပါသည်။ နောက်ထပ်ထုတ်ဝေသွားမည့်စာအုပ်တွင် ဖော်ပြနိုင်ရန် ဆက်လက်ကြိုးစားပါဦးမည်။ ဤကျောက်စာတွင် ရေးထိုးထားသော အက္ခရာပုံသဏ္ဌာန်များမှာ ဗြဟ္မီအက္ခရာမှ ရက္ခဝဏ္ဏအက္ခရာသို့ ကူးပြောင်းလာသည့် အက္ခရာပုံသဏ္ဌာန်အချို့ကို တွေ့ရှိထားပါသည်။ ဤအချက်မှာ အရေးကြီးသောအချက်ဖြစ်၍ အသေးစိတ်လေ့လာဖော်ထုတ်လိုစိတ်လည်း ရှိနေပါသည်။

ဤစာအုပ်တွင်ပါရှိသော ကမ္ပည်းကျောက်စာများကို ကိုယ်တိုင် အသေးစိတ်မင်ကူးယူခြင်း၊ ဖတ်ရှုခြင်း၊ လက်လှမ်းမီသမျှ ကျမ်းဂန်စာပေများနှင့် ညှိနှိုင်းတိုက်ဆိုင်ခြင်း၊ ပျက်စီးပျောက်ကွယ်သွားသော ကျောက်စာ အချို့ကို စာအုပ်စာတမ်း မှတ်တမ်းမှတ်ရာများမှရှာဖွေပြီး ကူးယူဖတ်ရှုခြင်းများ ပြုလုပ်ခဲ့ပါသည်။ သို့သော် ကျွန်တော်၏ကြိုးစားမှုမှာ လိုအပ်သည်များ ရှိနေဦးမည်ဖြစ်ပါသည်။ အကယ်၍ အမှားအယွင်းများ၊ လိုအပ်ချက် များရှိပါက ဖြည့်စွက်ကူညီပေးကြပါရန်မေတ္တာရပ်ခံအပ်ပါသည်။ထပ်မံတွေ့ရှိနိုင်သော ရခိုင်ကမ္ပည်းကျောက်စာ များပေါ်ပေါက်လာပါကလည်း ကျွန်တော်အားပံ့ပိုးကူညီသောအားဖြင့်အကြောင်းကြားပေးပါရန် ဖတ်ရှုလေ့လာ ပေးမည်ဖြစ်ပါကြောင်း မေတ္တာရပ်ခံအပ်ပါသည်။

**ကျေးဇူးရှင်မိဘနှစ်ပါးအား ရှိခိုးကန်တော့လျက်**

**ကျော်ထွန်းအောင်**



၁း၁။ မောင်ရင်ဖြူ၏ ဆင်းတုတော်မွေခံစာ
သက္ကရာဇ် ၂၀၉ ခု (AD 847)

# ၁း၁။ မောင်ရင်ဖြူ၏ ဆင်းတုတော်ဓမ္မခံစာ

## သက္ကရာဇ် ၂၀၉ ခု (AD 847)

**ကမ္ပည်းစာမူရင်းအရေးအသား**

၁။ သက္ကရာဇ်၂၀၉ခုကဆုန်လွှန်း၆ရက်တနလ်ာငါနာရီကျော်သာ . . . ရောက် . . ကြီသွန်အဲ့သည်မော်ရ်ံဖြူကောင် . ဘုရားပဉ္စလော်ဟာပြီးပြည့်စုံ၏ဘုရားပြုသျောအကျိဝ်အားဖြင့်ဘုရားမချွတ်ဖြစ်စေသျှ်ဝ်။

**ခေတ်ကာလသုံးအရေးအသား**

၁။ သက္ကရာဇ် ၂၀၉ ခု ကဆုန်လွှန်း ၆ ရက် တနလ်ာ ငါးနာရီကျော်သာ . . . ရောက် . . ကြေးသွန်း၏သည် မောင်ရင်ဖြူ ကောင်း(မှု) ဘုရားပဉ္စလောဟာ ပြီးပြည့်စုံ၏ ဘုရားပြုသော အကျိုးအားဖြင့် ဘုရားမချွတ်ဖြစ်စေသောဝ်။

**ကမ္ပည်းစာပါအရေးအသားပေါ်ရာဏ၊ ဝေါဟာရ၊ အဓိပ္ပါယ်များ**

၁။ ကြီး = ကြေး
၂။ အဲ့ = ၏
၃။ ပဉ္စလော်ဟာ = ပဉ္စလောဟာ = ကြေးနီ + နာ + ဘော် + ဂျွတ် + သံ သတ္တုငါးမျိုးအား အချိုးကျရောစပ်ထားသော ဘုရားဆင်းတုကိုခေါ်သည်။
၄။ သျှ်ဝ် = သောဝ် = သော်

**ကမ္ပည်းစာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မောင်ရင်ဖြူသည် သက္ကရာဇ် ၂၀၉-ခု ကဆုန်လွှန်း ၆-ရက် တနင်္လာနေ့ ငါးနာရီကျော်တွင် ပဉ္စလောဟာ ရတနာမျိုးငါးပါးဖြင့် ဘုရားသွန်းလုပ်လှူဒါန်းခဲ့ကြောင်း ရေးထိုးထားခြင်းဖြစ်သည်။ ဘုရားဆုကိုလည်း ပန်ထားသည်။

ကမ္ပည်းစာပါမောင်ရင်ဖြူမှာ လေးမြို့ခေတ် ပဉ္စာခေတ်မှ စတုတ္တမြောက်မင်းတစ်းပါးဖြစ်သည့် မင်းရင်ဖြူ ဖြစ်သည်။ သူ၏ နန်းစံသက္ကရာဇ်မှာ ကောဇာ ၂၀၅-၂၃၅ (AD 843-873) ဖြစ်သည်။ ကမ္ပည်းစာပါ သက္ကရာဇ် ၂၀၉ (AD 847)မှာလည်း မင်းရင်ဖြူ၏ နန်းစံသက္ကရာဇ်အတွင်း ကိုက်ညီနေသည်။ နန်းစဉ် ဘုရားတစ်ဆူဖြစ်သည်။ ယခု စစ်တွေမြို့ ခေါင်းလောင်းကျောင်းတွင် ရှိသည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။ဆင်းတုတော်၏ ဉာဏ်တော်အမြင့် ၁၄½ လက်မ၊ ရင် ၇½ လက်မ၊ ဒူးစွန် ၁၁ လက်မခန့်ရှိသည်။



၁း၂။ နန်းကျားမတ်ရပ်တော် ဘုရားပလ္လင်စာ
(သက္ကရာဇ် ၄၅၁)ခု (AD 1089)

## ၁း၂။ နန်းကျားမတ်ရပ်တော် ဘုရားပလ္လင်စာ
## (သက္ကရာဇ် ၄၅၁)ခု (AD 1089)

**ကျောက်စာမူရင်းအရေးအသား**

၁။ သကြစ်၄၅၁ခုဝါကျွတ်လွှုတ်ငါရက်စနီနိ

၂။ တွင်ပြီ၏ . . ငါပျိဝ် . . . ကိုဝ်ဖျက်စိန်သ်ုသူမူ

၃။ . . . တွင်ငါမူ . . . ကောင် . . . ငါပီ၏

၄။ ကောင်မူ . . . ကို . . . . . . . . . .

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၄၅၁ ခု ဝါကျွတ်လဆုတ်ငါးရက် စနေနေ့

၂။ တွင်ပြီး၏ . . ငါပြု . . . ကို ဖျက်ဆီးသည့်သူမူ

၃။ . . . တွင် ငါမူ . . . ကောင်း . . . ငါပေး၏

၄။ ကောင်းမူ . . . ကို . . . . . . . . . .

**ကျောက်စာပါ အရေးအသား၊ ပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပါယ်များ**

၁။ သကြစ် = သက္ကရာဇ်

၂။ ဝါကျွတ် = သီတင်းကျွတ်

၃။ စနီ = စနေ

၄။ နိ = နေ့

၅။ ငါပျိဝ် = ငါပြု

၆။ ကိုဝ် = ကို

၇။ ဖျက်စိန် = ဖျက်ဆီး

၈။ သ်ု = သည် = သည့်

၉။ ပီ = ပီး = ပေး

**ကျောက်စာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ် နန်းကျားကျေးရွာအနီး နန်းကျားဘုရားသိမ်တွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင် ရှိသည်။ မူလက သက္ကဋဘာသာ ဗြဟ္မီအက္ခရာဖြင့်ရေးထိုးထားသော စာပေါ်တွင် ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ထပ်ဆင့်ထိုးထားသဖြင့် ဆင့်ထိုးကျောက်စာမျိုးဖြစ်သည်။ မူလရေးစာလုံးနှင့် နောက်ရေးစာလုံးများ ရှုပ်ထွေးနေ၍ ဖတ်ရှုရသည်မှာ အလွန်ခဲယဉ်းလှသည်။

ကျောက်စာတွင်ပါရှိသည့် သက္ကရာဇ် ၄၅၁ (AD 1089)ခုနှစ်မှာ ပဉ္စာမင်းဆက် မင်းဘုန်းသန်(၄၃၈-၄၅၂)(AD 1076-1090) လက်ထက်ဖြစ်သည်။ အလှူမှတ်တမ်းနှင့်ကျိန်စာများ ရေးထိုးထားသည်။ ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာဖြင့် ရေးထိုးထားသည်။





၁း၃။ ဘူးတောင်းကွဲဘုရားကျောက်စာ

သက္ကရာဇ် ၄၅၂ (၁၄၅၂) ခု (AD 11 -ရာစု)

## ၁း၃။ ဘူးတောင်းကွဲဘုရားကျောက်စာ
### သက္ကရာဇ် ၄၅၂(၁၄၅၂) ခု (AD 11 - ရာစု)

<u>ကျောက်စာမူရင်းအရေးအသား</u>
<u>(မျက်နှာဘက်)</u>

၁။ သက္ကြစ်၄၅၂ခုတပေါင်လဆန်၄ရက်ဗုတ · နိ
၂။ တေ · · · · · · · · · · · · · ရှာသူရှာသာ · · ·
၃။ တိုဝ် · · · · · · · · · · · · တွင်လွဲ · · · ·
၄။ · · · · · · · · · · · · · · ကျိ · · · ·
၅။ · · · · · · · · · · · · · ကိုဝ်တွေရာမာ · · ·
၆။ · · · · · · · · · · · · · မဟိကြဆိုဝ်၍ · · ·
၇။ · · · · · · · · · · · ဓားတဆေတခုမဝေ ·
၈။ ကျာ်လေ · · · · · · · ရွေသူတဆေတခု · · ·
၉။ ရိုဝ်ကျတ · · · · · မဟိုကြလျှင်အနီကျလျှင် · ·
၁၀။ းငွေ၄ပ်ယောက်ျာ · · · သတ်မူတိုဝ်ကိုဝ်ကားမ · ·
၁၁။ · · · · ပုဂံအတိုင်မဂ် · · · · · · · · ·
၁၂။ · · · · · ိုဝ်ငေ · · · · · · · · · ·

<u>(ကျောဘက်)</u>

၁။ · · · · · ယာဝ်မဟိသ · · · · · · ·
၂။ · · · လဲအတွက်ဂေါဂ်သော်ဘဝဂ · · · ·
၃။ · · · မာန်အောင်စးလှ်ပဲစိလှ်အူစိလှ်တဘာဂ်မြေဆေ
၄။ · ဝွဲ · · · လဲဂ်သ့်ပံဖဲသံပူလှ်မြိဆေမဟိတောသွေကို
၅။ ယာဆိမဟိရှာသွေတိုဝ်မါလဲမြေဆေမဟိမြုလေသုံနှစ်မြေဆေ
၆။ မဟိမသေဂိုရောမာဆာအနေ်မဟိလာဂ်ရာကျိရာမာစနဲစးမဟိအခြေမာလဲ
၇။ ဂြိုရ်ဝတ်လှ်ကင်မဟိသဂြိသိသေးဂိုဝ်ရောင်ဝေသောခေါင်မဟိအခြေမာလဲ
၈။ တချောင်တွင်မင်စးမြီဆိ၅ထောင်အစးတောင်မြိုဝ်ကွက်ရှာခေါင်စစ်ကဲသ
၉။ · · ကတ်ကြိဖုံကြိတိုဝ်မြိဆိ၍တြားခွံကျိဟိလိမဲလွတ်ရိုဝ်သူဂြိမင်သံမတ်
၁၀။ · · · · စစ်တဟာမတစ်ရလိရဂးစစ်ပါငါရိုဝ်နှင်ရှာနိမှဂိုတ် · ·
၁၁။ · · · · · · ပ်စိမော်ကွံဂိုန်တိုင်၅ဝမင်မသောဂျိ · ၆ ထို · · · ·
၁၂။ · · · · ဖျဂငသေ · · · · · · · · · ·

**ခေတ်သုံးအရေးအသား**

**(မျက်နှာဘက်)**

၁။ သက္ကရာဇ် ၄၅၂(၁၄၅၂)ခု တပေါင်းလဆန်း ၄ ရက် ဗုဒ္ဓ · နေ့

၂။ တေ · · · · · · · · · · · · · ရှာသူရှာသား · · ·

၃။ တို့ · · · · · · · · · · · · · တွင်လွဲ · · · ·

၄။ · · · · · · · · · · · · · · · ကျိ · · · ·

၅။ · · · · · · · · · · · · · ကိုတွေ့ရာမှာ

၆။ · · · · · · · · · · · · · မရှိကြဆို၍ · · ·

၇။ · · · · · · · · · · · ခါးတစ်ဆယ့်တစ်ခုမဝေ ·

၈။ ကျော်လေ · · · · · · · · ရွှေသူတစ်ဆယ့်တစ်ခု · · ·

၉။ ရိုကျတ · · · · · မရှိကြလျှင် အနေကျလျှင် · ·

၁၀။ း ငွေ ၄ ကျပ် ယောက်ျား · · · သတ်မှုတို့ကိုကားမ ·

၁၁။ · · · · ပုဂံအတိုင်မင် · · · · · · · · ·

၁၂။ · · · · · ဋ်ဝိဧ · · · · · · · · · ·

**(ကျောဘက်)**

၁။ · · · · · ယာဝ်မရှိသ · · · · · · ·

၂။ · · · လဲအထက်ကောင်းကင်သော် ဘဝက · · · ·

၃။ · · · မာန်အောင်စားလယ် ပဲစိလယ် အူစိလယ် တစ်ဖက်မြေဆေ

၄။ · ဥ် · · · လယ်ကသည် ပန်းဖဲသံပူလယ် မြေဆေမရှိတော သွေးကို

၅။ ယာဆီမရှိ ရှာသွေးတို့မှာလည် မြေဆေမရှိ မြိုးလယ် သုံးနှစ်မြေဆေ

၆။ မရှိမသေ ဂိုရောမှာဆားအင်မရှိလာဂ်ရာ ကျိရာမှာစနဲစားမရှိ အခြေမှာလည်

၇။ ဂြိုရ်ဝတ်လယ် ကင်းမရှိ သူကြီးသိသည်ကို ရောင်းဝယ်သောခေါင်းမရှိ အခြေမှာလည်

၈။ တစ်ချောင်းတွင် မင်းစားမြေဆီ ၅ ထောင်အစား တောင်မြို့ကွက်ရှာထောင်စစ်ကဲသ

၉။ · · ကတ်ကြီးဘုန်းကြီးတို့ မြေဆီ၍ တရားခွန်ကြေရှိလိမ္မည် လွှတ်တော်သူကြီးမင်းသံမတ်

၁၀။ · · · · စစ်တပါးမတိုက်ရလေရကား စစ်ပါငါတို့နှင့် ရှာနီးမှတိုက် · ·

၁၁။ · · · · · · ပ်စိမော်ကွန်းကျိန်တိုင် ၅၀ မင်းမသောကျိ(န်)သောထို · · · ·

၁၂။ · · · · ဖျက်သော · · · · · · · · · ·

**ကျောက်စာပါအရေးအသား၊ ပေါရဏ၊ ဝေါဟာရအဓိပ္ပါယ်များ**

၁။ သက္ကြစ် = သက္ကရာဇ်

၂။ ဗုတ္တဟူနိ = ဗုဒ္ဓဟူးနေ့

၃။ ကိုဝ် = ကို

၄။ မဟိ = မဟို = မရှိ

၅။ ဆိုဝ် = ဆို

၆။ ခား = ခါး

၇။ တဆေတခု = တစ်ဆယ့်တစ်ခု
၈။ အနီကျလျှင် = အနေကျလျှင်
၉။ ငွေ၄ပ် = ငွေ ၄၀၀ကျပ်
၁၀။ မာန်အောင်စး = မာန်အောင်စား
၁၁။ လှ် = လယ်
၁၂။ သှ် = သည်
၁၃။ ပံဖဲ = ပန်းပဲ
၁၄။ တဘဂ် = လယ်တစ်သျှည်း၏ထက်ဝက် (၁/၂ လယ်)
၁၅။ မြိ = မြီ = မြေ
၁၆။ မြံလေ = မြံလယ် = မလုပ်မကိုင်ဘဲ ပလပ်ထားသောလယ်မြေ
၁၇။ မာ = မှာ
၁၈။ အငန်မဟိ = အငံမရှိ
၁၉။ ကျိရာ = ကျီရာ = မင်းဘဏ္ဍာ စပါးကျီဆောက်လုပ်သည့်နေရာ
၂၀။ စနဲစး = စနဲစား
၂၁။ မင်းစး = မင်းစား
၂၂။ ၅ထောင်အစး = ၅၀၀၀(ငါးထောင်)အစား
၂၃။ ရွာခောင်စစ်ကဲ = ရွာထောင်စစ်ကဲ
၂၄။ ဖုံကြိ = ဘုန်းကြီး
၂၅။ တြးခွံ = တရားခွန်
၂၆။ ကျိဟိလိမဲ = ကျီဟိလိမေ = စပါးကျီရှိလိမ့်မည်
၂၇။ လွှတ်ရှိဝ်သူကြိမင်သံမတ် = လွှတ်တော်သူကြီးမင်းသံအမတ်
၂၈။ စစ်တဟာမတစ်ရလိရဂး = စစ်တပါးမတိုက်ရလေရကား
၂၉။ ငါရှိဝ် = ငါတို့
၃၀။ ရွာနိမှ = ရွာအနီးမှ
၃၁။ မော်ကွံ = မော်ကွန်း

**ကျောက်စာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

သက္ကရာဇ် ၄၅၂(၁၄၅၂)ခု၊ တပေါင်းလဆန်း ၄-ရက်၊ ဗုဒ္ဓဟူးနေ့တွင်ရေးထိုးထားသော လယ်မြေအလှူမှတ်တမ်းဖြစ်သည်။ ကြောဘက်၊ ရင်ဘက် နှစ်မျက်နှာလုံးတွင် စာရေးထိုးထားသည်။ အလွန်ပျက်စီးနေပြီဖြစ်၍ စာကြောင်းရေ မည်မျှပါရှိသည်ကို မမှန်းဆနိုင်ပြီ။ ရခိုင်ပြည်နယ်၊ မာန်အောင်မြို့နယ်၊ ဘူးတောင်းကွဲဘုရားအနီးတွင် တွေ့ရှိသည်။ ယခု စစ်တွေမြို့မှ ဆရာတော်ဦးဝိလာသကျောင်းတိုက်တွင်ရှိသည်။

ကျောက်စာပါသက္ကရာဇ် ၄၅၂(AD 1091) အရဆိုလျှင် လေးမြို့ခေတ် ပဉ္စာမင်းဆက်မင်းပတိ(ကောဇာ ၄၅၂-၄၆၅) (AD -1090-1103)လက်ထက်တွင် ရေးထိုးခဲ့သောစာဖြစ်သည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။မူလထိုးစာမျိုးဖြစ်သည်။



၁း၄။ သူဌေးပျောင်ကျောက်စာ
သက္ကရာဇ် ၅၇၃ ခု (AD 1212)

# ၁း၄။ သူဌေးပျောင်ကျောက်စာ
## သက္ကရာဇ် ၅၇၃ ခု (AD 1212)

**ကျောက်စာမူရင်းအရေးအသား**

၁။ သာရမင်စောစွေ
၂။ သူသဌေပျောင်
၃။ မိအိန်စိုသာဦကျော်
၄။ သိခေါ်ကျွမ်းမှဘုရာ
၅။ ရှင်ခတ်တော်ပဒမြာ
၆။ သက္ကရာဇ်၅၇၃ခုတခေ
၇။ ဘာင်လပြည်ဒနိတေသည်။

**ခေတ်ကာလအရေးအသား**

၁။ သာရမင်းစောစည်
၂။ သူ သူဌေးပျောင်
၃။ မိအိမ်စိုး သားဦးကျော်
၄။ သီဟိုဠ်ကျွန်းမှ ဘုရား
၅။ ရှင်ခါတ်တော် ပတ္တမြား
၆။ သက္ကရာဇ် ၅၇၃ ခု တခေ
၇။ ပေါင်းလပြည့် တနင်္ဂနွေနေ့တည်သည်။

**ကျောက်စာပါအရေးအသား၊ ပေါရဏ၊ ဝေါဟာရအဓိပ္ပာယ်များ**

စွေသူ = စည်သူ
သဌေ = သူဌေး
သိခေါ်ကျွမ်း = သိန်းခိုကျွန်း = သီဟိုဠ်ကျွန်း
ဒနိ = တနင်္ဂနွေနေ့
တေသည် = တည်သည်။

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

သက္ကရာဇ် ၅၇၃ ခု တပေါင်းလပြည့် တနင်္ဂနွေနေ့တွင် ရေးထိုးခဲ့သော သူဌေးပျောင်၏ အလှူမှတ်တမ်းစာဖြစ်သည်။ ကျောက်စာပါ သက္ကရာဇ် ၅၇၃(AD 1212) ခုနှစ်အရဆိုလျှင် လေးမြို့ခေတ်နေရဉ္စရာတောင်ငူမြို့၏ ၁၁-ဆက်မြောက် မင်းကမ္ဘာလောင်ငယ် (ကောဇာ-၅၇၂-၅၈၂) (AD -1210-1220) လက်ထက်ရေးထိုးခဲ့သောစာဖြစ်သည်။ မြောက်ဦးမြို့ နယ် ကျောက်ကျပ်ကျေးရွာ စေတီတောင်စေတီမှရရှိသည်။ ယခု မဟာမုနိပြတိုက်တွင်ရှိသည်။ ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။



၁း၅။ နန်းကျားကြီးဘုရားကျောက်စာ
သက္ကရာဇ် ၆၀၈ ခု (AD 1246)

## ၁း၅။ နန်းကျားကြီးဘုရားကျောက်စာ

### သက္ကရာဇ် ၆၀၈ ခု (AD 1246)

<u>ကျောက်စာအရေးအသား</u>

၁။ သကြစ်၆၀၈ . . . . . . . . . . . . .
၂။ စ်အက . . . . . . . . . . . . .
၃။ စချောင်း . . . . . . . . . . . . . .
၄။ . . . . . . . . . . . . . . .
၅။ မိဖုရား . . . . . . . . . . . . .
၆။ . . . . . . . . . . . . . . . .
၇။ . . . . . . . . . . . . . . . .
၈။ . . . ပေ . . . . . . . . . . . . . .
၉။ . . ချောင်ဖျာ . . . . . . . . . . . .
၁၀။ . . . . . . . . . . . . . . .
၁၁။ . . . . . . . . . . . . . . .
၁၂။ . . . . . . . . . . . . . . .
၁၃။ ဇေ))လျူလေ . . . . . . . . . . . . .
၁၄။ . . . . . . . . . . . . . . .
၁၅။ . . တဖက် . . . . . . . . . . . . .
၁၆။ . . . . . . . . . . . . . . .
၁၇။ ၏ . . . . . . . . . . . . . . . .
၁၈။ တ . . . . . . . . . . . . . . .
၁၉။ တဖက် . . . . . . . . . . . . . . .
၂၀။ တော၏ . . . . . . . . . . . . . . .
၂၁။ ဖျာတွင် . . . . . . . . . . . . . . .
၂၂။ တန်ဆာ . . . . . . . . . . . . . . .
၂၃။ တယောက် . . . . . . . . . . . . . .
၂၄။ ပြု၏ . . . . . . . . . . . . . . .
၂၅။ ဆောက် . . . . . . . . . . . . . .
၂၆။ သျှင်ဖု . . . . . . . . . . . . .
၂၇။ ပျင်၏ . . . . . . . . . . . . .
၂၈။ အကြင် . . . . . . . . . . . . . . .
၂၉။ သေကား . . . . . . . . . . . . . .
၃၀။ သိစေ . . . . . . . . . . . . .
၃၁။ သတည် . . . . . . . . . . . . . . .

၃၂။ အဝိစိ . . . . . . . . . . . . . .
၃၃။ အမြိုက် . . . . . . . . . . . . . .
၃၄။ ကြာ၏ . . . . . . . . . . . . . .
၃၅။ . . . . . . . . . . . . . . . . .
၃၆။ . . . . . . . . . . . . . . . . .
၃၇။ . . . အသက်ထက် . . . . . . . . . .
၃၈။ . . . ဖျက်စီ . . . . . . . . . . .
၃၉။ . . . ဖျက်စီ . . . . . . . . . . .
၄၀။ . . . . . . . . . . . . . . . .

**<u>ခေတ်ကာလအရေးအသား</u>**

၁။ သက္ကရာဇ် ၆၀၈ . . . . . . . . . . . .
၂။ စ်အက . . . . . . . . . . . . .
၃။ စချောင်း . . . . . . . . . . . . . .
၄။ . . . . . . . . . . . . . . . .
၅။ မိဖုရား . . . . . . . . . . . . . .
၆။ . . . . . . . . . . . . . . . .
၇။ . . . . . . . . . . . . . . . .
၈။ . . . ပေ . . . . . . . . . . . . .
၉။ . . ချောင်းဖျား . . . . . . . . . . . . .
၁၀။ . . . . . . . . . . . . . . . . .
၁၁။ . . . . . . . . . . . . . . . . .
၁၂။ . . . . . . . . . . . . . . . . .
၁၃။ ဇေ))လျူလေ . . . . . . . . . . . .
၁၄။ . . . . . . . . . . . . . . . . .
၁၅။ . . တဖက် . . . . . . . . . . .
၁၆။ . . . . . . . . . . . . . . . . .
၁၇။ ၏ . . . . . . . . . . . . . . . .
၁၈။ တ . . . . . . . . . . . . . . .
၁၉။ တစ်ဖက် . . . . . . . . . . . . . .
၂၀။ တည်၏ . . . . . . . . . . . . . .
၂၁။ ဖျားတွင် . . . . . . . . . . . . . .
၂၂။ တန်ဆာ . . . . . . . . . . . . . .
၂၃။ တစ်ယောက် . . . . . . . . . . . . . . .

၂၄။ ပြု၏ . . . . . . . . . . . . . . . .
၂၅။ ဆောက် . . . . . . . . . . . . . . . .
၂၆။ သျှင်ဖု . . . . . . . . . . . . . . .
၂၇။ ပျင်၏ . . . . . . . . . . . . . . .
၂၈။ အကြင် . . . . . . . . . . . . . . .
၂၉။ သည်ကား . . . . . . . . . . . . . . .
၃၀။ သိစေ . . . . . . . . . . . . . .
၃၁။ သတည်း . . . . . . . . . . . . . . .
၃၂။ အဝိစိ . . . . . . . . . . . . . .
၃၃။ အမြိုက် . . . . . . . . . . . . . . .
၃၄။ ကြာ၏ . . . . . . . . . . . . . . .
၃၅။ . . . . . . . . . . . . . . . . .
၃၆။ . . . . . . . . . . . . . . . . .
၃၇။ . . . အသက်ထက် . . . . . . . . . . .
၃၈။ . . ဖျက်စီး . . . . . . . . . . . . .
၃၉။ . . ဖျက်စီး . . . . . . . . . . . . .
၄၀။ . . . . . . . . . . . . . . . . .

<u>**ကျောက်စာပါအရေးအသား၊ ပေါရဏ၊ ဝေါဟာရအဓိပ္ပာယ်များ**</u>
သကြစ် = သက္ကရာဇ်

<u>**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**</u>

မြောက်ဦးမြို့နယ်၊ နန်းကျားကျေးရွာ၊ အရှေ့ဘက်စေတီတစ်ဆူတွင် စတင်တွေ့ရှိသည်။ ယခု နန်းကျားဘုရားသိမ်တော်တွင်ရှိသည်။ အလွန်ပျက်စီးနေပြီဖြစ်၍ စာကြောင်းရေမည်မျှပါရှိပြီး မည်သည့် အကြောင်းအရာများကို ရေးထိုးထားသည်ကို အတိအကျပြောဆိုရန် ခဲယဉ်းသော်လည်း အလှူမှတ်တမ်းတစ်ခုဖြစ်ကြောင်း ပြောဆိုနိုင်သည်။

ကျောက်စာပါသက္ကရာဇ် ၆၀၈(AD 1246) ခုနှစ်မှာ လေးမြို့ခေတ်မြို့တော် နေရဉ္စရာတောင်ငူမြို့၏ နောက်ဆုံးမင်း ငနလုံး (သက္ကရာဇ် ၆၀၈-၆၁၂)(AD -1246-1250)နှင့် တိုက်ဆိုင်နေသည်။

ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။

## ၁း၆။ အိန္ဒိယနိုင်ငံဗုဒ္ဓဂါယာရှိ သီရိဓမ္မရာဇဂုရုကျောက်စာ
### သက္ကရာဇ် ၆၅၇-၆၆၀ ခု (AD 1295-1298)

**ကျောက်စာမူရင်းအရေးအသား**

၁။ ပုရှာသ္ခိင်သာသနာ၂၁၈လွန်လိယ်ပြိသောအခာန္ဟိက်သံဗုတိက္ဍုန်ကိုဝ်အစိုဝ်ရသောသိ
၂။ ရိဓမ္မာသောကမည်သောမင်ကြိစေတိယှတ်သောင်၄ထောင်အဖိုန္ဟိက်
၃။ ဆွတ်ဖုန်ပိယ်ရာပါယာသဋ္ဌထန်ကိုဝ်အခာလိယ်မြင်ပျက်
၄။ ရယ်မြင်သောသ္ခိင်ပင်သက္ကုကြိတယောက်ထိုဝ်ပြိယ်တချက်ပျ
၅။ က်ခယ်ရာကာသတိုဝ်မင်ပြုဧ်ထိုဝ်ပြိတချက်ပျက်ခယ်တုံ
၆။ ရကာဆင်ဖြုသ္ခိင်တြျာမင်ကြိမိမိကိုဝ်စာဆရာသိရိဓမ္မ
၇။ ရာဇာကုရုကိုဝ်စိယ်တ်မူလတ်သောအခာန္ဟိက်ပါလ
၈။ တ်သောတပေအ်သာသိရိကကဿပသည်လုပ်အံသဥစ္စာဟိလျက်
၉။ မလုပ်ရတတ်ရကာဝနတသိသ္ခိင်ထေရ်ကိုဝ်သွခံစိယ်ရကာပ
၁၀။ တသိန်မင်ဟုဧ်လုပ်စိယ်ကာမှသ္ခိင်ငဲကိုဝ်မှတ်ကြိထေကို
၁၁။ အခွင်ပုရကာသကရစ်၆၅၇ခုပြာသိုဝ်လ္ဆန်၁၀ပက်ဖ်နိယ်ပြုတုံဧ်
၁၂။ သကရစ်၆၆၀တန်ဆောင်မုန်လ္ဆန်၈ပက်တနှင်ကနူနိလှူစသော
၁၃။ တခွန်ကုကာတခွန်မျာတိုဝ်ကိုဝ်လေပုစဝ်ဧ်သင်ပုတ်ထောင်ဆိမိ
၁၄။ ထောင်တိုဝ်အဂြိန်မျာစွာလျှင်ပုစဝ်ဧ်သာသမိဟုမှတ်ရယ်သူငဲ၂ဧ
၁၅။ ယာက်ရှုယ်ပန်ငုယ်ပန်ခွက်ပုဆိုဝ်ဆွယ်သောပတည်သာလေပု
၁၆။ စေဝ်ဧ်အခာခပ်သိမ်လျှင်သင်ပုတ်အဆက်မပြတ်တည်စိမ်သောဧ
၁၇။ ကြာင်မြိယ်ကျွန်နွာတိုဝ်ဂိုဝ်လေဝယ်ရယ်လှူခယ်က္လငါပုဧ
၁၈။ သာကောင်မှုကာနိပ္ပါန်ပစ်စည်အထောက်အပင်ဖြစ်ချင်သဧ
၁၉။ တအရမတ်တယပုရှာသ္ခိင်လက်ထက်လျှင်ရဟန္တာဆုလိုဝ်သတေ

**ခေတ်ကာလအရေးအသား**

၁။ ဘုရားသခင်သာသနာ ၂၁၈ လွန်လေပြီးသောအခါ၌ ဇမ္ဗူဒိပ်ကျွန်းကို အစိုးရသောသီ
၂။ ရိဓမ္မာသောကမည်သော မင်းကြီး စေတီရှစ်သောင်းလေးထောင် အဖို့၌
၃။ ဆွမ်းဘုန်းပေးရာပါယာသဋ္ဌတန်ကို အခါလေးမြင့် ပျက်
၄။ ၍မြင်သော သခင်ပင့်သကူကြီးတစ်ယောက် ထိုပြီးတစ်ချက် ပျ
၅။ က်ခဲ့ရာကား သတိုးမင်းပြု၏ ထိုပြီးတစ်ချက် ပျက်ခဲ့တုံ
၆။ ရာကား ဆင်ဖြူသခင်တရားမင်းကြီး မိမိကိုယ်စား ဆရာသီရိဓမ္မ
၇။ ရာဇဂုရုကို စေတော်မူလတ်သောအခါ၌ ပါလ
၈။ တ်သော တပည့်သား သီရိကဿပသည် လုပ်အံ့သည့်ဥစ္စာရှိလျက်
၉။ မလုပ်ရတတ်ရာကား ဝနဝါသီ သခင်ထေရ်ကို သံခံစေရာကား ပ
၁၀။ တသိန်မင်းဟူ၏ လုပ်စေကာမှ သခင်ငယ်ကို မတ်ကြီးထေရ်ကို

၁၁။ အခွင့်ပြုရာကား သက္ကရာဇ် ၆၅၇ ခု ပြာသိုလ္ဆန်း ၁၀ ရက် သောကြာနေ့ပြုတုံ၏
၁၂။ သက္ကရာဇ် ၆၆၀ တန်ဆောင်မုန်းလဆန်း ၈ ရက် တနင်္ဂနွေနေ့လှူ စသော
၁၃။ တံခွန်ကုက္ကားတံခွန်များကိုလည်း ပူဇော်၏ သင်ပုတ်ထောင်ဆီမီး
၁၄။ ထောင်တို့ အကြိမ်များလျှင် ပူဇော်၏ သားသမီးဟုမှတ်၍ သူငယ်နှစ်ဆေ
၁၅။ ယာက် ရွှေပန်းငွေပန်းခက် ပုဆိုးဆွဲသောပဒေသာလည်းပူ
၁၆။ ဇော်၏ အခါခပ်သိမ်းလျှင် သင်းပုတ်အဆက်မပြတ်တည်စိမ့်သောငေ
၁၇။ ကြာင့် မြေကျွန်နွားတို့ကိုလည်း ဝယ်၍လှူခဲ့၏ ငါပြုငေ
၁၈။ သာကောင်းမှုကား နိဗ္ဗာန်ပစ္စည်းအထောက်အပံ့ဖြစ်ချင်သ
၁၉။ တည်း အရိမေတ္တေယျဘုရားသခင်လက်ထက်လျှင် ရဟန္တာဆုလိုသတည်း။

**<u>ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်</u>**

၁။ ပုရှာသ္ခိင် = ဘုရားသခင်
၂။ လွန်လိယ်ပြီသောအခါနှိုက် = လွန်လေပြီးသောအခါ၌
၃။ သံဗုတိပ်ကျွန်း = ဇမ္ဗူဒိပ်ကျွန်း
၄။ ယှတ်သောင်၄ထောင် = ရှစ်သောင်းလေးထောင်
၅။ ဆွတ်ဖုန်ပိယ်ရာပါယာသဋ္ဌတန် = ဆွမ်းဘုန်းပေးရာအရပ်(ဇရပ်)
၆။ အခါလိယ်မြင် = အခါလေးမြင့် = အချိန်ကာလ ကြာညောင်းသည်
၇။ ပျက်ရယ် = ပျက်၍
၈။ ပျက်ခယ်ရာကာ = ပျက်ခဲ့ရာကား
၉။ ဆင်ဖြူသ္ခိင် = ဆင်ဖြူသခင် = ဆင်ဖြူရှင်
၁၀။ တြျာမင်းကြီး = တရားမင်းကြီး
၁၁။ ကိုဝ်စာ = ကိုယ်စား
၁၂။ စိယ်တ်မူ = စေတော်မူ
၁၃။ ပါလတ်သော = ပါလာသော
၁၄။ တပေအ်သာ = တပည့်လက်သား
၁၅။ လုပ်အံသ = လုပ်အံ့သော = လုပ်ဆောင်နိုင်ရန်
၁၆။ ဝနဝါသီ = တောရဆောက်တည်သော
၁၇။ သ္ခခံစိယ်ရကာ = သံခံ = ကြားခံ သံအမတ်အဖြစ်ခံယူစေရာကား
၁၈။ သကရစ် = သက္ကရာဇ်
၁၉။ ပက် = ပက္ခ = ရက်
၂၀။ ၆နိယ် = သောကြာနေ့
၂၁။ တနှင်ကနူ = တနင်္ဂနွေ
၂၂။ ပုစဝ် = ပူဇော်သည်
၂၃။ သူငဲ = သူငယ်
၂၄။ ရှုယ်ပန် = ရွှေပန်း
၂၅။ ငုယ်ပန် = ငွေပန်း
၂၆။ ပုဆိုဝ်ဆွယ်သောပတည်သာ = (တရားဆောက်တည်သူများ၏ ပြည်နှပ်သလိတ်သွေးပုတ်သွေးစိမ်းတို့အတွက်

တော်သင့်သလိုသုံးစွဲနိုင်စေရန်ရည်ရွယ်သော) အဝတ်၊ ပုဆိုး၊ နံငယ်ပိုင်းတို့ကို ချိပ်ဆွဲအပ်သော ပဒေသာ
၂၇။ မြိယ် = မြေ
၂၈။ ရယ် = ၍
၂၉။ ဣ = ၏
၃၀။ နိပ္ပါန် = နိဗ္ဗာန်
၃၁။ ပစ်စည် = ပစ္စည်း
၃၂။ အထောက်အပင် = အထောက်အပင့် = အထောက်အပံ့
၂၆။ အရမတ်တယ = အရိမေတ္တေယျ
၂၇။ သတေ = သတည်း

**ကျောက်စာနှင့်ပါတ်သတ်သည့်အကြောင်းအရာများ**

သက္ကရာဇ် ၆၅၇-ခု၊ ပြာသိုလ်လွှန်း ၁၀-ရက်၊ သောကြာနေ့နှင့် သက္ကရာဇ် ၆၆၀-ခု တန်းဆောင်မုန်းလွှန်း ၈-ရက်၊ တနင်္ဂနွေနေ့တို့တွင် ရေးထိုးထားခဲ့သော အလှူမှတ်တမ်းကျောက်စာဖြစ်သည်။ အိန္ဒိယနိုင်ငံ၊ ဗုဒ္ဓဂါယာတွင် စတင်တွေ့ရှိသည်။ ယခုလည်း အိန္ဒိယနိုင်ငံတွင်ပင်ရှိသည်။

ကျောက်စာတွင်ပါရှိသော သက္ကရာဇ် ၆၅၇(AD 1295)ခုနှစ်နှင့် ၆၆၀(AD 1298)ခုနှစ်တို့မှာ လေးမြို့ခေတ် လောင်းကြက်မင်းဆက်၏ နဝမမြောက်မင်းဖြစ်သော မင်းထီးဘုရင်(ကောဇာ-၆၄၅-၇၅၁)(AD -1283-1389) လက်ထက်နှင့် တိုက်ဆိုင်သည်။ ကျောက်စာတွင်ပါရှိသော ဆင်ဖြူသခင် တရားမင်းကြီးမှာလည်း မင်းထီးဘုရင်ပင် ဖြစ်ပေမည်။

ဘုရားသခင်သာသနာ ၂၁၈-ခုနှစ်လွန်လေပြီးသောအခါ ဇမ္ဗူဒိပ်ကျွန်းကိုအစိုးရသော သီရိဓမ္မာသောက မင်းကြီးသည် စေတီပေါင်းရှစ်သောင်းလေးထောင်တို့ကို တည်ထားကိုးကွယ်ပြီး သာသနာပြုတော်မူခဲ့သည်။ ထို့နောက် မဟာဇေါခိမှ အဆောက်အဦးများ ပျက်စီးနေသည်ကိုတွေ့သဖြင့် သခင်ပင့်သကူကြီးတစ်ယောက်ကပြုပြင်ခဲ့သည်။ ထို့နောက်တဖြန် ပျက်စီးလာပြန်သဖြင့် သတိုးမင်းက ပြုပြင်ပြန်သည်။ ထိုပြီးနောက် ပျက်စီးလာပြန်ရာ ဆင်ဖြူသခင် တရားသော မင်းကြီးက မိမိ၏ကိုယ်စား ဆရာဖြစ်သော သီရိဓမ္မရာဇဂုရုကို ပြုပြင်ရန်စေလွှတ်တော်မူလိုက်သည်။ ရာဇဂုရုတွင် ပါလာသော တပည့်သားသီရိကဿပသည် လုပ်ကိုင်ရန်ဥစ္စာပစ္စည်းများရှိပါလျက်နှင့် မလုပ်မကိုင် ရတတ်သဖြင့် ဝနဝါသီကျောင့်ကြဲနေသော သခင်ထေရ်တစ်ပါးကို သံအဖြစ်ခံစေပြီး ပတာသိန်ဟူသောမင်းထံ ချည်းကပ် လုပ်ကိုင်စေခဲ့လေသည်။ ထိုပတာသိန်မင်းမှ သံအဖြစ်ရောက်ရှိလာသော ဝနဝသီအကျင့်ကျင့်သော အမတ်မထေရ်ကြီး နှင့် ရာဇဂုရု၏ တပည့်သား သခင်ယ်တို့ကို အခွင့်ပြုသဖြင့် သက္ကရာဇ် ၆၅၇-ခုပြာသိုလ္ဆန်း၁၀-ရက်၊ သောကြာနေ့ တွင် စတင်ပြုပြင်ကြလေသည်။

သက္ကရာဇ် ၆၆၀ တန်ဆောင်မုန်းလဆန်း ၈-ရက်၊ တနင်္ဂနွေနေ့တွင် ပြုပြင်ပြီးစီးသဖြင့် တံခွန်၊ ကုက္ကားတို့ကို လှူဒါန်းပူဇော်တော်မူလေ၏။သင်းပုတ်ထောင်၊ ဆီမီးထောင်တို့ကိုလည်း အကြိမ်များစွာပူဇော်တော်မူလေ၏။ သား သမီးအမှတ်ဖြင့်သူငယ်နှစ်ယောက်၊ရွှေပန်းခက်၊ငွေပန်းခက်၊ပုဆိုးဆွဲသောပဒေသာတို့ကိုလည်းပူဇော်လှူဒါန်း၏။ အခါခပ်သိမ်း ဆွမ်းပန်းရေချမ်းမပြတ်စေရန်အတွက် မြေ၊ကျွန်၊နွားတို့ကိုလည်းဝယ်၍လှူဒါန်းတော်မူခဲ့လေသည်။

ဤငါပြုသောကုသိုလ်ကောင်းမှုသည်ကား နိဗ္ဗာန်၏အထောက်အပံ့ပစ္စည်း ဖြစ်ပါစေသတည်း။ အရိမေတ္တေ ယျဘုရားသခင်လက်ထက်တွင် ရဟန္တာဆုကို ရပါစေသတည်းဟူ၍ ရေးထိုးထားပေသည်။ သို့နှင့် ဤကျောက်စာမှာ အလှူမှတ်တမ်းစာပင်ဖြစ်သည်။

ရခိုင်ဘာသာ၊ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။



၁း၇။ မိကျောင်းယောင်စေတီမှ ကြေးဆင်းတုငယ်ပလ္လင်စာ
သက္ကရာဇ် ၆၇၁ ခု (AD 1309)

## ၁း၇။ မိကျောင်းယောင်စေတီမှ ကြေးဆင်းတုငယ်ပလ္လင်စာ

### သက္ကရာဇ် ၆၇၁ ခု (AD 1309)

**ကမ္ပည်းစာမူရင်းအရေးအသား**

၁။ သကရစ်၆၇၁ခုသွန်သည်အိမ်

၂။ ကောတမဖရာတေ

**ခေတ်သုံးအရေးအသား**

၁။ သက္ကရာဇ် ၆၇၁ ခုသွန်းသည် ဤ

၂။ ဂေါတမ္မဘုရားတည်း

**ကမ္ပည်းစာပါအရေးအသား ပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပာယ်**

၁။ သကရစ် = သက္ကရာဇ်

၂။ အိမ် = ဤ

၃။ ကောတမ = ဂေါတမ္မ

၄။ ဖရာ = ဘုရား

၅။ တေ = တည်း

**ကမ္ပည်းစာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

ကမ္ပည်းစာတွင်ပါရှိသော သက္ကရာဇ် ၆၇၁(AD 1309) ခုနှစ်မှာ လေးမြို့ခေတ်လောင်းကြက်မင်းဆက်၏ နဝမမြောက် မင်းတစ်ပါးဖြစ်သော မင်းထီးဘုရင် (ကောဇာ ၆၄၅-၇၅၁) (AD -1283-1389) လက်ထက်ဖြစ်သည်။

မြောက်ဦးမြို့၊ မီးကျောင်းယောင်တောင်ခြေရင်းရှိ အုတ်စေတီတော်တစ်ဆူမှ စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ရှိ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

ရခိုင်ဘာသာ၊ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာဖြစ်သည်။





၁း၈။ တိသသဘုရားပလ္လင်စာ

သက္ကရာဇ် ၆၉၂ ခု (AD 1330)

# ၁း၈။ တိဿဘုရားပလ္လင်စာ
## သက္ကရာဇ် ၆၉၂ ခု (AD 1330)

**ကမ္ပည်းစာအရေးအသား**

၁။ သကြွစ်

၂။ ၆၉၂ဒုံရင်းချောင်ဖျာအခြာလက်ယာကျောက်မော်ချောင်ဖျာအခြာ။စန်းတာအခြာထိသာပါဧ။ ။သင်ခီလေ အယျည်းသုန်ဆဲလုတ်သ်ုအနက်သိမ်ဥထိ

**ခေတ်သုံးအရေးအသား**

၁။ သက္ကရာဇ်

၂။ ၆၉၂ ဒုံရင်းချောင်းဖျားအခြား လက်ျာကျောက်မော်ချောင်းဖျားအခြား။ စန်းတာအခြားထိသာပါ၏။ သင်္ချိုလယ်အသျှည်း သုံးဆယ်လုပ်သည့်အနက် သိမ်ဦးထိ

**ကမ္ပည်းစာပါပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပာယ်**

၁။ သကြွစ် = သက္ကရာဇ်

၂။ ဒုံ = မတ်စောက်သော

၂။ စန်းတာ = ရေနှင့်မြေစပ်ကြားအရပ် (ရေစပ်မြေစပ်)

၃။ သင်ခီ = သင်္ချိုင်း

၄။ လေ = လယ်

၅။ ယျည်း = သျှည်း

၆။ သုန်ဆဲ = သုံးဆယ်

၇။ သ်ု = သည်

**ကမ္ပည်းစာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

သက္ကရာဇ် ၆၉၂-ခု ဒုံရင်းချောင်းဖျားအခြား၊ လက်ျာကျောက်မော်ချောင်းဖျားအခြား ရေနှင့်မြေစပ်ကြားအထိသာပါ၏။ သင်္ချိုလယ် အသျှည်းသုံးဆယ်လုပ်၊ ယင်းအနက်မှ သိမ်ဦးထိဟူ၍ ရေးထိုးထားသည်။ အလှူမှတ်တမ်းဖြစ်သည်။

ကမ္ပည်းစာတွင်ပါသော သက္ကရာဇ် ၆၉၂(AD 1330)ခုနှစ်မှာ လေးမြို့ခေတ်လောင်းကြက်မင်းဆက်၏ န၀မမြောက်မင်း တစ်ပါးဖြစ်သော မင်းထီးဘုရင်(ကောဇာ ၆၄၅-၇၅၁) (AD -1283-1389) လက်ထက်ဖြစ်သည်။

မြောက်ဦးမြို့နယ်၊ နန်းကျားကျေးရွာ၊ တိဿဘုရားဆင်းတုတော်ကြီး၏ ပလ္လင်တွင်ရေးထိုးထားသည်။ ယခု မူလနေရာတွင်ပင် ရှိနေသေးသည်။ ရခိုင်ဘာသာရက္ခ၀ဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာဖြစ်သည်။



၁း၉။ မဟာထီးကျောက်မိကျောင်းကျောက်စာ

သက္ကရာဇ် ၇၁၈ ခု (AD 1356)

## ၁း၉။ မဟာထီးကျောက်မိကျောင်းကျောက်စာ

### သက္ကရာဇ် ၇၁၈ ခု (AD 1356)

<u>ကျောက်စာမူရင်းအရေးအသား</u>

<u>(မျက်နှာဘက်)</u>

၁။ သကရေစ်၇၁၈ခုတပိုဝ်တွယ်လဆုတ်တရျက်စနိယ်နိယ်လျှင်ကောလိတဆြိုါနိယ်ရမွန်ထေ၏ကောင်မှု ရခိုင်တမင်ကိုဝ်ငါလွှတ်၏ရခိုင်တမင်ကိုဝ်ငါလွှတ်၏(ရခိုင်တနိုင်)

၂။ ငံကိုဝ်ငါလွှတ်၏ရခိုင်တနိုင်ငံကိုဝ်ငါလွှတ်၏ရခိုင်တမင်ကိုဝ်ငါမဆိုဝ်ရှိအခာမာရာယုစငါတမင်မြေိယ်ကြိယ်ကမှာ ထက်ဖြစ် . . . . . . . . . . . .

၃။ မင်သိမ်မင်ငယ်မင်လတ်မင်တထောင်မင်ကြိယ်ချည်တြွှာတယောက်သ္ကိယ်ပိုးမင်နှင်ဏ္ဍာသိုဝ်သုကေပ္ပာ . . . . . . . . . . . . . . . . . .

၄။ ပုရာ၏ကျွန်တေ" ဟုလေငါက္ကောလိတဆြိုါနိရမွန်လျှု၏ငါကိုဝ်ကိုဝ်လေကောတ္တမ္မပုရာ၏ကျွန်တေဟု၏ကော ဏ္ဏကြိကောကောတမှ

၅။ မျက်စိမြင်ပါသငါကြာပါသိာလုသုဘိလုသံဘက်ဆိတ်ဆယ်မင်စာစုန်နှင်ပြိယ်တ္တာတာံဗ္ဗလါ . . စုန် ((( . . ငါကောလိတဆြိုါနိရမွန်လျှု၏

၆။ သတေဉှမျှလျှင်ကျန်မင်မျာတိုဝ်၏စစ်အင်္ကာလိယ်ပါလုံမ်တခုမကြွင်ဆင်မျာတခုမကြွင်မြင်မျာတခုမကြွင်ရယ် သလ္လှဂ်မျာတခုမကြွင် . ထိုဝ်ထိုဝ်သောအကြင်ဥယျာဉ် . . . . .

၇။ လက်နက်တခု(မကြွင်) . . . တခုမကြွင် . . . မျာတခုမကြွင်တမ်ကဲမျာတခုမကြွင်ပုဆိုဝ်ကြိယ်မျာ တခုမကြွင်နှယ်ကြိယ်မျာ(တခုမကြွင်) . . . (ဖျာတခုမ)ကြွင်ရယ်ခွက်မျာတခုမကြွင်

၈။ . . . . . . . . (မျာတခုမ)ကြွင် . ကောတမပုရာအငါနိရမွန်တေ၏မြိန် . . . မျာတခုမကြွင်သလှက် မျာတခုမကြွင် . . . . . . . . . အရာသလ္လှက်(မျာတခုမ)ကြွင်ပြည်

၉။ . . . . . . . . . . . . . . . . . . . . . . . . . . . ငါနိရမွန်လျှု၏သျှစ်သောင်လိယ်ထောင်မင် . . . . . . . . . မင်တထောင်မင်ကြိယ်

၁၀။ . . . . . . . . . . . . . . . . (မျာတခု)မကြွင်မောင်မျာ(တခုမကြွင်) . . . . . . . (မျာတခုမကြွင်) အစလျှင်ငါလျှု၏ . . .

၁၁။ . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . (မျာတခုမ) ကြွင်ကုန်လုမ်ကိုဝ်လျှင်ကောတမ္မပုရာ .

၁၂။ . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . (မျာ)တခုမကြွင်ဉှ် ငါ . . . . . . . . တေ . .

<u>ဦးခေါင်းပိုင်းခေါင်လိုက်</u>

၁။ ရခိုင်ပြည်နှိုက်လေသုံထောင်ယုစ်ဆေ(သါ)ကျွန်တိုဝ်ကိုဝ်ငါကောင်မှု . . . .

၂။ ပုရာ၊ကျွန်တေဟုငါလျှု၏ငါရာလိယ်ဆယ့်ခြောက်အ . . .

၃။ ငါအလျှုပိ၏တက်ကနဝ၊ ကငါသေ့ငှယ်သုံ .

၄။ . စ်ဆဲယ်သုံသာတေ

**အနံ့လိုက်**

၁။ ငါကောလိတ ဆြာနိရမ္ဗန် . . . . . . . . . .
၂။ . . သိနိငါသောင်ငါထောင် . . . . . . . . .
၃။ . . ထိပ်မြောက်၏ . ဃ . . . . . . . .
၄။ သုံထောင်ကိုဝ်သာစိုင်မြိန်ဆက် . . . . . . .
၅။ မြောက်၏

**ခေတ်ကာလအရေးအသား**
**(မျက်နှာဘက်)**

၁။ သက္ကရာဇ် ၇၁၈ ခု တပိုတွဲလဆုတ်တစ်ရက် စနေနေ့လျှင် ကောလိတဆရာနိရမ္ဗန်ထေရ်၏ကောင်းမှု ရခိုင်တစ်မင်းကိုငါလွှတ်၏ ရခိုင်တစ်မင်းကိုငါလွှတ်၏ (ရခိုင်တစ်နိုင်)

၂။ ငံကိုငါလွှတ်၏ ရခိုင်တစ်နိုင်ငံကိုငါလွှတ်၏ ရခိုင်တစ်မင်းကိုငါမဆို ရေးအခါ မာရယုစ ငါတစ်မင်း မြေကြီး ကမ္ဘာထက်ဖြစ် . . . . . . . . . . . .

၃။ မင်းသိမ် မင်းငယ် မင်းလတ် မင်းတစ်ထောင်မင်းကြီးချည်း တစ်ရာ့တစ်ယောက် သီဟိုဠ်မင်းနှင့် ပဏ္ဍာသိုသူ ကမ္ဘာ . . . . . . . . . . . . . . . . . .

၄။ ဘုရား၏ကျွန်းတည်းဟုလည်း ငါကောလိတဆရာနိရမ္ဗန်လျှ၏ ငါ့ကိုယ်ကိုလည်း ဂေါဓမ္မဘုရား၏ကျွန်တည်း ဟူ၏ ဂေါဏာဂုံဂေါဓမ္မ

၅။ မျက်စိမြင်ပါသား ငါကြားပါသားလူသူ ဘီလူး သံဘက် တစ္ဆေ မင်စာ စုန်းနှင့် ပြိတ္တာ တာဗ္ဗလာ . . စုန်း((( . . ငါကောလိတဆရာနိရမ္ဗန်လျှ၏

၆။ သတည်ဤမျှလျှင် ကျန်မင်းများတို့၏ စစ်အင်္ဂါလေးပါးလုံး တစ်ခုမကြွင်း ဆင်များတစ်ခုမကြွင်း မြင်းများ တစ်ခုမကြွင်း ရွှေသံလျှက်များတစ်ခုမကြွင်း ထိုထိုသောအကြင်ဥယျာဉ် . . . . .

၇။ လက်နက်တစ်ခု(မကြွင်း) . . . တစ်ခုမကြွင်း . . . များတစ်ခုမကြွင်း တံကဲများတစ်ခုမကြွင်း ပုဆိုး ကြီးများတစ်ခုမကြွင်း နဲ့ကြီးများ(တစ်ခုမကြွင်း) . . . (များတစ်ခုမ)ကြွင်း ရွှေခွက်များတစ်ခုမကြွင်း

၈။ . . . . . . . များတစ်ခုမကြွင်း . ဂေါဓမ္မဘုရားအား ငါနိရမ္ဗန်တည်၏ မြေ . . . များ တစ်ခုမကြွင်း သံလျှက်(များတစ်ခုမ)ကြွင်း . . . . . . . . အရာသန်လျှက်(မျာတခုမ)ကြွင်ပြည်

၉။ . . . . . . . . . . . . . . . . . . . . . . . . ငါနိရမ္ဗန်လျှ၏ ရှစ်သောင်းလေးထောင် မင်း . . . . . . . . . မင်းတစ်ထောင်မင်းကြီး

၁၀။ . . . . . . . . . . . . . . . (များတစ်ခု)မကြွင်း မောင်းများ(တစ်ခုမကြွင်း) . . . . . . . (များတစ်ခုမကြွင်း) အစလျှင်ငါလှူ၏ . . .

၁၁။ . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . (များတစ်ခုမ)ကြွင်း ကုန်လုံးကိုလျှင် ဂေါဓမ္မဘုရား .

၁၂။ . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . (မျာ)တစ်ခုမကြွင်း ဤ ငါ . . . . . . . တည်း . .

**ဦးခေါင်းပိုင်းဒေါင်လိုက်**

၁။ ရခိုင်ပြည်၌လည်း သုံးထောင်ရှစ်ဆယ်(သော)ကျွန်တို့ကို ငါ့ကောင်းမှု . . . .
၂။ ဘုရားကျွန်တည်းဟု ငါလှူ၏ ငါးရာလေးဆယ်ခြောက်အ . . .
၃။ ငါအလှူပေး၏ ဒဂ်ါးကားနဝက ငါသည်ငွေသုံး .
၄။ . စ်ဆယ်သုံးသာတည်း

**အနံ့လိုက်**

၁။ ငါကောလိတဆရာနိရမ္ဗန် . . . . . . . . .
၂။ . . သိန်းငါးသောင်းငါးထောင် . . . . . . . .
၃။ . . ထိပ်မြောက်၏ . ဃ . . . . . . .
၄။ သုံးထောင်ကို သားစဉ်မြေးဆက် . . . . . . .
၅။ မြောက်၏

**ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပာယ်**

၁။ သကရေစ် = သက္ကရာဇ်
၂။ တပိုဝ်တွယ် = တပိုတွဲ
၃။ တရျက် = တစ်ရက်
၄။ စနိယ်နိယ် = စနေနေ့
၅။ ဆြိုာ = ဆရာ
၆။ တေ၏ = တည်၏
၇။ ကိုဝ် = ကို
၈။ ရှိအခာ = ရှိအခါ = ရှေးအခါ
၉။ မြိယ်ကြယ် = မြေကြီး
၁၀။ ကမှာ = ကမ္ဘာ
၁၁။ မင်ကြိယ် = မင်းကြီး
၁၂။ တြွှာတယောက် = တစ်ရာတစ်ယောက်
၁၃။ သ္တိယ်ပိုး = သိန်းခို = သီဟိုဠ်
၁၄။ ပဏ္ဏာ = လက်ဆောင်
၁၅။ ပုရာ = ဘုရား
၁၆။ တေ = တည်း
၁၇။ ကောတ္တမ္မပုရာ = ဂေါတမဘုရား
၁၈။ လုသု = လူသူ
၁၉။ ဘိလု = ဘီလူး
၂၀။ ဆိတ်ဆယ် = ဆိတ်ဆီ = တစ္ဆေ

၂၁။ ပြိယ်တ္တာ = ပြိတ္တာ
၂၂။ စစ်မင်္ဂလိယ်ပါလုံမ် = စစ်အင်္ဂါလေးပါးလုံး
၂၃။ ရယ်သလ္လျင် = ရွှေသံလျက်
၂၄။ တမ်ကဲ = တံကဲ
၂၅။ ပုဆိုဝ်ကြိယ် = ပုဆိုးကြီး
၂၆။ နယ်ကြိယ် = နဲ့ကြီး
၂၇။ ရယ်ခွက် = ရွှေခွက်
၂၈။ မြိန် = မြေ
၂၉။ သလှက် = သံလျှက်
၃၀။ အရာ = နောက်ထပ်
၃၁။ သလ္လျက် = သံလျှက်
၃၂။ သျှစ်သောင် = ရှစ်သောင်း
၃၃။ လိယ်ထောင် = လေးထောင်
၃၄။ သျှစ်ဆေ = ရှစ်ဆယ်
၃၅။ ကျွာန် = ကျွန်
၃၆။ တိုဝ် = တို့
၃၇။ လိယ်ဆယ့် = လေးဆယ်
၃၈။ တင်္ကာ = ဒင်္ဂါး
၃၉။ ငုယ် = ငွေ
၄၀။ ဆဲယ် = ဆယ်
၄၁။ သိန် = သိန်း
၄၂။ သောင် = သောင်း
၄၃။ သာစိုင်မြိန်ဆက် = သားစဉ်မြေးဆက်

**ကျောက်စာနှင့်ပါတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ မဟာထီးကျေးရွာ၊ မဟာထီးဘုရားတောင်ဘက် နှစ်ဖာလုံခန့်အကွာတွင် စတင်တွေ့ရှိသည်။ သဘာဝကျောက်တောင် ကျောက်သားပေါ်တွင် ရေးထိုးထားသည်။ ယခု မူလနေရာတွင်ရှိသည်။ အပျက်အစီးများခြင်း၊ မြေတွင်နစ်မြုပ်နေခြင်းတို့ကြောင့် စာကြောင်းရေမည်မျှ ရှိသေးသည်ကို မခန့်မှန်းနိုင်ပေ။ ကူးယူရရှိသလောက်ကိုသာ ဖတ်ရှုဖော်ပြခြင်းဖြစ်သည်။

ကျောက်စာတွင် "သက္ကရာဇ် ၇၁၈-ခု တပိုတွဲလဆုတ်တစ်ရက် စနေနေ့တွင် ကောလိတဆရာနိရမွန်ထေရ်၏ ကောင်းမှု"ဟူ၍ တွေ့ရသည်။ ကျောက်စာပါသက္ကရာဇ်အရဆိုလျှင် လောင်းကြက်ခေတ် မင်းထီးဘုရင်(၆၄၅-၇၅၁)(AD 1283-1389) လက်ထက်ဖြစ်သည်။ ကောလိတဆရာနိရမွန်ထေရ် ဟူသောစာသားကိုထောက်ပါက "ကောလိတမင်း၏ ဆရာတော် ဘုန်းကြီးနိရမွန်"ဟူ၍ အဓိပ္ပာယ်သက်ရောက်ပေသည်။

ကျောက်စာပါမင်းအမည် "ကောလိတ"ကို "ကောလိယ"ဟု ယူပါက သမိုင်းအဆိုအရ ကောလိယမင်းမှာ ပထမပုရိန်ခေတ် ကောဇာ (၄၈၀-၄၈၅)(AD 1118-1123) အတွင်းသာဖြစ်နေသည်။

တစ်ဦးနှင့်တစ်ဦး နှစ်ပေါင်းနှစ်ရာကျော်လောက် ကွာခြားနေပေသည်။ စဉ်းစားစရာတခုမှာ ပထမပုရိန်ခေတ်မှ မင်းကောလိယသည် မဟာထီးဘုရားကြီးကို ကောဇာ ၄၈၀(AD 1118)ခုနှစ်တွင် တည်ထားကိုးကွယ်ခဲ့ကြောင်း သမိုင်းအစောင်စောင်တွင် တွေ့ရသည်။ ကောလိယမင်းကြီးသည် မဟာထီးဘုရားကြီးကို တည်းထားကိုးကွယ်စဉ်က မဟာထီးဘုရားကြီးကျောင်းကိုပါလှူဒါန်းခဲ့ပြီး ၄င်းမင်း၏မင်းဆရာအဆက်ဆက်တို့ သီတင်းသုံးလာကြရာမှ ကောလိယဆရာကျောင်း၊ ကောလိယဆရာဟူ၍ အစဉ်အလာခေါ်တွင်လာခြင်းပေလောဟု ယူဆနိုင်ဖွယ်ရှိပေသည်။

ဤကျောက်စာတွင် ရခိုင်ကိုနိုင်ငံဟူ၍ သုံးထားသည်ကိုတွေ့ရသည်။ ရခိုင်ဘုရင်မင်းဆက်၏ အစဆုံးမင်းတစ်ပါးဖြစ်သော မာရယုမင်းအမည်ကိုလည်းတွေ့ရသည်။

ဆရာတော်နိရမွန်သည် အသဒိဿဒါနအလှူကြီးကို ပေးလှူပြီး အလှူစာရင်းကို ကျောက်စာရေးထိုးထားခြင်းပင် ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။




၁း၁၀။ ကျောက်တော်ဘုရားကျောက်စာ(လေးမျက်နှာ)
သက္ကရာဇ် ၇၈၃ ခု၊ ၈၆၅ ခု၊ ၈၈၇ ခု (AD 1422/1504/1526)





၁း၁၀။ ကျောက်တော်ဘုရားကျောက်စာ (လေးမျက်နှာ)
သက္ကရာဇ် ၇၈၃ ခု၊ ၈၆၅ ခု၊ ၈၈၇ ခု (AD 1422/1504/1526)

## ၁း၁၀။ ကျောက်တော်ဘုရားကျောက်စာ(လေးမျက်နှာ)

**သက္ကရာဇ် ၇၈၃ ခု၊ ၈၆၅ ခု၊ ၈၈၇ ခု (AD 1422/1504/1526)**

<u>ကျောက်စာမူရင်းအရေးအသား (ရှေ့မျက်နှာ)</u>

၁။ သကြစ်၇၈၃ခုတပေါင်လပ္ဆေ
၂။ ည်သတင်ဘိတ်စနိီနိမတ္တဲသုနှစ်ရက်
၃။ နာ၏လ္ဆုတ်တရျက်တလင်လာကာ
၄။ ဝေသန္တရာနာ၏ပတ္တာပုမ်နာ၏ည္သ
၅။ ကလျှင်ကျွန်တက္လိမ်ထောင်သင်ချိ
၆။ ထာအှံ့ဟူပေတော်မူ၏ထိုဝ်သင်ချိ
၇။ တေသကျွန်အမေသေကာသုဘါတ်မုနိ
၈။ ဓါတ်မျာအယိပတ္တျာသမိသတင်ငဲ
၉။ ယ်နှောက်ပါအေလေယောက်သောမဲ
၁၀။ တော်ငါတ်တအိမ်ထောင်အအမေသေ့်ဇ
၁၁။ သ္ကိ်ာကနက္ကာနရပင်ဂ်ံလုင်အထအေ
၁၂။ ပါင်သော်ကာခြောက်ယောက်တေည်
၁၃။ သယ်ံိုန္တာကာန္တာမသာအမိ
၁၄။ ပြောက်န္တာလာဖြူညြ်ကာသင်ခီန္တာနှစ်
၁၅။ ယျည်ည၊်ငါပ္လုထာသောသင်ချိကိုဝ်ပ္လု
၁၆။ ပါသသူကါငါနှင်အက္လျုိဝ်ထပ်မျှုရ
၁၇။ စပါစိီသတော်ျ၊ တောင်သဆုမြတ်ပတနာ
၁၈။ ရပါစိသတျော်၊ ဂေါတမသာသနာနူိက်
၁၉။ အလွန်တေကြေယ်စီသတျော၊ ဇမ္ဗူဒီပါ
၂၀။ ကျွန်းထက်မေတ္တာမေယ်ရင်၊ တြျာမ
၂၁။ င်ဖ္လစ်လတ်သော်လေ၊ မျက်မှောက်တွ
၂၂။ င်တင်ဘူမြင်ရသေဖ္လစ်စီသတေည်
၂၃။ ဇမိနာလိက္ခိတကမ္မေနမင်းများအသျှင်
၂၄။ စင်ခါကြိီငှတေသေကျောက်တော်တွင်ငှ
၂၅။ တိတာတအိမ်ထောင်ဥတိနှာတအိမ်
၂၆။ ထောင်ကုတိုဝ်သေထေရသမန်ကိုဝ်
၂၇။ တေစီသေရွိလိုရွိတက်နှင်တေသရကန်ရာ
၂၈။ တွင်ငှတေသေ၊ သာသနာကိုဝ်ဖျက်ကာ
၂၉။ အဝီစိကျစီသောကုတိုဝ်ဖျက်ရျှမင်စ
၃၀။ သေနှအဝကျနှကတိကါကိုဝ်၏အတွင်
၃၁။ တေသေကုတိုဝ်အစည်သာဥတည်
၃၂။ သမက်ကတိကာကိုဝ်တေသေ။

## ဎ

၃၃။ ဒ၀၊ သော ပဏ္ဍိမဟာခိရောအဌအသီမာ။ဝ။

**(လက်ဝဲဘက်မျက်နှာ)**

၁။ သကြစ်စဖ၅ခုတပေါင်လွှ
၂။ န်၁၄ရျက်ကြဿပတ္တိနိကျော
၃။ င်လွှတ်၏လွှတ်သောခါကျောက်
၄။ တော်ဖုရာတွင်ဥဇိတ်ငဲအောင်ငဲတအိ
၅။ မ်ထောင်ကျွေယ်တယျေည်လယ်တေ
၆။ ယျည်လုပ်။ သင်ပုတ်လေတင်င
၇။ သျှင်လေစာကျောက်တော်ဖုရာ
၈။ နှိုက်ကျွေင်ဆီမီငိုတာသေတင်္ကာတ
၉။ ဆေယ်တဆေစီသုမ်ချပ်သုမ်းနှစ်
၁၀။ · ချပ်ဆီမီငိုတဆဲစိထုန်ဖတ်
၁၁။ တဆဲစီသျှင်စာကျောက်တော်ဖု
၁၂။ ရာသင်ခီတေပြုသောဘုရာမာင
၁၃။ သံဗုရိငဲသာမိ၄ယောက်ကျွေယ်တ
၁၄။ ယျေည်နှာတယျေည်လေတယျေည်လု
၁၅။ ပ်တင်ကာနှစ်ချပ်ဘုရာလေတင်သျှင်
၁၆။ လေစာငါထာသောသင်ခီ။ မင်စီရွာကျောင်
၁၇။ တွင်ထာသေကာသရပါတျာလင်မျာ
၁၈။ သာမိလေယောက်၊ ငကျွဲတယျေည်လ
၁၉။ ယ်တချပ်ကျပီစီ၊ ဆီမီငိုလေ · · · ·
၂၀။ ချပ်ကျောင်တွင်နှစ်ချပ်ကာသာသ
၂၁။ · · · · · တွင်တင်ကာ
၂၂။ ဖ၀တချပ်ကျွေယ်နှစ်ယျေည်
၂၃။ လေတချပ်တသုကာကျစီထာသော
၂၄။ သင်ခီတေ · · · · မြောက်သင်ခီတွင်
၂၅။ တင်္ကာ၁၁ · ကျွဲတယျေည်ေ
၂၆။ လဲတသုံကာထာသောသင်ခီတေ
၂၇။ အလေဲသင်ခီနှစ်ကျောင်တွင်
၂၈။ တင်္ကာ၁၀၊ ကျွဲနှစ်ယျေည်
၂၉။ လေဲတသုကာကျစီမတေ · သင်ခီ
၃၀။ ထာသေတဲ၊ ပီ၀ရှိကျောင်စေတီတ
၃၁။ ဖက်ပိုင်လေသတည်။

<u>(လက်ယာဘက်မျက်နှာ)</u>

၁။ နောက်မှထာသ့်သင်ခီကာမြီစိတ
၂။ ဖကျ်လေ · တမကျ်လေကိုဝ်မင်
၃။ ဆြူာတွင်ထက်ဝယ်၊ သင်ခီသုမ်
၄။ ကျောင်တွင်ထက်ဝက်တော၊ ဤ
၅။ ထာသာအကျိုဝ်ကိုဝ်ကာ၊ ဖုရ
၆။ င်မောင်နှမသုမ်ဖို့ရစီသာငါ
၇။ ကာတဖိုသာရစီသာပြုပါသ
၈။ သူလေအညီထပ်မှုရစီသော၊ ဖျ
၉။ က်သာသုကာဖုရာတကာလာ၍ချ
၁၀။ တ်လေမကျွတ်စီသာဤကမ္ဘာ
၁၁။ သိုဝ်စီမြိုဝ်စီသာ၊ မိုဝ်ကြိုဝ်ပုဆိ
၁၂။ န်ပစ်စီသာအပေယ်လေပါလာ
၁၃။ စီသာအဝစိအထဲငရဲနှစ်စီသတော၊
၁၄။ ငရဲသစ်ငုတ်ဖြစ်စီသတော။ဝ။
၁၅။ သက္ကစ်ရ၈၇ခုသင်ကြန်လဆ
၁၆။ န်ခုနှစ်ရက်သောကြာနိနန်
၁၇။ တက်မိဖုရားမင်စိုဝ်လတ်သင်ခီဧ
၁၈။ လနှစ်ချပ်တသုကာကျတေသေ၊ အဝ
၁၉။ သူကြီမင်ဖြုလက်ထက်ကျောက်တော်အဧ
၂၀။ နာက်ဖက်မင်ကြီဆီရာအသျှင်ဘုရာမင်
၂၁။ စေတီကိုဝ်တေသောသင်ခီကိုဝ်ဖျက်
၂၂။ သသုကာအပယ်လေပါငရဲလာစီသော။

<u>အနောက်ဘက်မျက်နှာ</u>

၁။ သာသနာငါထောင်စောင်သနတ်များ
၂။ အိငါ၏တ္ကာသူ့သင်ချီကိုဖျက်
၃။ သသုကာနတ်လူမဖွစ်၊ အသက် · ·
၄။ သ္ကာအဝိယ်စိ၊ အထက်ငရဲယ်နှစ်လီစီ
၅။ သတျှမ္ဗေိပုံမ်လုံမ်မျှကြုံမ်မကဧ
၆။ သာဘုရာမင်တိုဝ်ချွတ်လေယ်မကျွတ်ဧ
၇။ စသောဘုရာသျှင်သျှောင်ချွတ်ရှယ်မ
၈။ ကျွတ်တတ်သောငရဲသစ်ငုတ်ဖွစ်စေဧ
၉။ သာသံသရစေည်စက်လူလျှင်ဖွစ်ဧ
၁၀။ လလူကောင်မဖွစ်အကျိုဝ်အကန်
၁၁။ အကွအကုန်အနူအဝဲအရဲစက်စက်စိုဝ်(ဝ်)

၁၂။ တနုပ်နုပ်ဖွစ်စေသောတပါကာ
၁၃။ ဖုမ်တောင်တောင်ကာတောင်ကာရွာ
၁၄။ ထဲဝဏ်ာမရသောမွေ်ဖြေကြေိမျိုစေသ
၁၅။ တေမိုဝ်ကြိုဝ်ပစ်စေသောကျာ၊ စာ(ဧ)
၁၆။ စသောဘီလူစာစေသောမိင်ကျောင်
၁၇။ စါစေသောလွဲစေသောနူစေသြေ
၁၈။ သုံခဲအန်စေသော အပ္ပစ်သျှစ်ပါ
၁၉။ . . . . တန်ဆဲပါနုစ်ဆဲ . . .
၂၀။ . . . . က်မှောဂ်ပါ . . . .
၂၁။ . . . . လာကဇာ . . . . .
၂၂။ . . . . ဂြေစေသော . . . .
၂၃။ . . . . သော . . . . . .
၂၄။ . . . . မအ . . . . . .
၂၅။ . . . . တျေ . . . . . .
(စာကြောင်းရေ မည်မျှရှိခဲ့သည်ကိုမသိ၊ ပျက်ပြေသွားပြီ)

<u>**ခေတ်ကာလအရေးအသား**</u>

**(ရှေ့မျက်နှာ)**

၁။ သက္ကရာဇ် ၇၈၃ ခု တပေါင်းလပြ
၂။ ညွ့် သီတင်းအဖိတ် စနေနေ့ မေတ္တေယျသုတ်နှစ်ရက်
၃။ နာ၏ လွှတ်တစ်ရက် တနင်္လာကား
၄။ ဝေဿန္တရာနာ၏ ပတ္တာပိဏ္ဍနာ၏ မနေ့
၅။ ကလျှင် ကျွန်တစ်အိမ်ထောင်သင်ချီ
၆။ တည်သည့်ကျွန်အမည်သည်ကားသုဘာတ်မုနိ
၈။ ဓါတ်မယားအယိပတ္တျာသမီးသတင်င
၉။ ယ်နောက်ပါဤလေးယောက်သောမဲ
၁၀။ တော်ငါတ်တစ်အိမ်ထောင် ၏အမည်သည်ေ
၁၁။ သာ်ကား ကနက္ကာနုရပင်ဂ်လုင်အထအေ
၁၂။ ပါင်းသော်ကား ခြောက်ယောက်တည်း
၁၃။ သင်ချီနွားကား နွားမသားအမိ(နွား)
၁၄။ ပြောက် နွားလားဖြူ ဤကားသင်ချီနွားနှစ်
၁၅။ သျှည်း ဤငါပြုထားသောသင်ချီကို ပြု
၁၆။ ပါသသူကား ငါနှင့်အကျိုးထပ်မျှရ
၁၇။ ကြပါစေသတည်း၊ တောင်းသည့်ဆုမြတ်ပတ္တနာ
၁၈။ ရပါစေသတည်း၊ ဂေါဓမ္မသာသနာဌ
၁၉။ အလွန်တည်ကြည်စေသတည်း၊ ဇမ္ဗူဒီပါ

၂၀။ ကျွန်းထက် မေတ္တေယျမည်ရှင်တရားမ
၂၁။ င်းဖြစ်လတ်သော်လည်း၊ မျက်မှောက်တွ
၂၂။ င်တင်ဖူးမြင်ရသည်ဖြစ်စေသတည်း။
၂၃။ ဧမိန္နာလိင်္ကာတကမ္ဘေန မင်းများအရှင်
၂၄။ စကြဵကြီးလည်းတည်သည် ကျောက်တော်တွင်လည်း
၂၅။ တိတာတစ်အိမ်ထောင် ဥထိန္နာတစ်အိမ်
၂၆။ ထောင် ကုတိုးသည်ထေရသမန်ကို
၂၇။ တည်စေသည် ရွှေလှေရွှေတက်နှင့် တည်သည် ရေကန်ရာ
၂၈။ တွင်လည်းတည်သည်၊ သာသနာကိုဖျက်ကား
၂၉။ အဝီစိကျစေသော ကုတိုးဖျက်၍ မင်းစ
၃၀။ သည်နှင့် အဝကျနှင့် ကတိကာကို၏အတွင်း
၃၁။ တည်သည့်ကုတိုး အစဉ်သာဥတည်
၃၂။ သမက်ကတိကာကို တည်သည်။
၃၃။ ။ဝ။ ဧသာပဏ္ဍိမဟာဓိရော အင္ဓအသီမာ။ ဝ ။

**(လက်ဝဲဘက်မျက်နှာ)**
၁။ သက္ကရာဇ် ၈၆၅ ခု တပေါင်းလွှ
၂။ န်း ၁၄ ရက် ကြာသပဒေးနေ့ ကျော
၃။ င်းလွှတ်၏ လွှတ်သောခါ ကျောက်
၄။ တော်ဘုရားတွင် ဥဇိတ်ငယ်အောင်ငယ်တစ်အိ
၅။ မ်ထောင် ကျွဲတစ်သျှည်း လယ်တစ်
၆။ သျှည်းလုပ်၊ သင်းပုတ်လည်းတင် ငါ့
၇။ ရှင်လည်းစား၊ ကျောက်တော်ဘုရား
၈။ ဦ ကျောင်းဆီမီးညှိထားသည့်ဒင်္ဂါးတစ်
၉။ ဆယ် တစ်ဆယ်စီ သုံးချပ်သုံးနှစ်
၁၀။ · ချပ် ဆီးမီးညှိ တစ်ဆယ်စီထုံးဖတ်(ထုံးသက်န်းကပ်)
၁၁။ တစ်ဆယ်စီငါ့ရှင်စား ကျောက်တော်ဘု
၁၂။ ရားသင်္ချိတည်ပြုသောဘုရားမှာ င
၁၃။ သံဗုရိငယ်သားမိလေးယောက် ကျွဲတစ်
၁၄။ သျှည်း နွားတစ်သျှည်း လယ်တစ်သျှည်းလု
၁၅။ ပ် ဒင်္ဂါးနှစ်ချပ် ဘုရားလည်းတင်ငါ့ရှင်
၁၆။ လည်းစား ငါထားသောသင်္ချိ၊ မင်းစေရွာကျောင်း
၁၇။ တွင်ထားသည်ကား သရပါတစ်လင်မယား
၁၈။ သားမိလေးယောက်၊ ငါ့ကျွဲတစ်သျှည်း လ
၁၉။ ယ်တစ်ချပ်ကျပေးစေ၊ ဆီမီးညှိလေ · · · ·
၂၀။ ချပ်ကျောင်းတွင် နှစ်ချပ်ကာသာသ

၂၁။ · · · · · · တွင်ဒင်္ဂါး
၂၂။ ၆၀ တစ်ချပ် ကျွဲနှစ်သျှည်း
၂၃။ လယ်တစ်ချပ်တသုကာကျစီထားသော
၂၄။ သင်ချီတည်း · · · · မြောက်သင်္ချီတွင်
၂၅။ ဒင်္ဂါး ၁၁ · ကျွဲတစ်သျှည်း
၂၆။ လယ်တစ်သုကာထားသော သင်္ချီတည်း။
၂၇။ အလယ်သင်္ချီနှစ်ကျောင်းတွင်
၂၈။ ဒင်္ဂါး ၁၀၊ ကျွဲနှစ်သျှည်း
၂၉။ လယ်တစ်သုကာကျစီမတည် · သင်ချီ
၃၀။ ထားသတည်း၊ ပိဝရွှေကျောင်းစေတီ တစ်
၃၁။ ဖက်ပိုင်လေသတည်း။

<u>(လက်ယာဘက်မျက်နှာ)</u>

၁။ နောက်မှထားသည့်သင်္ချီကား မြေစိတစ်
၂။ ဖက် ဤလယ် · တမ ဤလယ်ကိုမင်း
၃။ ဆရာတွင်ထက်ဝက်၊ သင်္ချီသုံး
၄။ ကျောင်းတွင်ထက်ဝက်တည်း၊ ဤ
၅။ ထားသောအကျိုးကိုကား၊ ဘုရ
၆။ င်မောင်နှမသုံးဖို့ရစေသား ငါ
၇။ ကားတဖို့သာရစေသား ပြုပါသ
၈။ သူလည်း အညီထပ်မျှရစေသော၊ ဖျ
၉။ က်သောသူကား ဘုရားတကာလာ၍ချွ
၁၀။ တ်လည်းမကျွတ်စေသား ဤကမ္ဘာ
၁၁။ သိုစေမျိုစေသား၊ မိုးကြိုးပုဆိ
၁၂။ န်ပစ်စေသား အပါယ်လေးပါးလား
၁၃။ စေသား အဝီစိအထဲငရဲနှစ်စေသတည်း။
၁၄။ ငရဲသစ်ငုတ်ဖြစ်စေသတည်း။ ၀ ။
၁၅။ သက္ကရာဇ် ၈၈၇ ခု သင်္ကြန်လဆ
၁၆။ န်း ၇ ရက် သောကြာနေ့ နန်း
၁၇။ တက်မိဖုရားမင်းစိုးလတ် သင်္ချီ
၁၈။ လယ်နှစ်ချပ်တစ်သုကာကျတည်သည်၊ အဝ
၁၉။ သူကြီးမင်းဖြူလက်ထက် ကျောက်တော်အင
၂၀။ နောက်ဘက် မင်းကြီးဆရာအရှင်ဘုရားမင်း
၂၁။ စေတီကိုတည်သောသင်္ချီကို ဖျက်
၂၂။ သောသူကား အပါယ်လေးပါးငရဲလားစေသော။

**(အနောက်ဘက်)**

၁။ သာသနာငါးထောင်စောင့်သည့်နတ်များ
၂။ ဤငါ၏ထားခဲ့သောသင်္ချိုကိုဖျက်
၃။ သောသူကားနတ်လူမဖြစ်၊ အသက် . .
၄။ သော်ကား အဝီစိ၊ အထက်ငရဲနှစ်လေစေ
၅။ သကျောမြေပုံလုံးမှူကျုံးမကေ
၆။ သာ ဘုရားမင်းတို့ချွတ်လည်း မကျွတ်ေ
၇။ စသော ဘုရားရှင်သျှောင်ချွတ်၍မ
၈။ ကျွတ်တတ်သော ငရဲသစ်ငုတ်ဖြစ်စေ
၉။ သာသံသရာစည်းစက် လူလျှင်ဖြစ်
၁၀။ လည်း လူကောင်းမဖြစ် အကျိုးအကန်း
၁၁။ အကွအကုန်းအနူအဝဲအရည်စက်စက်စို
၁၂။ တနုပ်နုပ်ဖြစ်စေသော တစ်ပါးကား
၁၃။ ဖုန်းတောင်းတောင်းကာတောင်းကာ ရှာ
၁၄။ ထဲဝင်ကာမရသော မြေကြီးမျိုစေသ
၁၅။ တည်း မိုးကြိုးပစ်စေသော ကျားစားေ
၁၆။ စသော ဘီလူးစားစေသော မိကျောင်း
၁၇။ စားစေသော လွှဲစေသောနူစေသောေ
၁၈။ သွးခဲအန်စေသော အပြစ်ရှစ်ပါး
၁၉။ . . . . ဒါဏ်ဆယ်ပါး နှစ်ဆယ် . . .
၂၀။ . . . . က်မှောက်ပါ . . . .
၂၁။ . . . . လာကမ္ဘာ . . . .
၂၂။ . . . . ဂြေစေသော . . . .
၂၃။ . . . . သော . . . . . .
၂၄။ . . . . မအ . . . . . .
၂၅။ . . . . တျေ . . . . . .

**စာကြောင်းရေမည်မျှရှိသည်ကိုမသိပျက်ပြေသွားပြီး**

**ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်များ**

၁။ သကြစ် = သက္ကြစ် = သက္ကရာဇ်
၂။ လပ္ပြေည် = လပြည့်
၃။ သတင်ဘိတ် = သီတင်းဘိတ် = သီတင်းအဖိတ်
၄။ စနီ = စနေ
၅။ နိ = နေ့
၆။ မတ္တဲသု = မေတ္တေယျသုတ်

၇။ ရျက် = ရက်
၈။ တလင်လာ = တနင်္လာ
၉။ ဝေသန္တရာ = ဝေဿန္တရာ
၁၀။ ပတ္တပုမ် = ပတ္တပိဏ္ဍာ = သပိတ်၌လောင်းအပ်သောဆွမ်း၊ ဆွမ်းကျွေးအနုမောဒနာတရား
၁၁။ ည္က = ညက = မနေ့က
၁၂။ က္လျုန် = က္လျွန် = ကျွန်
၁၃။ က္လိမ်ထောင် = အိမ်ထောင်
၁၄။ အမေ = အမည်
၁၅။ သေကာ = သည်ကား
၁၆။ အေ = ဒီ = ဤ
၁၇။ သေ့် = သည်
၁၈။ သ္ကော် = သော်ကား
၁၉။ တေည် = တည်း
၂၀။ သင်္ခယျီ = သင်ခီ = သင်ချီ = သင်္ချီ
၂၁။ ယျေည် = ယျည် = သျှည်း (တသျှည်း = ဝါးအပြန် ၈၀၀ = ၆·၄ ဧက)
၂၂။ ပ္လူ = ပြူ
၂၃။ အက္လျိုဝ် = အကျိုး
၂၄။ သတျော် = သတျော် = သတည်း
၂၅။ ပတနာ = ပတ္တနာ = ဆုတောင်းသည်
၂၆။ နှိုက် = ၌
၂၇။ တေကြေယ်စီ = တည်ကြည်စေ
၂၈။ မေတ္တမေယ်ရင် = မေတ္တေယျမည်ရှင်
၂၉။ မေယ် = မည်
၃၀။ တြျာမင် = တရားမင်း
၃၁။ ဖ္လွစ် = ဖြစ်
၃၂။ ဘူမြင် = ဖူးမြင်
၃၃။ စင်ခါကြီး = စင်္ခါကြီး = စင်္ကြံ = လမ်းမကြီး
၃၄။ ၄တေသေ = လည်းတည်သည်
၃၅။ ကုတိုဝ်သေ = ကုတိုးသည်
၃၆။ သ္လွီ = ရွှေ
၃၇။ လို = လှေ
၃၈။ ရကန် = ရေကန်
၃၉။ ရာ = မြေနေရာ
၄၀။ အဝိစိ = အဝစိ = အဝိယ်စိ = အဝီစိ
၄၁။ အစည် = အစဉ် (ဘိုးဘေးစဉ်ဆက် ထမ်းဆောင်သည်)

၄၂။ ကြာသပတ္တိ = ကြာသပဒေး
၄၃။ လွှတ် = လျှသည်
၄၄။ သင်ပုတ်လေတင် = သင်ပုတ်လည်းတင် = ဆွမ်းလည်းတင်
၄၅။ ကျွေယ် = ကျွဲ = ကျွဲ
၄၆။ ကျွောင် = ကျောင်း
၄၇။ ငို = ညို = ထွန်းညိုသည်
၄၈။ တကော် = ဒဂါး
၄၉။ တဆေယ် = တဆေ = တဆဲ = တဆဲ = တစ်ဆယ်
၅၀။ သုမ် = သုံး
၅၁။ ချပ် = ကျပ်တစ်ရာနှင့်တန်ဘိုးတူညီသည့်ပမာဏ
၅၂။ ထုန်ဖတ် = ထုံးသုတ်သည် = ထုံးသင်္ကန်းကပ်လျှသည်။
၅၃။ မာ = မှာ
၅၄။ တသုကာ = တသကာ = တမတ် = လယ်တစ်သျှည်း၏လေးပုံတစ်ပုံ
၅၅။ အလေဲ = အလယ်
၅၆။ လေဲ = လေ = လယ်
၅၇။ တျာ = တစ်
၅၈။ ပိစိ = ပိးစိ = ပေးစေ
၅၉။ အိ၊ ကျ် = ဤ
၆၀။ ဆြျာ = ဆီရာ = ဆရာ
၆၁။ ဖုရင် = ဘုရင်
၆၂။ ဖုရာ = ဘုရား
၆၃။ ကမ္ဘာသိုဝ်စီမြိုဝ်စီ = ကမ္ဘာသိုစေ၊ မျိုစေ
၆၄။ အပေယ် = အပါယ်
၆၅။ ငရဲသစ်ငုတ် = အပင်ရင်းမှ ဖြတ်တောက်ခံရပြီး သစ်ကိုင်းသစ်ခက်ပြန်ထွက်လိုက် ပြန်လည်ခုတ်ထွင်ခံရလိုက်နှင့် ရှင်သန်ကြီးထွားလာခြင်းလည်းမရှိ သေဆုံးသွားခြင်းလည်းမရှိသော သစ်ငုတ်တိုအတိုင်း ငရဲခံရစေ
၆၆။ သင်ကြန်လ = တန်ခူးလ
၆၇။ ထက္ကသ္သာ = ထားခဲ့သော
၆၈။ သ္တ်ာ = သည်ကား
၆၉။ ငရဲယ်နှစ်လီစီ = ငရဲနှစ်လေစေ
၇၀။ သတ္တေျ = သတ္တ = စွမ်းနိုင်သည်
၇၁။ သတ္တေျမ္လေပုမ်လုမ်မျှကြုံမ်မကသောဘုရာမင် = ကမ္ဘာမြေအပြင်လုံးကို သိမ်းကျုံးနိုင်သည့် စွမ်းရည်သတ္တိထက်သာလွန်သောဘုရားမင်း
၇၂။ ဘုရားရှင်သျှောင်ချွတ်ရှယ် = ဘုရားရှင်သော်မှချွတ်သော်လည်း
၇၃။ ရှယ် = ၍
၇၄။ သံသရစေည်စက် = သံသရာစက်ရဟတ်

၇၅။ အရေ = အရည်
၇၆။ ဖုမ်တောင်တောင်ကာတောင်ကာရွာထဲဝင်္ကာမရသော = ဖုန်းတောင်းယါစကာလုပ်ပြီး ရွာထဲသို့ဝင်၍ တောင်းစား
သော်လည်း မရပါစေသား
၇၇။ မြွေ = မြေ
၇၈။ ကြေ = ကြီး
၇၉။ မိုဝ်ကြိုဝ် = မိုးကြိုး
၈၀။ မိင်ကျောင် = မီးကျောင်း
၈၁။ သေ့ခဲ = သွေးခဲ

**<u>ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ</u>**

ဤကျောက်စာကို ရခိုင်ပြည်နယ်၊ ကျောက်တော်မြို့၊ ပိုက်သည်ရပ်တွင် အိမ်တိုင်တွင်းတူးရာမှ စတင်တွေ့ရှိသည်။ ရှေးဟောင်းသုတေသနဌာနမှ မူလနေရာတွင် ကျောက်စာရုံဆောက်လုပ်ပြီး သိမ်းဆည်းထားခဲ့သည်။ နောက်ပိုင်းတွင် ကျောက်တော် ရွှေကျောင်းဆရာတော်မှ မိမိကျောင်းသို့ ပြောင်းရွှေ့ယူဆောင်သွားသည်။ ယခု မဟာမုနိပြတိုက်တွင် ခင်းကျင်းပြသထားသည်။

ကျောက်စာတွင် သက္ကရာဇ် ၇၈၃-ခု တပေါင်းလပြည့်နေ့(AD 1422)တွင် တစ်ကြိမ်၊ သက္ကရာဇ် ၈၆၅-ခု၊ တပေါင်း လဆန်း ၁၄-ရက်နေ့(AD 1504)တွင် တစ်ကြိမ်၊ သက္ကရာဇ် ၈၈၇-ခု သကြံန်လဆန်း ၇-ရက်နေ့(AD 1526)တွင်တစ်ကြိမ်၊ သုံးကြိမ် အလှူမှတ်တမ်းရေးထိုးထားကြောင်းတွေ့ရသည်။ သက္ကရာဇ် ၇၈၃-ခုနှစ်သည် လောင်းကြက်ခေတ်နောက်ဆုံးမင်း မင်းစောမွန်လက်ထက်ဖြစ်သည်။ သက္ကရာဇ် ၈၆၅-ခုနှစ်သည် ပထမမြောက်ဦးခေတ် (၈)ဆက်မြောက်မင်း မင်းရာဇာ (၈၆၃-၈၇၅)(AD 1501-1513)လက်ထက်ဖြစ်သည်။ သက္ကရာဇ် ၈၈၇-ခုနှစ်သည် ပထမမြောက်ဦးခေတ် (၁၂)ဆက် မြောက်မင်း မင်းခေါင်ရာဇာ(၈၈၃-၈၉၄)(AD 1521-1532)လက်ထက်ဖြစ်သည်။ ဤတတိယအကြိမ် အလှူပြုသူ၏အမည်ကို မိဖုရားမင်းစိုးဟူ၍တွေ့ရသည်။

ခေတ်အဆက်ဆက်တွင် မင်းမိဖုရားတို့သည် ကျောက်တော်ဘုရား၊ မင်းစီရွာကျောင်း၊ မြောက်သံ်ချီကျောင်း၊ ပီဝရွှေကျောင်းစေတီတို့တွင်၊ ဘုရားကျွန်(သံ်ချီ)၊ နွား၊ ကျွဲ၊ ဇခ်ါ(လမ်း)၊ ကုတိုး၊ ရွှေလှေ၊ ရွှေတက်၊ ကျောင်း၊ ဆီမီး၊ ဒင်္ဂါးများကို လှူဒါန်းခဲ့သည်။ အလှူကို ကူညီချီးမြှင့်သူများအား မိမိနှင့်ထပ်တူထပ်မျှ အကျိုးရစေရန် ဆုတောင်းထားသည်။ အလှူကို ဖျက်ဆီးသူများအား ကျိန်စာအမျိုးမျိုးကျိန်ဆိုထားသည်။ အလှူ၏အကျိုးကျေးဇူး

ကြောင့် ဂေါဓမ္မသာသနာ၌ အလွန်တည်ကြည်သော သူတော်ကောင်းဖြစ်ရပါလို၏။ မေတ္တေယျဘုရား ပွင့်သောအခါတွင်လည်း မျက်ဝါးထင်ထင် ဖူးမြင်ရပါလို၏ဟူ၍ ဆုတောင်းထားသည်။

ဤကျောက်စာပါ ကျောက်တော်ဘုရားဆိုသည်မှာ သေလာဂီရိမောရပွတတောင်မှ မြတ်စွာဘုရားရှင်၏ ကျောက်ရိုးတော်ဓာတ်ကိန်းဝပ်ရာ ကျောက်တော်စေတီကိုဆိုလိုပါသန်တူပေသည်။ ရှေးပဝေသဏီကပင် မြတ်စွာဘုရား ရှင်၏ ဗျာဒိတ်တော်အရတည်ထားကိုးကွယ်ခဲ့သော ကျောက်တော်စေတီတွင် နောက်လိုက်နောက်သား မင်းဆွေမင်းမျိုး တို့က စဉ်ဆက်မပြတ် အလှူဒါနပြုခဲ့ကြောင်းကို ကမ္ပည်းကျောက်စာ ရေးထိုးထားခြင်းပင်ဖြစ်သည်။

ကျောက်စာတွင် မြောက်ဘက်မျက်နှာ စာကြောင်းရေ (၁၈)မှ (၂၃)ထိတွင် "အဝသူကြီးမင်းဖြူလက်ထက် ကျောက်တော်အနောက်ဘက်မင်းကြီး ဆရာအရှင်ဘုရားမင်းစေတီ"ဟူ၍ပါရှိ၏။ ကျောက်တော်မြို့၏ အနောက်ဘက် တွင်လည်း အဝသူကြီးမင်းဖြူလက်ထက်တွင် တည်ထားကိုးကွယ်ခဲ့သော စေတီတော်တစ်ဆူရှိသေးကြောင်း သိရှိရပေ သည်။

ကျောက်စာအရှေ့မျက်နှာ ကြောင်းရေ (၂) (၃) (၄)တို့တွင် မေတ္တေယျသုတ် (ရှင်မာလေးသုတ် (ခေါ်) မာလာပြန်) ဝေဿန္တရာ၊ ပဋ္ဌာပိဋကတ်ရားတော်များနာကြားသည်ဟူ၍ တွေ့ရသည်။ စာဖတ်ခြင်း၊ စာဟောခြင်း၊ စာနာခြင်း၊ ဓလေ့ထုံးစဉ်များမှာ ထိုခေတ်ထိုအချိန်ကပင် ရှိခဲ့ပေသည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေး ထိုးထားသည်။ မူလထိုးကျောက်စာမျိုးဖြစ်သည်။

*မှတ်ချက်။ ။ ကျောက်တုံးတစ်တုံးတည်းတွင် နှစ်ကာလများစွာ(ခေတ်ကာလ)ကွာခြားလျက် ဆက်စပ်ရေး ထိုးထားသော စပ်ထိုးစာမျိုးဖြစ်သည်။ လေးမြို့ခေတ်မှစတင်ကာ မြောက်ဦးခေတ်တွင်လည်း နှစ်ကြိမ်တိုင်တိုင် ဆက်ကာရေးထိုးခဲ့သောကြောင့် ဤကျောက်စာမှာ မြောက်ဦးခေတ်နှင့်လည်း သက်ဆိုင်သည်။ သို့သော် အခန်း (၂) ဖြစ်သော မြောက်ဦးခေတ်တွင် ဤကျောက်စာကို ခွဲခြမ်းကာ ထပ်မံဖော်ပြတော့မည် မဟုတ်ပါ။*

## ၂း၁။ လေးမျက်နှာပုထိုးတော် ဌာပနာအံဖုံးကျောက်စာ
### သက္ကရာဇ် ၇၉၂ ခု (AD 1430)

**ကျောက်စာမူရင်းအရေးအသား**

၁။ သကရစ်၇၉၂ . . . . . . . . . . . .
၂။ ကြာနှယ် . လ . . . . . . . . . . .
၃။ . . . . . ကခု . . . . . . . . . .

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၇၉၂ . . . . . . . . . . . .
၂။ ကြာနှယ် . လ . . . . . . . . . . .
၃။ . . . . . ကခု . . . . . . . . . .

**ကျောက်စာပါဝေါဟာရ**

သကရစ် = သက္ကရာဇ်

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

လေးမျက်နှာပုထိုးတော်တွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ပင်ရှိသည်။ ဌာပနာအံဖုံး ကျောက်ပြားပေါ်တွင် ရေးထိုးထားသည်။ ကျောက်ချပ်ကျိုးပဲ့ပျက်စီးသွားပြီဖြစ်၍ ကျောက်စာကြောင်းရေ မည်မျှရှိမည်ကို မခန့်မှန်းနိုင်ပေ။ ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုးဖြစ်သည်။

သမိုင်းအဆိုအရ လေးမျက်နှာပုထိုးတော်ကြီးသည်၊ မြောက်ဦးမြို့တည် ဘုရားတစ်ဆူဖြစ်သည်။ ဘုရားငါးရပ်နတ်ရှစ်ရပ်ဖြင့် ဘုရင်မင်းစောမွန်သည် မြောက်ဦးမြို့ကို ပန္နက်ချတည်ဆောက်ခဲ့သည်။ ကျောက်စာပါ သက္ကရာဇ်မှာလည်း မြောက်ဦးမြို့တည် သက္ကရာဇ်နှင့် ကိုက်ညီနေသည်။ မြောက်ဦး ထီးတည်နန်းတည် ဘုရင်မင်းစောမွန်လက်ထက်(၇၉၂-၇၉၅)**(AD 1430-1433)**တွင် ရေးထိုးခဲ့ကြောင်းထင်ရှားသည်။





၂း၂။ ပန်းကုံးသိမ်ဘုရားပလ္လင်စာ
သက္ကရာဇ် ၈၀၇ ခု (AD 1445)

## ၂း၂။ ပန်းကုံးသိမ်ဘုရားပလ္လင်စာ
### သက္ကရာဇ် ၈၀၇ ခု (AD 1445)

**ကျောက်စာမူရင်းအရေးအသား**

၁။ ၊၊ သကြစ်၈ရ၇ခုဆြာမင်းသေစံထုသေဖုရာတေသ့်

၂။ · · သလက်မာဝေမင်းမင်းရှင်လေ · · · ရစေသောဝ်

**ခေတ်ကာလအရေးအသား**

၁။ ၊၊ သက္ကရာဇ် ၈၀၇ ခု ခုဆရာမင်းသေစံထုသည် ဘုရားတည်သည်

၂။ · · သလက်မာဝေမင်းမင်းရှင်လည်း · · · ရစေသောဝ်

**ကျောက်စာပါမူရင်းအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်**

၁။ သကြစ် = သက္ကရာဇ်

၂။ ၈ရ၇ = ၈(ရကောက်)၇ = ၈၀၇

၃။ ဆြာ = ဆရာ

၄။ သေ = သည်

၅။ တေ = တည်

၆။ သ့် = သည်

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ ပန်းကုံးသိမ်ဘုရားတွင် စတင်တွေ့ရှိသည်။ ယခုမူလနေရာတွင်ရှိသည်။ မြောက်ဦးခေတ်တွင် ဘုရင်ထံ၌ နေ့စဉ်နေ့တိုင်း ပန်းများသီကုံးပို့ဆက်ရသော ပန်းတော်ဆက်၏ ကောင်းမှုတော်ဘုရားဖြစ်သည်။ သူ၏ ကုသိုလ်ကောင်းမှုကို ဘုရင်မင်းမြတ်အား အမျှပေးဝေထားသည်ကိုတွေ့ရသည်။ ကျောက်စာပါသက္ကရာဇ်ကို ဂဏန်းနှင့်စာ ရောနှောရေးထားသည်။ ကျောက်စာပါ သက္ကရာဇ်အရဆိုလျှင် ပထမမြောက်ဦးခေတ် ဒုတိယမြောက်မင်းမင်းခရီ(နရနူအလီခင်)(၇၉၅-၈၂၁)**(AD 1433-1459)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။



၂း၃။ မဟာသီလဝံသကျောက်စာ

သက္ကရာဇ် ၈၁၃ - ၈၁၈ ခု (AD 1451-1456)

## ၂း၃။ မဟာသီလဝံသကျောက်စာ
### သက္ကရာဇ် ၈၁၃-၈၁၈ ခု (AD 1451-1456)

<u>**ကျောက်စာမူရင်းအရေးအသား**</u>




၁။ အခက္ကာဘဝက်တိုင်အောင် . . . . .
၂။ သာမဟာသီလဝသ်ကောင်မှု . . . .
၃။ သေကာ၈၁၃ခုတွင်တဲ့သတ်
၄။ ခြောက်စာတိသိမ်တဲ့သတ်
၅။ ခုနှစ်လုမ်သုမ်ပတ်ခာတိ . . . .
၆။ သုဒိန္ဓိကာလေရက်နက်သက် . . .
၇။ ဗုတဟုနေ့တွင်သင်္ခါနှစ်ဆဲ . . .
၈။ သက္ကြစ်၈၁၈ခုနယုန်လဆန်လေ
၉။ . သစ်တပင်သစ်ခက်တ . . .
၁၀။ ရဲအပဲနှိုက်ခံလေစေ .
၁၁။ ရဲအပဲနှိုက်ခံလေစေ......
၁၂။ . . . . ၈ . . . .

<u>**ခေတ်ကာလအရေးအသား**</u>

၁။ အထက်ကားဘဝဂ်တိုင်အောင် . . . . .
၂။ သာ မဟာသီလဝံသကောင်းမှု . . . .
၃။ သည်ကား ၈၁၃-ခုတွင် တည်သတည်း
၄။ ခြောက်စာတိ သိမ်တည်သတည်း
၅။ ခုနှစ်လုံးသုံးပတ်ခါတိ . . . .
၆။ သုဒ္ဒဒိန်ကား လေးရက် နတ်သက် . . .
၇။ ဗုဒ္ဓဟူးနေ့တွင် သံဃာနှစ်ဆယ် . . . .
၈။ သက္ကရာဇ် ၈၁၈ ခု နံယုန်လဆန်းလေး
၉။ . သစ်တစ်ပင် သစ်ခက်တ . . .
၁၀။ ခုကိုချိုးသောသူကား င
၁၁။ ရဲအပါယ်၌ ခံလေစေ .
၁၂။ . . . . ၈ . . . .

**ကျောက်စာပါအရေးအသား၊ ပေါရာဏ၊ ဝေါဟာရနှင့် ပါဠိအဓိပ္ပာယ်**

၁။ အဇ္ဇက္ကာ = အထက်ကား
၂။ ဘဝက် = ဘဝဂ်
၃။ မဟာသီလဝသ် = မဟာသီလဝံသ
၄။ သေကာ = သည်ကား
၅။ တဲ့ = တည်း
၆။ သတ်ဲ့ = သတည်း
၇။ ဗုတာဟုနေ = ဗုဒ္ဓဟူးနေ့
၈။ သင်္ါ = သံဃာ
၉။ ဆဲ = ဆယ်
၁၀။ သက္ကြစ် = သက္ကရာဇ်
၁၁။ နညုန်လ = နံယုန်လ
၁၂။ ချိဝ် = ချိုး
၁၃။ ဖြ = သော
၁၄။ ငရဲအပဲနိုက် = ငရဲအပါယ်၌

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

ရခိုင်ပြည်နယ် သံတွဲမြို့နယ် မအီချောင်းဖျား အရှေ့ဘက်တောင်တန်း ကျောဲးဝဲဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ရှိသည်။ မဟာသီလဝံသမထေရ်သည် သိမ်တော်ခြောက်ကြိမ် ဆောက်လုပ်လှူဒါန်းကြောင်း ရဟန်းတော်များအား ဆွမ်းကျွေးကြောင်း အလှူကိုဖျက်ဆီးသောသူများအား ကျိန်စာတိုက်ထားကြောင်းတွေ့ရသည်။

ဤကျောက်စာတွင် သက္ကရာဇ် ၈၁၃ **(AD 1451)** ဟူ၍လည်းကောင်း သက္ကရာဇ် ၈၁၈-**(AD 1456)**ဟူ၍လည်းကောင်း တွေ့ရ သည်။ ဤသက္ကရာဇ်နှစ်ခုလုံးမှာ ပထမမြောက်ဦးခေတ် မင်းခရီ(နရနုအလီခင် ၇၉၅-၈၂၁)**(AD 1433-1459)**လက်ထက်တွင် ကျရောက်သည်။

ကျောက်စာထိပ်ပိုင်းတွင် ဇာတာတော်တစ်ခုကို တွေ့ရသည်။ ကျောက်စာတွင်လည်း ဗေဒင်နှင့်ပတ်သတ်သော ဝေါဟာရများကို တွေ့ရသည်။ ကျောက်စာတွင်ပါရှိသော မဟာသီလဝံသမှာ အင်းဝမှ ကဗျာစာဆိုမဟုတ်ဘဲ ရခိုင်မှ မဟာသီလဝံသသာဖြစ်သည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။

## ၂း၄။ ဆင်ဖြူရှင်မင်း ဘစောဖြူ၏ဘုရားပလ္လင်စာ
### သက္ကရာဇ် ၈၃၀ ခု (AD 1468)

**ကျောက်စာမူရင်းအရေးအသား**

၁။ သကြစ်၈၃၀/သန် · · · · //ထန်သောအနရိ · · · · တောမာအတွင်လေတဘက်လျှုတောမူ

၂။ · · · · · · ဆင်ဖြူသျှင်မင်းအ · · · ဖျက်သော်သေစေကောစေ · · ·

၃။ တောင်လည်လောင်ကြက်အဖျာထိ · · · ·

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၈၃၀/သန် · · · · //ထန်သောအနရိ · · · · တောမာအတွင်လယ်တစ်ဘက်လျှုတော်မူ

၂။ · · · · · · ဆင်ဖြူသျှင်မင်းအ · · · ဖျက်သော်သေစေကောစေ · · ·

၃။ တောင်လည်းလောင်းကြက်အဖျားထိ · · · ·

**ကျောက်စာပါဝေါဟာရများ**

၁။ သကြစ် = သက္ကရာဇ်

၂။ လေ = လယ်

၃။ တဘက် = တစ်သျှည်း၏နှစ်ပုံတစ်ပုံ

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ နန်းကျားကျေးရွာ နန်းကျားဘုရားသိမ်တော်အတွင်း စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ရှိသည် အလှူမှတ်တမ်းဖြစ်သည်။ သက္ကရာဇ် ၈၃၀ **(AD 1468)**သည် ပထမမြောက်ဦးခေတ် တတိယမြောက်မင်း ဘစောဖြူ (ကာလမာသျှား)(၈၂၀-၈၄၄)**(AD 1458-1482)** လက်ထက်ဖြစ်သည်။ ကျောက်စာတွင် ဆင်ဖြူရှင်မင်းဟူ၍ တွေ့ရသည်။ ဘစောဖြူမင်းကို ခေါ်တွင်ဟန်တူသည်။ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။

## ၂း၅။ မင်းသားကျွန်းမှ ဆင်းတုငယ်တစ်ဆူ၏စာ
### သက္ကရာဇ် ၈၄၁ ခု (AD 1479)

**ကမ္ပည်းစာမူရင်းအရေးအသား**

၁။ ၈၄၁။ခုတပေါင်လတွင်စဏ္ဍာကောင်မှု

**ခေတ်ကာလအရေးအသား**

၁။ ၈၄၁ ။ ခု တပေါင်းလတွင် စန္ဒကောင်းမှု

**ကမ္ပည်းစာပါ အရေးအသားနှင့် ပါဠိ**

စဏ္ဍာ = စန္ဒ

**ကမ္ပည်းစာနှင့်ပါတ်သတ်သည့်အကြောင်းအရာ**

မြောက်ဦးမြို့ မင်းသားကျွန်းဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးရှေးဟောင်းသုတေသန ပြတိုက်တွင်ရှိသည်။ အရှင်စန္ဒမထေရ်ကောင်းမှု ကမ္ပည်းစာဖြစ်သည်။ သက္ကရာဇ် ၈၄၁-ခုနှစ်သည် ပထမမြောက်ဦး ခေတ် တတိယမြောက်မင်း ဘစောဖြူ(ကလမသျှား)(၈၂၀-၈၄၃)**(AD 1458-1481)**လက်ထက်ဖြစ်သည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကမ္ပည်းစာမျိုး ဖြစ်သည်။





၂း၆။ ဂဏန်းချပ်တောင်ဘုရားကျောက်စာ

သက္ကရာဇ် ၈၄၄ ခု (AD 1482)

## ၂း၆။ ဂဏာန်းချပ်တောင်ဘုရားကျောက်စာ

**သက္ကရာဇ် ၈၄၄ ခု (AD 1482)**

**ကျောက်စာပါမူရင်းအရေးအသား (မျက်နှာဘက်)**

၁။ သကြစ် ၈၄၄ ·
၂။ တန်ဆောင်မှု · · · · ·
၃။ က္ခာဓိပ္ပီတိဖြစ် · · · ·
၄။ မင်တိုဝ်သို့ပုဇ္ဇော်ခိုး(က်) ·
၅။ သာသီလတေဇာတိုဝ်ဖြင့် ·
၆။ တာက်ပစသော · ဝသေကျောင်ကြိ ·
၇။ တံခွန်သဖွဲဖြစ်ခသော၊ သီရိသဥ္စ
၈။ ညုသအမေတောဟိသောဘုန်ကြိသ့်လ ·
၉။ ဆေကန်၌ဖုရာတည်တောပြု၏ဖုရာနို
၁၀။ စ်စာသောဝတိုကသဃ်ီကကာတင်က်ာ
၁၁။ နှစ်ရတဆဲတဆဲကာပန်တင်ကြိနင်တံ
၁၂။ မြဂ်ခတ်ကြိနင်တလုမ်ကျွန်တအိမ်
၁၃။ ထောင်စုံမ်လက်ငဲမာလှဲခြောက်သျှည်
၁၄။ လုပ်တွင်တောင်ကတယျှည်လုပ်တု
၁၅။ ရင်တစင်ပရဟတစင်မိဟောက်
၁၆။ တဆူဖုရာလဲဆူ၏လဲမြေအပိုင်အ
၁၇။ ခြာကာမြော်ကာချောင်သာအခြာမရှိ
၁၈။ လုလဟာချောင်ဖျာအခြာတောင်လ်လဟာ
၁၉။ ချောင်အခြာအနောက်လှ်ပဲကိုင်ချော
၂၀။ င်အခြာတေဘုရင်ရွာခုဖုရာသုဆူတေ
၂၁။ သောမြေကာမင်သုဒ္ဓေါမြီကိုဝ်တင်
၂၂။ က၄ဆဲမမေမြီကိုဝ်တင်ကာစဆဲ
၂၃။ မန်ဓတ်မြီကိုဝ်၄ချပ်မင်သုဧ

**(ကြောဘက်)**

၁။ ဒွာမြီအနောက်တောင်
၂။ ထောင်ဘကိုဝ်ကာ၅ချပ်
၃။ အပေါင်သော၁၃ဝဆဲနှင်ဝ
၄။ ယ်၍တည်၏သဃ်ီလှ်၅ယျှည်
၅။ လုပ်တင်ကာ၂၁ဝဆဲပေါက်တု
၆။ ၄စင်ကြိနင်တလုဇာမလဲစင်
၇။ တုရင်တစင်ပရဟတစင်မိ
၈။ ပေါက်တဆူစည်ကြိသင်ဝင်နှ
၉။ င်အကွတည်တောပြု၏

<u>ခေတ်ကာလအရေးအသား</u>
<u>(မျက်နှာဘက်)</u>
၁။ သက္ကရာဇ် ၈၄၄ ·
၂။ တန်းဆောင်မုန်း · · · · · (ရ)
၃။ က္ခာဓိပ္ပတိဖြစ် · · · · ·
၄။ မင်းတို့သည် ပူဇော်ထို(က်)(ေ)
၅။ သာ သီလတေဇာတို့ဖြင့် (ေ)
၆။ တာက်ပထသော · ဝသဲကျောင်းကြီး(၏)
၇။ တံခွန်သဖွယ်ဖြစ်ထသော သီရိသဥ္ဇ
၈။ ညသအမည်တော်ရှိသော ဘုန်းကြီးသည်လ(က်)
၉။ ဆည်ကန်၌ ဘုရားတည်တော်ပြု၏ ဘုရား၌
၁၀။ ထားသော ဝတ္တကသံဃိကကား ဒဂ်ါး
၁၁။ နှစ်ရာ့တစ်ဆယ် တစ်ဆယ်ကား ပန်းတင် ကြေးနင်း တံ
၁၂။ မြက်ခတ် ကြေးနင်းတစ်လုံးကျွန်တစ်အိမ်
၁၃။ ထောင် အုန်းလက်ယေ်မှာ လယ်ခြောက်သျှည်း
၁၄။ လုပ်တွင် တောင်ကတစ်သျှည်းလုပ် တူ
၁၅။ ရွင်းတစ်စင်း ပရပါတစ်စင်း မီးပေါက်
၁၆။ တစ်ဆူ ဘုရားလေးဆူ၏ လယ်မြေအပိုင်းအ
၁၇။ ခြားကား မြောက်ကား ချောင်းသာအခြား အရှေ့
၁၈။ လည်း လောဟာချောင်းဖျားအခြား တောင်လည်းလောဟာ
၁၉။ ချောင်းအခြား အနောက်လည်း ပဲ့ကိုင်ချော
၂၀။ င်းအခြားတည်း၊ ဘုရင်ရွာဦး ဘုရားသုံးဆူတည်
၂၁။ သောမြေကား မင်းသုခွေ့ာမြေကို ဒ
၂၂။ ဂ်ါးလေးဆယ် မမေမြေကို ဒဂ်ါးရှစ်ဆယ်
၂၃။ မန်ခါတ်မြေကို ၄-ချပ် မင်းသုေ

<u>(ကျောဘက်)</u>
၁။ ဒ္ဓါမြေ အနောက်တောင်
၂။ ထောင့်ဘက်ကိုကား ၅-ချပ်
၃။ အပေါင်းသော် ၁၃၀-ဆယ်နှင့် ဝ
၄။ ယ်၍တည်၏ သင်္ချိလယ် ၅-သျှည်း
၅။ လုပ်ဒဂ်ါး ၂၁၀-ဆယ် ပေါက်တူး
၆။ ၄-စင်း ကြေးနင်းတစ်လုံး ခါးမလေးစင်း
၇။ တူးရွင်းတစ်စင်း ပရပါတစ်စင်း မီး
၈။ ပေါက်တစ်ဆူ စည်ကြီးသင်းဝင်နှ
၉။ င့်တကွတည်တော်ပြု၏

**ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့်ပါဠိအဓိပ္ပာယ်**

၁။ သကြစ် = သက္ကရာဇ်
၂။ တန်ဆောင်မှု = တန်ဆောင်မုန်း
၃။ ရက္ခာဓိပ္ပတိ = ရက္ခာဓိပတိ
၄။ သို့ = သည်
၅။ ပုဇွော်ခိုက် = ပူဇော်ထိုက်
၆။ ဝသေကျောင်ကြိ = ဝသဲကျောင်းကြီး
၇။ တံခွန်သဖွဲ = တံခွန်သဖွယ်
၈။ သီရိသဓ္ဓညသ = ဆရာတော်၏ဘွဲ့အမည်
၉။ အမေ = အမည်
၁၀။ ဟိ = ရှိ
၁၁။ ဘုန်ကြိ = ဘုန်းကြီး
၁၂။ ဖုရာ = ဘုရား
၁၃။ ဖုရားနှိုက်ဓာသော = ဘုရား၌ထားသော
၁၄။ ဝတ္တိက = ဝတ္တက = အကျင့်ရှိသည်
၁၅။ သံဃီက = သံဃိက = သံဃာ၏ ဥစ္စာဖြစ်သည်၊ သံဃာ၏ အမှုဖြစ်သည်၊ သံဃာအား ပေးလှူသည်၊ သံဃာအားကြည်ညိုသည်။
၁၆။ ဖုရာလဲဆူ = ဘုရားလေးဆူ
၁၇။ လဲမြေ = လယ်မြေ
၁၈။ လို့ = လည်း
၁၉။ လဟာချောင်း = ကြေးနီချောင်း
၂၀။ အခြာတေ = အခြားတည်း
၂၁။ ဘုရင်ရှာဥ = ဘုရင်ရှာဦး
၂၂။ ဖုရာသုဆူ = ဘုရားသုံးဆူ
၂၃။ တေသော = တည်သော
၂၄။ မြီ = မြေ
၂၅။ တင်ကာ = ဒင်္ဂါး
၂၆။ ဆဲ = ဆယ်
၂၇။ ချပ် = ငွေ ၁၀၀-ကျပ်တန်
၂၈။ တောင်ဘကိုဝ်ကာ = တောင်ဘက်ကိုကား
၂၉။ ပေါက်တု = ပေါက်တူး
၃၀။ ကြိနင် = ကြီးနင်း = ကြီးဗျ
၃၁။ တလု = တစ်လုံး
၃၂။ ဓာမ = ဓါးမ

၃၃။ လဲ = ၄ = လေး
၃၄။ တုရင် = တူရွင်း
၃၅။ ပရဟ = ပရပါ = ပေါင်းခုတ်ပေါက်ဆိန်
၃၆။ မိပေါက် = မီးပေါက် = သေနတ်
၃၇။ စည်ကြိ = စည်ကြီး
၃၈။ သင်ဝင် = အပေါင်းအသင်း = မိတ်ဆွေ

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ လက်ဆည်ကန်အနီး ဂဏန်းချပ်တောင်ဘုရားတွင် တွေ့ရှိသည်။ ယခု ရှေးဟောင်းသုတေသန ပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၈၄၄-ခုနှစ် တန်ဆောင်မုန်းလ**(AD 1482)**တွင် ရက္ခာဓိပတိ ရခိုင်ဘုရင်မင်းမြတ်တို့ ကိုး ကွယ်သော အကျင့်သီလတို့နှင့် ပြည့်စုံသော ဝသဲကျောင်းဆရာတော် သီရိသဒ္ဓညသ အမည်ရှိသော ဆရာတော်ကြီး သည် လက်ဆည်ကန်တွင် ဘုရားတည်တော်မူသည်။ ယင်းဘုရားနှင့် ဘုရင်ရွာရှိ ဘုရားသုံးဆူတို့တွင် ဝတ္တက၊ သံဃိကအဖြစ် ငွေ၊ ကျွန်၊ လယ်၊ တူရွင်း၊ ပရပါ၊ မီးပေါက်၊ ခါးမ၊ ပေါက်တူး၊ ကြီးနင်း စသည်တို့ကို လှူဒါန်းခဲ့ကြောင်း ကမ္ပည်းစာရေးထိုးထားသည်။

သက္ကရာဇ် ၈၄၄-ခုနှစ်သည် ပထမမြောက်ဦးခေတ် စတုတ္ထမြောက်မင်းဆက် ဆင်ဖြူရှင်ဒေါလျာ(မော်ဥ သျှာ) (၈၄၄-၈၅၄)**(AD 1482-1492)**လက်ထက်ဖြစ်သည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်၊ မူလထိုး ကျောက်စာမျိုး ဖြစ်သည်။

ဂဏန်းချပ်တောင်ဟူသောအမည်မှာ ကျီးဂဏန်း၊ ဒူးဂဏန်းဖြင့် ရေးသားထားသည့် ဤကမ္ပည်း ကျောက်စာ တည်ရှိရာ ဘုရားဖြစ်၍ ဂဏန်းချပ်တောင်ဘုရားဟူ၍ခေါ်တွင်ခဲ့ကြခြင်းဖြစ်သည်။ အမှန်မှာ လက်ဆည်ကန်ဦးရှိ သုံးကျိပ်တစ်ဆူ တောင်တန်းပေါ်မှ မင်းဆရာဝသဲကျောင်းဆရာတော်ဘုရားကြီး၏ကောင်းမှုတော် ဘုရားစေတီတစ်ဆူ သာ ဖြစ်ပေသည်။



၂၇။ ဘုရားနီဘုရားပလ္လင်စာ

သက္ကရာဇ် ၈၅၁ ခု (AD 1489)

## ၂၄၇။ ဘုရားနီဘုရားပလ္လင်စာ
### သက္ကရာဇ် ၈၅၁ ခု (AD 1489)

**ကျောက်စာပါမူရင်းအရေးအသား**

၁။ သကြစ်၈၅၁ ・ တကာ်တရျာငါဆဲလေချပ်
၂။ ဆန်ငါရျာခုနဆဲငါကောင်မှုကိုဝ်မသုန္တ
၃။ ရီနင်လျှင်သက်သီအောက်အဝီစိအထက်ဘဝက်အကျိုဝီ၏

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၈၅၁ ・ ဒင်္ဂါးတစ်ရာငါးဆယ်လေးချပ်
၂။ ဆန်ငါးရာခုနစ်ဆယ် ငါ့ကောင်းမှုကိုဝသုန္တ
၃။ ရေ နင်လျှင်သက်သေ အောက်အဝီစိ အထက်ဘဝဂ်အကျိုးဝေ၏

**ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်**

၁။ သကြစ် = သက္ကရာဇ်
၂။ တကာ် = ဒင်္ဂါး
၃။ တရျာ = တစ်ရာ
၄။ ဆဲ = ဆယ်
၅။ ချပ် = ကျပ်ချိန်တစ်ရာတန်ဒင်္ဂါး(တစ်ပိဿာ)
၆။ ဝသုန္တရီ = ဝသုန္တရေ
၇။ သက်သီ = သက်သေ
၈။ အကျိုးဝီ၏ = အကျိုးဝေ၏

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့နယ် ကင်းဆိပ်ကျေးရွာ ဘုရားနီဘုရားဂူတွင် စတင်တွေ့ရှိသည်။ မြောက်ဦးမြို့ တပင်တိုင်မြို့ရိုးတောင်ထိပ်စေတီတစ်ဆူမှ ပင့်ဆောင်ယူလာခဲ့ကြောင်းသိရသည်။ ယခု ရှေးဟောင်းသုတေသန ပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၈၅၁-တွင် ဘုရား၌ ဒင်္ဂါးနှင့် ဆန်လှူဒါန်းပြီး ဝသုန္ဒရေမြေစောင့်နတ်ကို သက်သေပြုပြီး အောက်ကိုအဝီစီ အထက်ကိုဘဝဂ်တိုင်အောင် အမျှပေးဝေထားသည်။ သက္ကရာဇ် ၈၅၁**(AD 1489)**သည် ပထမမြောက်ဦးခေတ် လေးဆက်မြောက်မင်း ဆင်ဖြူရှင်ဒေါလျှာ(မော်ဥသျှာ)(၈၄၄-၈၅၄)**(AD 1482-1492)**လက်ထက်ဖြစ်သည်။ ရခိုင်ဘာသာရက္ခဝဏ္ဏ အက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။





၂၈။ သရက်အုပ်ဝရစ်တောင် ဘုရားကျောက်စာ
သက္ကရာဇ် ၈၅၇ ခု (AD 1495)

## ၂၈။ သရက်အုပ်ဝရစ်တောင် ဘုရားကျောက်စာ

### သက္ကရာဇ် ၈၅၇ ခု (AD 1495)

<u>ကျောက်စာမူရင်းအရေးအသား</u>

<u>အပေါ်ပိုင်းမှစာကြောင်းငယ်</u>

၁။ · · ကကမြိုကိုဝ်

၂။ · · တင်ကာ၄ချပ်မြို၃

၃။ · · သင်ခိမြို

<u>မျက်နှာဘက်</u>

၁။ သကြစ်၈၅၇မဗျန်လပြေတလင်က

၂။ နို့နိကာခိဖောက်ကိကိုဝ်ဆင်ဖြူသျှင်

၃။ သာနသံသ်ဖုရရှင်သ်ကာအဝေမြိကာ၃၅

၄။ အနက်'လျှုတော်မူ၏ဖုရင်ကောင်မှုတိုဝ်ဖျက်'

၅။ သသူကာဖုန်မကြိအသက်မရှေစိသောမြေသာစိုင်ဖြစ်စိသော///သိဟ

၆။ ဗတေသေကာမင်ထုပ်ဟသာမင်ဆွိရှင်တယောက်ဆန်တစလေဇ

၇။ လက်နှင့်ပိသေနောကောသူကြိဟပိတယောက်ဟောလွန်

၈။ တယောက်သုငဲတယောက်ကမတိန်တယောက်

၉။ ရှေစေငမည်သောတယောက်ကျောင်သာဖုရာသင်စိတကာ

၁၀။ နှစ်ဆယ်ကဘုံမစသသူဖိုဝ်

<u>ခေတ်ကာလအရေးအသား</u>

<u>အပေါ်ပိုင်းမှစာကြောင်းငယ်</u>

၁။ · · ကကမြေကို

၂။ · · ဒင်္ဂါး ၄ ချပ် မြေ၃

၃။ · · သင်္ချိုမြေ

<u>မျက်နှာဘက်</u>

၁။ သက္ကရာဇ် ၈၅၇ နယုန်လပြည့် တလင်္ဂ

၂။ နေ့နေ့ ကာစီဖေါက်ကျိုကို ဆင်ဖြူသျှင်

၃။ သနားသည့် ဘုရားရှင်သည်ကား အစေမြေကား ၃၅

၄။ အနက်လှူတော်မူ၏ ဘုရင့်ကောင်းမှုကိုဖျက်

၅။ သောသူကား ဘုန်းမကြီး အသက်မရှည်စေသော မြေးသားစဉ်ဖြစ်စေသော ///သီဟ

၆။ ပတေးသည်ကား မင်းထုတ်ပါ သားမင်းဆွေရှင် တစ်ယောက်ဆန်တစ်စလေငါ

၇။ လက်နှင့်ပေးသည်၊ နောကော သူကြီးပါပီတစ်ယေါက်၊ ဖောလွန်

၈။ တစ်ယေါက်၊ သူငယ်တစ်ယောက်က မတိန်တစ်ယောက်၊

၉။ ရှေ့စေ ငမည်ထောတစ်ယောက် ကျောင်းသားဘုရားသင်္ချိ ဒင်္ဂါး

၁၀။ နှစ်ဆယ်ကဘုံ မစသည့် သူ····ဘိုး

**ကျောက်စာပါ အရေးအသား ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်များ**

| | | | |
|---|---|---|---|
| ၁။ | သကြစ် | = | သက္ကရာဇ် |
| ၂။ | နဗုန်လပြေ | = | နယုန်လပြည့် |
| ၃။ | တလင်ကန္ဒိ | = | တနင်္ဂနွေ |
| ၄။ | နိ | = | နေ့ |
| ၅။ | သာနသိသ် | = | သနားသည့် |
| ၆။ | ဖုရရှင် | = | ဘုရားရှင် |
| ၇။ | မြီ | = | မြေ |
| ၈။ | လှျူ | = | လှူ |
| ၉။ | ဖုန်း | = | ဘုန်း |
| ၁၀။ | ရှေ | = | ရှည် |
| ၁၁။ | စိ | = | စေ |
| ၁၂။ | စိုင် | = | စဉ် |
| ၁၃။ | သူကြိ | = | သူကြီး |
| ၁၄။ | သုဝဲ | = | သူငယ် |
| ၁၅။ | ရှေ့စေ | = | ရှေ့စေ = မင်းစေ |
| ၁၆။ | သင်ခိ | = | သင်္ချိ |
| ၁၇။ | တကာ | = | ဒင်္ဂါး |

**ကျောက်စာနှင့်ပါတ်သတ်သည့် အကြောင်းအရာများ**

သက္ကရာဇ် ၈၅၇ နယုန်လပြည့် တနင်္ဂနွေနေ့တွင် ကာဒီဖောက်ကျီကို ဆင်ဖြူရှင် သနား၍ ဘုရားရှင်ထံတွင် လယ်မြေနှင့် ကျွန်များ လှူဒါန်းခဲ့ကြောင်း၊ ဘုရင့်ကောင်းမှုတော်ကို ဖျက်သောသူကား၊ အသက်မရှည်စေသတည်း၊ သားစဉ်မြေးဆက် ဖြစ်ပါစေသတည်း၊ ဟူ၍ ကျိန်စာရေးထိုးထားကြောင်း သိရသည်။

ကျောက်စာပါ သက္ကရာဇ် ၈၅၇ ခုနှစ်တွင် မြောက်ဦးထီးနန်းတွင် အုပ်စိုးနေသော ဘုရင်မှာ ပထမမြောက်မင်းဆက်၏ (၇) ဆက်မြောက် ဖြစ်သော စလင်္ကာသူမင်း (၈၅၆-၈၉၃) ဖြစ်သည်။ ဤမင်းသည် ပါရှန်ဘာသာဖြင့် 'သက်ကောက်ဒေါလှျာ' ဘွဲ့ကို ခံယူသည်။ ပါရှန်စာဖြင့် 'သီကွန်ဒါသှျာ'ဘွဲ့အမည်ပါ ဒင်္ဂါးများ ခတ်နှိပ်ခဲ့သည်။ ဤမင်းလက်ထက်တွင် ပါရှန်စာအရေးအသား ခေတ်စားသည်။ ဤမင်းသည် တေဇရာမစေတီကို တည်ထားခဲ့သည်။ ဤမင်း၏ သမီးတော် အနော်ဇာမင်းသမီးသည် အနော်မာဘုရားကြီးကို တည်ခဲ့သည်။

ကြောဘက်တွင် ရေးထိုးထားသော ပါရှန်အက္ခရာ စာ (၈)ကြောင်းကို Rubbing ကူးယူပြီး ပါရှန်အက္ခရာ တတ်ကျွမ်းသော ပညာရှင်များ ဖတ်ရှုနိုင်ရန် သက်ဆိုင်ရာ သံရုံးများ၊ တက္ကသိုလ်များသို့ ပေးပို့ခဲ့သော်လည်း တစ်စုံတစ်ရာ အကြောင်းပြန်ကြားစာကိုမျှ မရရှိခဲ့ပေ။ မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်သို့ အကြောင်းတိုက်ဆိုင်၍ ရောက်ရှိလာကြသော ပါရှန်အက္ခရာကို ကျွမ်းကျင်စွာ ဖတ်ရှုနိုင်သော သံမှူးများ၊ စစ်သံမှူးများ တက္ကသိုလ်မှ ပါမောက္ခများပင်လျှင် စာတွင်ရေးသားထားသော စာတစ်လုံးချင်းစီ၏ အသံထွက်ကိုသာ ဖတ်ရှုနိုင်ကြပြီး အဓိပ္ပါယ်ကိုမူ မဖော်တတ်ကြပေ။ သူတို့အဆိုအရ ပဟေဠိ သဘော၊ လျှို့ဝှက်စာသဘောမျိုး၊ စကားဝှက်များဖြင့် ရေးသားထားခြင်းဖြစ်မည်ဟုသာ ကောက်ချက်ချကြပေသည်။

ဒေသခံများ၏ အစဉ်အဆက် ပြောဆိုသော စကားများအရမူ မြောက်ဦးခေတ်တွင် မူဆလင် ဘုန်းကြီး တစ်ဦးသည် ဗုဒ္ဓဘာသာသို့ ကူးပြောင်းဝင်ရောက်လာပြီး သူပိုင်ဆိုင်သမျှ ရွှေ၊ ငွေ၊ ဥစ္စာ၊ ရတနာများကို ဘုရား တွင်လှူဒါန်းခဲ့သည်။ ယင်းဥစ္စာပစ္စည်း ရတနာများ မြှုပ်နှံထားရှိရာ အရပ်ကို ဤလှူို့ဝှက်စာဖြင့် ကမ္ပည်းအက္ခရာထိုး ထားခဲ့သည်ဟူ၍ ပြောစမှတ်ပြုကြသည်။

ဤကျောက်စာတွင် ပါရှိသော ကာဒီဖောက်ကျီဆိုသူမှာ မူဆလင်ဘာသာဝင်တစ်ဦးဖြစ်မည်ဟု ယူဆရပေ သည်။ မူဆလင်ဘာသာဝင် ကာဒီဖေါက်ကျီသည် ရခိုင်ဘုရင် စလင်္ကသူနှင့် မည်သို့ဆက်နွယ်မှု ရှိသည်ကိုမူ ယနေ့ထိ မည်သည့်စာပေ အထောက်အထားတွင်မျှမတွေ့ရပေ။

သို့သော် ကျောက်စာကြောင်းရေ (၂) နှင့် (၃) တွင် ရေးထိုးထားသော ‘ကာဒီဖေါက်ကျီကို ဆင်ဖြူရှင် သနားသည်’ ဆိုသောစကားစုကို လေ့လာခြင်းအားဖြင့် ဆင်ဖြူရှင် ရခိုင်ဘုရင်မင်းမြတ်သည် ကာဒီဖေါက်ကျီအား ကျေးကျွန်အဖြစ် လက်ခံခြင်းသာဖြစ်သည်။

ကျွန်တော် ရှေးဟောင်းသုတေသနဌာနတွင် တာဝန်ထမ်းဆောင်စဉ်က ၁၉၉၆ ခုနှစ်တွင် Mr. Stephan Van Galen (ပြင်သစ်လူမျိုး)သည် မြောက်ဦးပြတိုက်သို့ ရောက်ရှိလာပါသည်။ သူ့အား ဤကျောက်စာကို Rubbing ကူးယူပြီး ဖတ်ရှုနိုင်သူကို ရှာဖွေဖတ်ရှုပေးနိုင်စေရန် အကူအညီ တောင်းခံခဲ့ဖူးပါသည်။

ဦးကျော်မင်းထင်သည် Mr.Stephan Van Galen ထံမှ ဤကျောက်စာ၏ ပါရှန်ဘက်ခြမ်းမှ စာများကို ဖတ်ရှုထားချက်များပါသော စာတစ်စောင်ကို ကျွန်တော်အားလာပေးပါသည်။

ယင်းစာ၌ ဤကျောက်စာသည် ‘ဆင်းရဲနွမ်းပါးနိမ့်ကျသောကုန်သည် ကာဝါလ်ခန်’ နှင့် ၎င်း၏သားမယား များကို ထုတ်ပြန်သည့် ဘုရင့်အမိန့်တော် ပြန်တမ်းပင်ဖြစ်သည်။ ‘ကာဝါလ်ခန်’သည် သူ၏မယားနှင့် သားများကို လွတ်လပ်သော တိုင်းသူပြည်သားများအဖြစ် ခွင့်ပြုရန် ရခိုင်ဘုရင် ‘မန်ဆာသျှာ’၏သား လက်အောက်ခံစူလတန် ဘုရင်ခံ ‘နာဆာ’ထံတွင် တောင်းခံခဲ့လေသည်။ ရခိုင်ဘုရင်၏သားတော် ‘ဘဟ်မာစ်’သည် Kabdes Manik, Haba Manik နှင့် Rangaz Jahan ၏သား၊ သက်သေများရှေ့မှောက်တွင် ကင်းလွတ်ခွင့်ပေးခဲ့သည်ဟူ၍ ရေးထိုး ထားကြောင်း သိရသည်။

ကြောဘက်တွင် ပါရှန်အက္ခရာဖြင့် စာ(၈)ကြောင်း ရေးထိုးထားသည်။ ဤကျောက်စာကို မည်သူမျှဖတ်မရဘဲရှိနေခဲ့သည်။ **1996**-ခုနှစ်တွင် Rubbing ကူးပြီး ပြင်သစ်လူမျိုး Stephan Van Galen အား ဖတ်ရှုစေခဲ့သည်။ ၎င်း၏အနီးစပ်ဆုံး ဖတ်ရှုချက်မှာ အောက်ပါအတိုင်းဖြစ်သည်။

Farman of the King for the humble kawal khan trader, and his son and wife.

Kawal Khan has Sought the assistance of sultan Nasir son of Mansur Shah (Persion Name for the Arakanese King?)

The wife of kawal khan and his sons are to be free people.

The son of Bahmud of RaKhaing will give the wife in the presence of the witnesses Kabdes Manik. Huba Manik, son of Rangaz Fahan.

Dated the 19 th of Ramadan AH 900 (ie 1494-1495 AD)

Kawal Khan အမည်သည် ရခိုင်တို့က (ကဝါလောင်)ခေါ်သောဇလီနှင့် နီးစပ်သည်။ ဤသို့ဆိုလျှင် ကဝါလောင်ဇလီကို Kawal Khan တည်ခဲ့သည်။ သို့နှင့် ကဝါလောင်ဇလီသည် ပထမမြောက်ဦးခေတ် (၇)ဆက် မြောက်မင်း စလင်္ကသူ) (ဆက်တောဒေါလာသျှာ) (၈၅၆-၈၆၃) (သက်တောက်ဒေါလသျှာ) ၁၄၆၄-၁၅၀၁ လက်ထက်တွင် တည်ခဲ့သည်ဟုယူဆရသည်။



၂း၉။ ခြင်ကိုက်အမြင့်တောင်ဘုရား ကျောက်စာ

သက္ကရာဇ် ၈၆၁၊ ၉၁၈ ခု (AD 1499/1556)

## ၂း၉။ ခြင်ကိုက်အမြင့်တောင်ဘုရား ကျောက်စာ

### သက္ကရာဇ် ၈၆၁၊ ၉၁၈ ခု (AD 1499/1556)

**ကျောက်စာမူရင်းအရေးအသား**

၁။ သကြစ်၈၆၁ခုတ · · · · · · · ·
၂။ · · · ကိုဝ် · တိက် · · ကာ · · သို · စစ်
၃။ ကဲကြိသံပတိတနှင်ကြသုပတိနှစ်ယေ · သ ·
၄။ ဝ် · · တွင်အမြိတောင်ကိုဝ်အစိုဝ်ရသော
၅။ အသျှင်ဖုရာနှင်ရခိုင်မင်ကြီကိုဝ်အမတ်တော်ဆင်ကဲ
၆။ နှင်တကွ၊လွှတ်ကိုဝ်ခွင်တောင် · သောကျောင်သင်ဃိအဆောက်
၇။ အဦဖက်ကာ · · · · အခြာတောင်ဘက်သည်ကာ
၈။ အခြာမြောက်ဘက်(ကာ)အစိတ်ဖုပင်အခြာအနောက်ဖက်ကာငပကော
၉။ · · · ယောင်ပိအခြာဤဆိုဝ်သောကောင်မှုသိုကာသာသနငါ
၁၀။ ထောင်ပတ်လုမ် · · · တေသတ်ုဟုပြီငါပယ်ကြိတိုဝ်ငါတသေကံ
၁၁။ စိုင်လွှတ်၍ငါပြုသောကောင်မှုကိုဝ်အထက်သ
၁၂။ ကြာမင်ဗြဟ္မာမင်ရက္ခစိုဝ်ဘုမ္မစိုဝ်အာကာသစိုဝ်နကာမင်နတ်မျာ
၁၃။ အပေါင်သိပါစိကပ်သာလျှင်ဖြစ်ပါစိကျပ်သောသျှင်သို · · ဤငါ
၁၄။ · ဝ်၏အထဘဝက်တိုင်သြောင်သတေသပွေသတ္တာသတ္တဝါတိုဝ်ကိုဝ်ငါပြုသောကောင်
၁၅။ မှုကိုဝ်ဝိသတ် · · · · · · သိုငါနှင်တုအကျိုရစိသာလူ
၁၆။ ချံသာနတ်ချံသာရစိသာငါ(ကောင်မှု)ကိုဝ်ဖျက်စိသောသူကာအဝစိအ · · ·
၁၇။ · · စေသော · · ဘိသျှစ်ပါတန်ဆယ်ပါသင်စိသောမင်လျှင် · · · · စိဧ
၁၈။ · · · · အဝစိအထေဲငရဲလာစိသော · · · ဖြစ် · သောဝ်
၁၉။ · · · · · · လူလျှင်ဖြစ်လေက · · · · မှာကာညမ်မြင် · ·
၂၀။ သက္ကရာဇ်၉၁၈ခုတွင်တေတောမူ · · တကုမ်ဝကတောင်ကျောင်တွင်
၂၁။ · မ်ရွှေကျောင်နကံကျောင်တ · · · ဖရခိုင်ဖြာရှင် · စလ်ကာသူ၏
၂၂။ အပိုင်သဃ်သ်ကာက္ကုသုမင်က · · · သု · ထက်ကံဖြစ်၍ဖရာချွတ်လေမကျွတ်စိ
၂၃။ · ငါကောင်မှုကိုဝ်ဖျက်သူကာက · · · စိဧ ·

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၈၆၁-ခု တ · · · · · · · · ·
၂။ · · · ကို · တိက် · · ကာ · သို · စစ်
၃။ ကဲကြီး သံပတိတနှင့် ကြသုပတိနှစ်(ယောက်)သည် ·
၄။ ဝ် · · တွင် အမြေတောင်ကို အစိုးရသော
၅။ အရှင်ဘုရားနှင့် ရခိုင်မင်းကြီးကို အမတ်တော်ဆင်ကဲ
၆။ နှင့်တကွက် လွှတ်ကိုခွင့်တောင်း · သောကျောင်း သင်္ချိုအဆောက်
၇။ အဦးဘက်ကား · · · · အခြား တောင်ဘက်သည်ကား
၈။ အခြား မြောက်ဘက်(ကား)အစိတ်ဖုပင်အခြား အနောက်ဘက်ကား ငပကော

၉။ . . . ယောင်ပိအခြား ဤဆိုသောကောင်းမှုသည်ကား သာသနာငါး
၁၀။ ထောင်ပတ်လုံး . . . တည်သည်တည်း ဟူပြီး ငါပယ်ကြီးကိုငါတသေကံ
၁၁။ စိုင်လွှတ်၍ ငါပြုသောကောင်းမှုကို အထက်သိ
၁၂။ ကြားမင်း ဗြဟ္မာမင်း ရုက္ခစိုး ဘူမ္မစိုး အာကာသစိုး နဂါးမင်း နတ်များ
၁၃။ အပေါင်းသိပါစေ ကပ်သာလျှင်ပါစေ ကျပါသောရှင်သည် . . ဤငါ
၁၄။ . ဝ်၏ အထက်ဘဝတိုင်အောင်သတည်း သပ္ပေသတ္တာသတ္တဝါတို့ကို ငါပြုသောကောင်း
၁၅။ မှုကိုဝေသတည်း . . . . . . သည်ငါနှင့်တူ အကျိုးရစေသား လူ
၁၆။ ချမ်းသာ နတ်ချမ်းသာရစေသား ငါ့(ကောင်းမှု)ကို ဖျက်စီးသောသူကား အဝီစိအ . . .
၁၇။ . . စေသော . . ဘေးရှစ်ပါး ဒါဏ်ဆယ်ပါးသင့်စေသော မင်းလျှင် . . . . စေ(သော)
၁၈။ . . . . အဝီစိအထဲ ငရဲလားစေသော . . . ဖြစ်(စေ)သော်
၁၉။ . . . . . . လူလျှင်ဖြစ်လည်း က . . . . မှာကား ဥဏ်မြင် . .
၂၀။ သက္ကရာဇ် ၉၁၈-ခုတွင် တည်တော်မူ . . တကုမ်ဝကတောင်ကျောင်းတွင်
၂၁။ . မ်ရွှေကျောင်းနား ကန်ကျောင်းတ . . . သော ရခိုင်ဘုရားရှင် . စလကာ်သူ၏
၂၂။ အပိုင်သင်္ချိသည်ကား ကက္ကုဿန်မင်းက . . . သု . ထက်ကံဖြစ်၍ ဘုရားချွတ်လည်းမကျွတ်စေ
၂၃။ . ငါ့ကောင်းမှုကို ဖျက်သူကား က . . . စေ(သော)

<u>**ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်**</u>

၁။ သကြစ် = သက္ကရာဇ်
၂။ စစ်ကဲကြိ = စစ်ကဲကြီး
၃။ အသျှင်ဖုရာ = အရှင်ဘုရား
၄။ လွှတ်ကိုဝ်ခွင်တောင် = လွှတ်တော်ကိုခွင့်တောင်း
၅။ သင်ဃိ = သင်္ချိ
၆။ သေသတ် = တည်သတည်း
၇။ သကြာမင် = သိကြားမင်း
၈။ နကာမင် = နဂါးမင်း
၉။ သိပါစိ = သိပါစီ = သိပါစေ
၁၀။ အထဘက်တိုင်သြောင် = အထက်ဘဝင်တိုင်အောင်
၁၁။ သတေ = သတည်း
၁၂။ ဝိသတ် = ဝီသတည်း = ဝေသတည်း
၁၃။ ငါနှင့်တုအကျိုရစိသာ = ငါနှင့်အတူ အကျိုးရစီသား = ငါနှင့်အတူအကျိုးရစေသား
၁၄။ လူချံသာ = လူ့ချမ်းသာ
၁၅။ နတ်ချံသာ = နတ်ချမ်းသာ
၁၆။ ရစိသာ = ရစီသား = ရစေသား
၁၇။ ဘိသျှစ်ပါ = ဘေးရှစ်ပါး
၁၈။ တန်ဆယ်ပါး = ဒါဏ်ဆယ်ပါး
၁၉။ သင်စိသော = သင့်စီသော = သင့်စေသော

၂၀။ အဝစီ = အဝီစိ
၂၁။ အထေဲ = အထဲ
၂၂။ လာစိသော = လားစီသော = လားစေသော
၂၃။ ညမ်မြင် = ဉာဏ်အမြော်အမြင်
၂၄။ တေတောမူ = တည်တော်မူ
၂၅။ ဖြာရှင် = ဘုရားရှင်
၂၆။ သဃ်သ်ကာ = သင်္ချိသည်ကား
၂၇။ ကာက္ကုသု = ကက္ကုသန်
၂၈။ ဖရာ = ဘုရား

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့မြောက်ဘက် ခြင်ကိုက်အမြင့်တောင်ဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသန ပြတိုက်တွင်ရှိသည်။ ဤကျောက်စာ၏ ထူးခြားချက်မှာ စစ်ကဲကြီးနှစ်ဦးတို့သည် တောင်ကို အစိုးရသော ဘုန်းတော်ကြီး၊ ရခိုင်ဘုရင်မင်းမြတ်၊ အမတ်တော်ဆင်ကဲကြီးနှင့် လွှတ်တော်တို့ကိုပါ ခွင့်တောင်းပြီး အလှူပေးခဲ့ကြောင်းတွေ့ရသည်။ ကျောင်းနှင့်မြေတို့ကို အလှူပေးသည့်အလှူမှတ်တမ်း ကမ္ပည်းစာဖြစ်သည်။ သူတို့၏ ကုသိုလ်ကောင်းမှုကိုလည်း အထက်ကိုဘဝဂ် အောက်ကိုအဝီစိတိုင်အောင် အမျှပေးဝေထားသည်။ ဖျက်ဆီးသူ များအား ကျိန်စာတိုက်ထားသည်။ သာသနာငါးထောင်ပတ်လုံး တည်စေရန်လည်း ဆုတောင်းထားသည်။ သက္ကရာဇ်-၈၆၁ ခုနှစ်(**AD 1499**)တွင်တစ်ကြိမ် သက္ကရာဇ် ၉၁၈-ခုနှစ်(**AD 1556**)တွင်တစ်ကြိမ် အလှူနှစ်ကြိမ်ပြုလုပ်ခဲ့ကြောင်း သိရသည်။ သက္ကရာဇ် ၈၆၁-ခုနှစ်သည် ပထမမြောက်ဦးခေတ် (၇)ဆက်မြောက်မင်း စလင်္ကာသူ(ဆက်တောဒေါလာသျှာ)(၈၅၆-၈၆၄)(**AD 1494-1502**) လက်ထက်ဖြစ်သည်။ ကျောက်စာတွင်လည်း စလင်္ကာသူအမည်ကိုတွေ့ရသည်။ သက္ကရာဇ် ၉၁၈ သည် ဒုတိယမြောက်ဦးခေတ် တတိယမြောက်မင်း ဘုရင် မင်းစောလှ(၉၁၈-၉၂၆)(**AD 1556-1564**) လက်ထက်ဖြစ်သည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထား သည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။



၂း၁၀။ သိမ်ကြီးတောင်မြောက်စေတီ၏ ဌာပနာအဖုံးကျောက်စာ (ပတ်လည်)
သက္ကရာဇ် ၈၇၇ ခု (AD 1515)

## ၂း၁၀။ သိမ်ကြီးတောင်မြောက်စေတီ၏ ဥာပနာအဖုံးကျောက်စာ(ပတ်လည်)

**သက္ကရာဇ် ၈၇၇ ခု (AD 1515)**

<u>ကျောက်စာမူရင်းအရေးအသား</u>

<u>(မျက်နှာဘက်)</u>

၁။ ဧယတုသက္ကြစ်၈၇၇ခုတပိုဝ်တွယ်လဆန်၁၃ရက်တလလ်ာ

၂။ နိတွင်ဆေသျှည် . . . . . . . . . . . . . .

၃။ သ်ိတွင်ကိုဝ်ငါမဆိုဝ်ဝန်တွင် . . . . . . . . . . .

၄။ . . . . . . . . . နို . . . . . . . . . .

၅။ . . . . . . . သူမျာ . . . . . . . . . .

၆။ . . . . . . . စေသော . . . . . . . . .

၇။ . . . . . . . . . . . . . . . . နောင်

<u>(လက်ျာနံဘေး)</u>

၁။ . . . . . . . . . . ကောင်မှုကိုဝ် . . . .

၂။ . . . . . . . . . . ကောင်မှုသည် . . . .

၃။ . . . . . . . . သိမြင်ပါစေငါကြာ . . .

<u>(လက်ဝဲနံဘေး)</u>

၁။ . . . . . . . . . . ငါနှင့်အမျှဉ်ကျွန် . .

၂။ . . . . . . . . . . . . . . . . . .

၃။ . . . . . . . . . . . . . . . . . .

<u>ခေတ်ကာလအရေးအသား</u>

<u>(မျက်နှာဘက်)</u>

၁။ ဇေယျတု သက္ကရာဇ် ၈၇၇ ခု တပိုးတွဲလဆန်း ၁၃ ရက် တနလ်ာ

၂။ နေ့တွင် ဆယ်သျှည်း . . . . . . . . . . .

၃။ သည်တွင်ကိုငါမဆိုဝန်တွင် . . . . . . . . . . .

၄။ . . . . . . . . . နေ့ . . . . . . . . .

၅။ . . . . . . . . . သူများ . . . . . . . .

၆။ . . . . . . . စေသော . . . . . . . . .

၇။ . . . . . . . . . . . . . . . နောင်

<u>(လက်ျာနံဘေး)</u>

၁။ . . . . . . . . ကောင်းမှုကို . . . .

၂။ . . . . . . . . ကောင်းမှုသည် . . . .

၃။ . . . . . . . သိမြင်ပါစေငါကြား . . .

**<u>(လက်ဝဲနံဘေး)</u>**

၁။ . . . . . . . . . . ငါနှင့်အမျှဉာဏ်ကျွန်း . .

၂။ . . . . . . . . . . . . . . . . .

၃။ . . . . . . . . . . . . . . . . .

**<u>ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်</u>**

၁။ ဇေယျတု = ဇေယျတု

၂။ သက္ကြစ် = သက္ကရာဇ်

၃။ တပိုဝ်တွယ် = တပိုးတွဲ

၄။ တလဆ်ာ = တနင်္လာ

၅။ နိ = နေ့

၆။ ဆေ = ဆယ်

၇။ သ် = သည်

၈။ ကိုဝ် = ကို

၉။ ဆိုဝ် = ဆို

**<u>ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ</u>**

မြောက်ဦးမြို့ သိမ်ကြီးတောင်ဘုရား၏ မြောက်ဘက်စေတီတစ်ဆူတွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင် ရှိသည်။ ကျောက်စာ၏အစတွင် "ဇေယျတု" "အောင်မြင်ပါစေသတည်း"ဟူသော ကြက်သရေမင်္ဂလာရှိသည့် အာလုပ်စကားဖြင့် အစပျိုးရေးသားထားသည်။ ဘုရားတွင်အလှူပြုသော အလှူမှတ်တမ်းကျောက်စာဖြစ်သည်။ သက္ကရာဇ် ၈၇၇-ခုနှစ်သည် ပထမမြောက်ဦးခေတ်၏ (၁၀)ဆက်မြောက်မင်း၊ မင်းစောအို(ဇလသျှာ) (၈၇၇-၈၈၃)**(AD 1515-1521)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။



၂း၁၁။ ဝေသာလီရွှေတောင်စေတီ ကျောက်စာ(တစ်မျက်နှာ)
သက္ကရာဇ် ၈၈၁ ခု (AD 1519)

## ၂း၁၁။ ဝေသာလီရွှေတောင်စေတီ ကျောက်စာ(တစ်မျက်နှာ)

### သက္ကရာဇ် ၈၈၁ ခု (AD 1519)

**ကျောက်စာမူရင်းအရေးအသား**

၁။ //သက္ကြစ်၈၈၁ခုနတ်တော်လပြေ၄တဟူနိသ္မီတော်ကိုဝ်ရေယ်၍စာတီကော

၂။ င်မှုတော်ပြုသောခုစာကိုဝ်ဖျက်ဆီ၍ယူသူသ့်ကာဘိ်သျှစ်ပါတ

၃။ န်ဆေပါသင်၍သီစိသောအောက်ကာအ၀စိအိဂေ်ဘ၀က်စောင်သော

၄။ နတ်မျာသတ်၍သီစီသောသာသနာငါထောင်စိအောင်ဟိစိသော · မ

၅။ ဟိစိသောဝ်ငါပြုသောကောင်မှုကိုဝ်ဖျက်ဆီ၍ရသောလေငသျှောင်လ

၆။ ဉ်ကောင်အလှျုပီ၍ပူဇော်သကာပြု

၇။ စီသောမပြုကငါကိျန်သောအကိ

၈။ န်ကျ၍သီစိသောကုသိုလ်ကောင်မှု

၉။ ကိုဝ်မဖျက်မဆီပူဇော်သကာသုဒ်

၁၀။ သင်ပါသူအာကာဘိ်သျှစ်ပါတန်

၁၁။ ဆေပါကင်၍ချံသာတေကြေအသက်

၁၂။ ရှေသေဖြစ်စီသော

**ခေတ်ကာလအရေးအသား**

၁။ //သက္ကရာဇ် ၈၈၁-ခု နတ်တော်လပြည့် ဗုဒ္ဓဟူးနေ့ သမီးတော်ကိုရွှယ်၍ စေတီကော

၂။ င်းမှုတော်ပြုသောဥစ္စာကို ဖျက်ဆီး၍ယူသူသည်ကား ဘေးရှစ်ပါး ဒါ

၃။ ဏ်ဆယ်ပါးသင့်၍ သေစေသော အောက်ကား အဝီစိ အထက်ဘ၀ဂ်

၄။ နတ်များသတ်၍ သေစေသော သာသနာငါးထောင်စေ့အောင်ရှိစေသော(ဝ်) မ

၅။ ရှိစေသောဝ် ငါပြုသောကောင်းမှုကို ဖျက်ဆီး၍ရသော်လည်း ငါ့လိုလ

၆။ ည်းကောင်း အလှူပေး၍ ပူဇော်သကာပြု

၇။ စေသော မပြုက ငါကိျန်သောအကိျ

၈။ န်ကျ၍ သေစေသော ကုသိုလ်ကောင်းမှု

၉။ ကိုမဖျက်မဆီး ပူဇော်သကာ သုတ်

၁၀။ သင်ပါသူအားကား ဘေးရှစ်ပါးဒါဏ်

၁၁။ ဆယ်ပါးကင်း၍ ချမ်းသာတည်ကြည် အသက်

၁၂။ ရှည်သည်ဖြစ်စေသော

**ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်**

၁။ သက္ကြစ် = သက္ကရာဇ်

၂။ လပြေ = လပြည့်

၃။ ၄တဟူနိ = ဗုဒ္ဓဟူးနေ့

၄။ သ္မီတော် = သမီးတော်

၅။ ကိုဝ် = ကို

၆။ ရေယ်၍ = ရည်ရွယ်၍
၇။ စာတီ = စေတီ
၈။ ဥစာ = ဥစ္စာ
၉။ သိ = သည်
၁၀။ ဘိ = ဘေး
၁၁။ သျှစ် = ရှစ်
၁၂။ တန် = ဒါဏ်
၁၃။ ဆေ = ဆယ်
၁၄။ သီစိသော = သေစေသော
၁၅။ အဝစိ = အဝီစိ
၁၆။ အိခက် = အထက်
၁၇။ ဘဝက် = ဘဝဂ်
၁၈။ စောင်သောနတ် = စောင့်သောနတ်
၁၉။ စိအောင် = စေ့အောင်
၂၀။ ဟိစိသော = ရှိစေသော
၂၁။ လေ = လည်း
၂၂။ ငေ့ျာင် = ငါ့လို = ငါကဲ့သို့
၂၃။ လဉ်ကောင် = လည်းကောင်း
၂၄။ ပီ = ပေး
၂၅။ သုဒ်သင် = သုတ်သင် = ရှင်းလင်းသည်၊ ပြုပြင်သည်
၂၆။ ချံသာ = ချမ်းသာ
၂၇။ တေကြေ = တည်ကြည်
၂၈။ အသက်ရှေ = အသက်ရှည်
၂၉။ သေ = သည်

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

ဤကျောက်စာကို ဝေသာလီရွှေတောင်စေတီတွင် စတင်တွေ့ရှိသည်။ ယခုလည်း မူလနေရာတွင်ရှိသည်။ ဘခမည်းတော်သည် သမီးတော်ကိုရည်ရွယ်၍ ဘုရားတွင် ဥစ္စာပစ္စည်းများ လှူဒါန်းခဲ့လေသည်။ ယင်းဥစ္စာပစ္စည်းများကို ဖျက်ဆီးသူတို့အား ကျိန်စာတိုက်ထားသည်။ ဥစ္စာပစ္စည်းများကို ဖျက်ဆီး၍ရသော်လည်း သူ့ကဲ့သို့ အလှူဒါနပြု ၍ ပူဇော်သက်ကာပြုသောသူကား အသက်ရှည်ပါစေ၊ ချမ်းသာပါစေ၊ တည်ကြည်ပါစေ၊ မပြုသူကား ဘေးရှစ်ပါး၊ ဒါဏ်ဆယ်ပါးသင့်ပါစေ အောက်ကိုအဝီစိ အထက်ကိုဘဝဂ်စောင့်သောနတ်များ သတ်၍သေပါစေ ငါ့အလှူသည် သာသနာငါးထောင်စေ့အောင် ရှိပါစေတည်ပါစေဟူ၍ ကျိန်စာနှင့်ဆုတောင်းများကို ရေးထားသည်။ သက္ကရာဇ်-၈၈၁ ခုနှစ်သည် ပထမမြောက်ဦးခေတ် (၁၁)ဆက်မြောက်မင်း သဇာတ(ဣလိသျှာ)(၈၇၇-၈၈၃)**(AD 1515-1521)** လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြ င့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။

# ၂း၁၂။ အံတော်သိမ်ဘုရား ဆင်းတုစမ္မခံ ကျောက်စာ

## သက္ကရာဇ် ၈၈၃ ခု (AD 1522)

**ကျောက်စာပါ မူရင်းအရေးအသား**

၁။ · · · · · · ၈၈၃ခုတန်ခူလပြေပုထုနိအန္တော်ဆန်န္တော်

၂။ · · · · · · သောကြာနေပြီ၏မင်သာကြီလှျု၏

**ခေတ်ကာလ အရေးအသား**

၁။ · · · · · · ၈၈၃ ခု၊ တန်ခူးလပြည့်နေ့၊ ဗုဒ္ဓဟူးနေ့ အံတော်ဆံတော်

၂။ · · · · · · သောကြာနေ့ပြီး၏ မင်းသားကြီးလှူ၏

**ကျောက်စာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**

၁။ လပြေ့ = လပြည့်

၂။ ပုထုနိ = ဗုဒ္ဓဟူးနေ့

၃။ အန္တော် = အံတော်

၄။ ဆန်န္တော် = ဆံတော်

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့ အံတော်သိမ်ပုထိုးတော်ကြီး၏ ပထမအပြင်ထပ် မြောက်ဘက်နံရံလိုဏ်ဂူတော်တွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ရှိသည်။ သက္ကရာဇ် ၈၈၃-ခု၊ တန်ခူးလပြည့်၊ ဗုဒ္ဓဟူးနေ့တွင် အံတော်၊ ဆံတော်တို့ကို ဘုရားတွင် အလှူပေး၍၊ သောကြာနေ့တွင် ပြီးစီးခဲ့ကြောင်းရေးထိုးထားသည့် အလှူမှတ်တမ်းဖြစ်သည်။ တည်ထားကိုးကွယ်သည့် ဒါယကာမှာ မင်းသားကြီးဖြစ်သည်ဟုသိရပေသည်။ ကျောက်စာပါသက္ကရာဇ် ၈၈၃-ခုနှစ်သည် ပထမမြောက်ဦးခေတ် မင်းခေါင်ရာဇာ (၈၈၃-၈၈၉)(**AD 1521-1527**)ဖြစ်၍ မင်းသားကြီးဆိုသူမှာ မည်သူမည်ဝါဖြစ်သည်ကိုမူ အတိအကျမသိရပေ။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည် မူလထိုးကျောက်စာမျိုး ဖြစ်သည်။

## ၂း၁၃။ အနော်မာဘုရား စေတီငယ်စာ
### သက္ကရာဇ် ၈၈၃ ခု (AD 1521)

<u>ကျောက်စာမူရင်းအရေးအသား</u>

၁။ ・ ・ ・ ・ ・ ၏၈၈၃ခုဝါ

၂။ လ္ဆုပ်၄ ・ ဝနေ

၃။ ・ ・ ・ ・ ・ ရွှေနန် ・ ・ ・

၄။ ・ ・ ・ ・ ・ ・ ・ လှုသည်

၅။ တောကျောင်ကိုဝ်

<u>ခေတ်ကာလ အရေးအသား</u>

၁။ ・ ・ ・ ・ ・ ၏ ၈၈၃-ခု ဝါ

၂။ လ္ဆုပ် ၄ (ရက်) စနေနေ့

၃။ ・ ・ ・ ・ ・ ရွှေနန်း ・ ・ ・

၄။ ・ ・ ・ ・ ・ ・ လှုသည်

<u>ကျောက်စာအရေးအသား၊ ဝေါဟာရ အဓိပ္ပါယ်</u>

၁။ ဝနေ = စနေနေ့

<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>

ရခိုင်ပြည်နယ် ကျောက်တော်မြို့နယ် အနော်မာဘုရားတွင် စတင်တွေ့ရှိသည်။ ဖဆပလခေတ်အတွင်းက ရခိုင်-မြန်မာပဏ္ဍိတ် ဦးဦးသာထွန်းကူးယူခဲ့သည်။ ယခု ပျောက်ဆုံးနေသည်၊ အလှူမှတ်တမ်း ကမ္ပည်းစာဖြစ်သည်။ သက္ကရာဇ် ၈၈၃-ခုနှစ်သည် ပထမမြောက်ဦးခေတ် (၁၂)ဆက်မြောက်မင်း မင်းခေါင်ရာဇာ(၈၈၃-၈၉၃) **(AD 1521-1531)**လက်ထက် ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။



၂း၁၄။ ဝန်းတီးနတ်ကွန်းကျောက်စာ
သက္ကရာဇ် ၈၈၃ ခု (AD 1521)

## ၂း၁၄။ ဝန်းတီးနတ်ကွန်းကျောက်စာ

### သက္ကရာဇ် ၈၈၃ ခု (AD 1521)

<u>ကျောက်စာမူရင်း အရေးအသား</u>

၁။ သကြစ်သျှစ်ရာသျှိစ်ဆေသုံးခုတပိုဝ်
၂။ တွယ်လဆုတ်၉ရက်ဗုတနိတွင်လောသောဂေါတ်
၃။ ရာသာဘငါယောက်လေငါသျှဉ်နှစ်ဝံတိ
၄။ နတ်တွင်မင်ခင်တဲ့ခဲသည်ဖေါင်အဲ
၅။ အဖြစ်တုံ(။

<u>ခေတ်ကာလအရေးအသား</u>

၁။ သက္ကရာဇ် ရှစ်ရာရှစ်ဆယ်သုံးခု တပိုး
၂။ တွဲလဆုတ် ၉ ရက် ဗုဒ္ဓဟူးနေ့တွင် လောသကွပ်
၃။ ရာသားဘ ငါးယောက် လယ်ငါးသျှည်းနှင့် ဝန်းတီး
၄။ နတ်တွင် မင်းခင်တည်ခဲ့သည် ဖောင်အဲ
၅။ အဖြတ်တုံ။

<u>ကျောက်စာအရေးအသား၊ ဝေါဟာရနှင့် ပေါရာဏ အဓိပ္ပါယ်</u>

| | | | | | |
|---|---|---|---|---|---|
| ၁။ | သကြစ် | = | သက္ကရာဇ် | | |
| ၂။ | သျှစ်၊ သျှိစ် | = | ရှစ် | | |
| ၃။ | ဆေ | = | ဆယ် | | |
| ၄။ | တပိုဝ်တွယ် | = | တပိုးတွဲ | | |
| ၅။ | ဗုတနိ | = | ဗုဒ္ဓဟူးနေ့ | | |
| ၆။ | လောသောဂေါတ် | = | လောသကွပ်ဦးစီး | = | စစ်ဗိုလ်ကြီး |
| ၇။ | လေငါသျှည် | = | လယ်ငါးသျှည်း | | |
| ၈။ | တဲ့ | = | တည် | | |
| ၈။ | သံ့ | = | သည် | | |

<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>

မြောက်ဦးမြို့ ဝန်းတီးနတ်ကွန်းတွင် စတင်တွေ့ရှိသည်။ ယခုမြောက်ဦး ရှေးဟောင်းသုတေသန ပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၈၈၃ ခုနှစ်တွင် ဝန်းတီးနတ်ကွန်းတွင် လှူခဲ့သော လယ်မြေနှင့်ကျွန်များကို ရေးထိုးထားသည်။ ကျောက်စာတွင်ပါရှိသော လောသောဂေါတ်ဆိုသည်မှာ မြောက်ဦးခေတ်အုပ်ချုပ်ရေးတွင် ပါဝင်သော လောသကွပ်ဦးစီးပင်ဖြစ်သည်။ လောသကွပ်ဦးစီးသည် စစ်ချီ၊ စစ်တက်၊ စစ်ဆုတ်၊ စစ်ခံရာတွင် စစ်ပွဲကိုကြီးကြပ်ကွပ်ကဲရသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုး ကျောက်စာမျိုး ဖြစ်သည်။



၂း၁၅။ ဥတုနတ်ကျောက်စာ (ခေါ်)

သရက်ပင်ကြီးကျောက်စာ (ခေါ်) ဥတုခင်စိုင်းကျောက်စာ

သက္ကရာဇ် ၈၈၆ ခု (AD 1524)

## ၂း၁၅။ ဥတ္တုနတ်ကျောက်စာ (ခေါ်) သရက်ပင်ကြီးကျောက်စာ (ခေါ်) ဥတ္တုခင်စိုင်းကျောက်စာ
### သက္ကရာဇ် ၈၈၆ ခု (AD 1524)

**ကျောက်စာမူရင်းအရေးအသား**

၁။ သက္ကြစ်၈၈၆ခု၀ါခောင်
၂။ လဆန်၈ရျက်ာနိဥတုနတ်
၃။ လေအယှည်၁၀မင်ကောစ
၄။ ပ္ပတိတေခသေသခိကိုဝ်ဖျ
၅။ (က်သော)သူကာလုပ်ရာကြံရာမမြောက်စိသော
၆။ အ၀စိငရေလာစိသောငရေသစ်ငုတ်ဖြစ်
၇။ စိသော

**ခေတ်ကာလ အရေးအသား**

၁။ သက္ကရာဇ် ၈၈၆ ခု ဝါခေါင်
၂။ လဆန်း ၈ ရက် တနင်္ဂနွေနေ့ ဥတုနတ်
၃။ လယ်အသျှည်း ၁၀ မင်းဂဇာ
၄။ ပတိတည်ခဲ့သည့် သင်္ချိုင်းကို ဖျ
၅။ (က်သော)သူကား လုပ်ရာကြံရာမမြောက်စေသော
၆။ အဝီစိငရဲလားစေသော ငရဲသစ်ငုတ်ဖြစ်
၇။ စေသော

**ကျောက်စာအရေးအသား ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်**

| | | | |
|---|---|---|---|
| ၁။ | သက္ကြစ် | = | သက္ကရာဇ် |
| ၂။ | ဝါခောင် | = | ဝါခေါင် |
| ၃။ | ရျက် | = | ရက် |
| ၄။ | ာနိ | = | တနင်္ဂနွေနေ့ |
| ၅။ | လေ | = | လယ် |
| ၆။ | အယှည် | = | အသျှည်း |
| ၇။ | မင်ကောစပ္ပတိ | = | မင်းဂဇာပတိ |
| ၈။ | တေခသေ | = | တည်ခဲ့သည် |
| ၉။ | သခိ | = | သင်္ချိုင်း |
| ၁၀။ | ကိုဝ် | = | ကို |
| ၁၁။ | စိသော | = | စေသော |
| ၁၂။ | အ၀စိ | = | အဝီစိ |
| ၁၃။ | ငရေ | = | ငရဲ |

၁၄။ လာ = လား
၁၅။ ငရေသစ်ငုပ် = ငရဲသစ်ငုတ်

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ် သရက်ပင်ကြီးကျေးရွာအနီး တောင်ကျော်လမ်းတွင်စတင်တွေ့ရှိသည်။ သဘာဝကျောက်ဆောင်ပေါ်တွင်ရေးထိုးထားသည်။ ယခု မူလနေရာတွင်ရှိသည်။ ဥတုခင်စိုင်း ကျောက်စာဟူ၍ အမည်တွင်ခေါ်သည်။ သက္ကရာဇ် ၈၈၆-ခုနှစ်တွင် မင်းဂဇာပတိသည် ဥတုနတ်တွင် လယ် ၁၀ သျှည်း လှူဒါန်းခဲ့သည့် ကမ္ပည်းကျောက်စာဖြစ်သည်။ ကျောက်စာတွင် အလှူရှင်အမည်ကို 'မင်ကောစပ္ပတိ' ဟူ၍ ရေးထိုးထားသည်။ ပထမမြောက်ဦးခေတ် ဂဇာပတိမင်းဟူ၍ယူဆရသည်။ သို့သော် ဂဇာပတိမင်း၏ နန်းစံသက္ကရာဇ်မှာ ရခိုင်ရာဇဝင်၌ (၈၇၅-၈၇၇)**(AD 1513-1515)** ဟူ၍တွေ့ရသည်။ ကျောက်စာတွင်မူ သက္ကရာဇ် ၈၈၆-ဟူ၍သာတွေ့ရသည်။ ဤသက္ကရာဇ်အရဆိုပါလျှင် ရခိုင်ရာဇဝင်၌ မင်ခေါင်ရာဇာ(၈၈၃-၈၉၃)**(AD 1521-1531)**လက်ထက်သာကျရောက်နေသည်။ ဦးသာထွန်းအောင်၏ မဟာရာဇ ဝင်တော်ကြီး စာ-၃၃ တွင်မူ ဂဇာပတိမင်း၏ နန်းစံသက္ကရာဇ်ကို (၈၈၆-၈၈၇)**(AD 1524-1525)**ဟူ၍တွေ့ရသည်။ ကျောက်စာတွင် ဥတုနတ်ဆိုသည်မှာ ယခုလူတို့က 'အထုပ်သည်မ'နတ်ဟု ခေါ်တွင်နေကြသော 'ဥတုသမ္ဘာ' နတ်ပင်ဖြစ်ပေမည်။ 'ဥတုသမ္ဘာ' နတ်သည် မြောက်ဦးထီးတည်နန်းတည် ဘုရားငါးရပ် နတ်ရှစ်ရပ်တွင် တစ်ပါးအပါအဝင်ဖြစ်သည်။ ရခိုင်တို့၏ အဓိကစီးပွားရေးသည် စိုက်ပျိုးရေးပင်ဖြစ်သည်။ လယ်ယာကိုင်းကျွန်းများ ဖြစ်ထွန်းစေရန်အတွက် ရာသီဥတုကိုစောင့်သော 'ဥတုသမ္ဘာ'နတ်ကို ပူဇော်ပသကြသည်မှာ သဘာဝကျလှပေသည်။ အထုပ်သည်မနတ်ကွန်း (ဥတုသမ္ဘါနတ်ကွန်း)သည် ဝသုန္ဒြနတ်မ၊ ဟေမန္တနတ်မောင်၊ ဂိမ္ဘန္တနတ်မောင်ဟူ၍ နတ်ရုပ်သုံးရုပ်ရှိသည်။ အစ်မကြီး ဝသုန္ဒြနတ်မရုပ်ထုမှာ အကြီးဆုံးဖြစ်သည်။ ဤကျောက်စာသည်လည်း ဤနတ်ကွန်းနှင့် လယ် ၁၀ သျှည်း အကွာလောက်တွင် တည်ရှိနေပေသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည် မူလထိုး ကျောက်စာဖြစ်သည်။

## ၂း၁၆။ မောင်းဆွဲမှ ကြေးဆင်းတုတော် တစ်ဆူ၏စာ
### သက္ကရာဇ် ၈၉၉ ခု (AD 1537)

ကမ္ပည်းစာ မူရင်းအရေးအသား

၁။ သကြစ်၈၉၉ကို

၂။ ခုဝါခောင်လဆုပ်ပြိ၏

၃။ ငသေ။ဆွ။။ဆြဆသုန်ခုနှစ်။

ခေတ်ကာလ အရေးအသား

၁။ သက္ကရာဇ် ၈၉၉

၂။ ခုဝါခေါင် လဆုတ်ပြီး၏

၃။ ငသေ။ ဆွ။ ။ ဆြဆသုန်ခုနှစ်။

ကမ္ပည်းစာပါ အရေးအသား ပေါရာဏ၊ ဝေါဟာရနှင့် ပါဠိ အဓိပ္ပါယ်

| | | |
|---|---|---|
| ၁။ သကြစ် | = | သက္ကရာဇ် |
| ၂။ ၈၉၉ကို | = | ၈၉၉ကိုး = ၈၉၉ |
| ၃။ ဝါခောင် | = | ဝါခေါင် |
| ၄။ လဆုပ် | = | လဆုတ် |
| ၅။ ပြိ၏ | = | ပြီး၏ |

ကမ္ပည်းစာနှင့် ပတ်သက်သည့် အကြောင်းအရာများ

မြောက်ဦးမြို့နယ် မောင်းဆွဲကျေးရွာ ဓာတ်တောင်စေတီ၏ ဌာပနာမှ စတင်တွေ့ရှိသည်။ ယခင်မြောက်ဦးမြို့ တောင်ရပ်ရွာနေ ဦးဝင်းမြအောင်၏ နေအိမ်တွင်ရှိသည်။ ယခုတောင်ရပ်ရွာ မီးကြီးလောင်ကျွမ်းရာတွင် ပါသွားသည်။ ဘုရားသွန်းလုပ် လှူဒါန်းသည့် ကမ္ပည်းစာဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။

## ၂း၁၇။ မြက်ရိတ်ကျွန်း ဘုရားကျောက်စာ
### သက္ကရာဇ် ၉၀၀ ခု (AD 1538)

**ကျောက်စာမူရင်း အရေးအသား**

၁။ သက္ကရဇ်၉၀၀၀ါခေါင်
၂။ လ္ဆန်ဖက်နေ၊ရွှေနန်သ
၃။ ခင်၊ဆင်ဖြူသခင်၊ဆင်နီသခင်၊အ
၄။ သျှင်၊ဘ၀သျှင်၊၀ရဓမ္မရာဇာ၊မိ
၅။ န်တော်မူသောအမတ်တော်ကု
၆။ လာအတွင်စစ်ချိ၊အမတ်တော်ရွှေစါ(တာ်)
၇။ ဘတ်ကြိ၊မုဇုန္ဒါ၊အအောင်မျာ၊လေကတ်ပု
၈။ ဏာတိုဝ်၊ပမိ · ထောင်စာမောလိတ်သိဃီ · တ်
၉။ က်သ့်ကောင်မှုတွင်၊သ · · ပိုပျ
၁၀။ ကျုခုတ်တောင်ခြီရင်ကျ၊နါတိန်လဲမြတ်
၁၁။ အနက်ကကျက်သာနှစ်သျှည်ပိစီသော
၁၂။ ကျော · · အလှ်သာမြေသံတော်ခုတင် ·
၁၃။ · · · · · · · · · · · ·
၁၄။ · · · · · · · · · · · ·
၁၅။ · · · · · · · · · · · ·

**ခေတ်ကာလ အရေးအသား**

၁။ သက္ကရာဇ် ၉၀၀ ဝါခေါင်
၂။ လဆန်း ၆ ရက်နေ့၊ ရွှေနန်းသ
၃။ ခင်၊ ဆင်ဖြူသခင်၊ ဆင်နီသခင်၊ အ
၄။ ရှင်၊ ဘ၀ရှင်၊ ၀ရဓမ္မရာဇာ၊ မိ
၅။ န့်တော်မူသော၊ အမတ်တော်ကု
၆။ လားအတွင်းစစ်ချိ၊ အမတ်တော်ရွှေစါတော်
၇။ ဖတ်ကြီး၊ မုဇုန္ဒာ၊ အဒေါင်မျာ၊ လေကတ်ပု
၈။ ဏ္ဏားတို့၊ ပမိ · ထောင်စား မောလိတ်သင်္ချိ · တ်
၉။ က် သည်ကောင်းမှုတွင်၊ သ · · ပိုပျ
၁၀။ ကျုခုတ်တောင် ခြေရင်းကျနာတိန်လယ်မြတ်
၁၁။ အနက်ကကျက်သား နှစ်သျှည်းပေးစေသော
၁၂။ ကျော · · အလည်သားမြေး သံတော်ဦးတင် ·
၁၃။ · · · · · · · · · · · ·
၁၄။ · · · · · · · · · · · ·
၁၅။ · · · · · · · · · · · ·

**ကျောက်စာအရေးအသား ပေါရာဏ ဝေါဟာရများ**

| | | |
|---|---|---|
| ၁။ | သက္ကရဇ် | = သက္ကရာဇ် |
| ၂။ | ဖကဲ် | = ဖ ရက် |
| ၃။ | အသျှင် | = အရှင် |
| ၄။ | ဘဝသျှင် | = ဘဝရှင် |
| ၅။ | မုဗုန္ဒါ | = စစ်ဗိုလ်မှူး |
| ၆။ | မောလိတ် | = မီးတား၊ မီးကာ၊ မီးသတ်တာဝန်ခံ |
| ၇။ | သိဃ်ဳ | = သင်္ချိ |
| ၈။ | သှ် | = သည် |
| ၉။ | တောင်ခြီရင် | = တောင်ခြေရင်း |
| ၁၀။ | ကျက်သာ | = ကျက်သား = အမြဲထွန်ယက် စိုက်ပျိုးနေကျမြေ |
| ၁၁။ | ပီ | = ပီး = ပေး |
| ၁၂။ | စီ | = စေ |
| ၁၃။ | လှ် | = လည်း |
| ၁၄။ | သံတော်ဥတင် | = သံတော်ဦးတင် |

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ် မြက်ရိတ်ကျွန်း ကျေးရွာလမ်းအနီး စေတီတစ်ဆူတွင် စတင်တွေ့ရှိသည်။ ယခုမြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

မြောက်ဦးခေတ် ရွှေနန်းသခင်၊ ဆင်ဖြူသခင်၊ ဆင်နီသခင်၊ အရှင်ဘဝရှင် ဝရဓမ္မရာဇာဘွဲ့ခံ ဘုရင်မင်းခမောင်း၏ အလှူမှတ်တမ်းဖြစ်သည်။

ကျောက်စာ၌ ဆင်ဖြူသခင်၊ ဆင်နီသခင်၊ ဘဝရှင်ဝရဓမ္မရာဇာဘွဲ့ခံ ဘုရင်မင်းခမောင်း၏ အလှူမှတ်တမ်း နေ့စွဲကို သက္ကရာဇ် ၉၀၀ ဝါခေါင်လဆန်း ၆-ရက် ဟူ၍တွေ့ရသည်။ ရခိုင်သမိုင်းတွင် ဘုရင်မင်းခမောင်း၏ နန်းစံ သက္ကရာဇ်ကို ၉၇၄-၉၈၄**(AD 1612-1622)**အတွင်းသာတွေ့ရသည်။ ကျောက်စာနှင့်သမိုင်းအဆိုတို့မှာ နှစ်ပေါင်းခုနစ် ဆယ်ကျော်ခန့် ကွာခြားနေသည်ကိုတွေ့ရသည်။

ဤကျောက်စာတွင် အမတ်တော် ရွှေစာတော်ဖတ်ကြီး မုဗုန္ဒာ၊ ပုဏ္ဏား၊ ထောင်စား၊ မောလိတ် စသည့် မြောက်ဦးခတ် မင်းမှုထမ်းများ၏ ဘွဲ့ထူးဂုဏ်ထူးများကိုလည်း ဖတ်ရှုရပေသည်။

မူလထိုးကျောက်စာမျိုးဖြစ်သည်။ ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာဖြင့် ရေးထိုးထားသည်။

## ၂း၁၈။ မဟာဝိနည်းထို့ရ်ကျောက်စာ

### သက္ကရာဇ် ၉၀၅ ခု (AD 1543)

<u>ကျောက်စာ မူရင်းအရေးအသား</u>

<u>(မျက်နှာဘက်)</u>

၁။ သက္ကရာဇ် ၉၀၅ · · စ်
၂။ လွန်သတင်ကျွတ်ဝါနိအမင်မင်
၃။ တိုဝ်ဓါမှန်ကင်မကိုဋ္ဌဖြစ်တော်ပြုသော
၄။ သာသနာဒါယကာသာသနဒါယဒသာသနာနု
၅။ ဂဟာသာသနာတရဖြစ်တော်ပြုသောတရမင်မြတ်
၆။ (ဆ)ရာတော်မဟာဝိနယ်မိုဝ်ရှေ့တော်တွင်ဆင်ကဲ
၇။ · င်ဆရာရွှေကျောင်သောမခန္ဓိနှင့်မုစဲသင်္ဂ
၈။ (ဓာ)ငလှဖြူနှင့်တရာဆိုဝ်ကြသ့်မုစဲသင်္ဂဓါကကာ
၉။ သျှင်ရှေကျောင်သ့်ကျောင်ကျပိရိုဝ်ဟုရ္ဂဆိုဝ်
၁၀။ · လတ်သ့်မင်ပြောင်ကဲမဆြာသျှင်ရွှေကျောင်ကကာ
၁၁။ သင်္ဂဇာအဆက်ဆက်တိုဝ်ကသ့်ကျောင်ကျပိရိ
၁၂။ ဝ်ပိုင်ရိုဝ်မဟိဟုရ္ဂဆိုဝ်လတ်သ့်သက်သေ့လဲမု
၁၃။ စည်လူထွက်သုကောင်ကြိုနေမြက်မုစည်လူ
၁၄။ ထွက်မြိုဝ်ကျော်စာငလှဖြူသ့်သူတိုဝ်သ့်င
၁၅။ တိုဝ်စာသောခါအပိုင်လဲမပြုအကျလဲ
၁၆။ မတောင်ဖုမုစဲလူထွက်မြိုဝ်ကျောင်စာသု
၁၇။ က်သေဆိုဝ်သောခါမုစဲသင်္ချေလတ်

<u>(ကျောဘက်)</u>

၁။ ေ · · · · · · လ
၂။ ဘုံမ · · · · င်အခါ
၃။ ရ · ဆောင်မကို(ဋ္ဌ)ဟုရ္ဂလေ
၄။ ဆိုဝ်သ့်ဆင်ခြေနှင်
၅။ · သေယောက်ပေါက်ေ
၆။ · သာကြောင်သဲကောင်မှု
၇။ · သင်္ချေသ့်သုသက်သေဆိုဝ်
၈။ သောစကာကိုဝ်အာမခံရ္ဂဆို(ဝ်)
၉။ သောကြောင်ငလှဲကျောင်ရှေ
၁၀။ ပြောစကာနှင် · · ကဆင်ခြေ
၁၁။ · · လေမဆိုဝ်သောကြောင် · ·

၁၂။ · ပြာင်ကဲမဆြာသင်ကသျှင်ရွှေ
၁၃။ ကျောင်သောမခန္ဓိကိုဝ်အအော
၁၄။ င်ပေတော်ပြသ့်မင်သံအောင်ကျော
၁၅။ င်တံတိုင်သိုဝ်စိုဃ်ဟိလိုတဂကော
၁၆။ · · · · · · · · · ·
၁၇။ · · · · · · · · · ·

**ခေတ်ကာလ အရေးအသား**

**မျက်နှာဘက်**

၁။ သက္ကရာဇ် ၉၀၅ · · စ်
၂။ လ္ဆန်း သီတင်းကျွတ်တစ်ရက်နေ့ အမင်းမင်း
၃။ တို့၏မှန်ကင်းမကိုဠ် ဖြစ်တော်မူသော
၄။ သာသနာ့ဒါယကာ သာသနာ့ဒါယဒသာသနာန
၅။ ဂ္ဂဟသာသနာတရ ဖြစ်တော်မူသော တရားမင်းမြတ်
၆။ (ဆ)ရာတော် မဟာဝိနည်းထိုရ် ရှေ့တော်တွင် ဆင်ကဲ
၇။ · င်ဆရာရွှေကျောင်းသော မခန္ဓိနှင့် မုစဲသင်္
၈။ (ဇာ)လှေဖြူနှင့် တရားဆိုကြသည် မူစဲသင်္ဇာကကား
၉။ ငါ့ရှင်ရွှေကျောင်းသည် ကျောင်းကျပေးရိုးဟူ၍ဆို
၁၀။ · လတ်သည် မင်းပြောင်ကဲမဆရာ ငါ့ရှင်ရွှေကျောင်းကကား
၁၁။ သင်္ဇာအဆက်ဆက်တို့ကသည် ကျောင်းကျပေးရိုး
၁၂။ ပိုင်ရိုးမရှိ ဟူ၍ဆိုလတ်သည် သက်သေလည်း မူ
၁၃။ စဲလှူထွက် သူကောင်းကြီးနေမြက် မူစဲလှူ
၁၄။ ထွက် မြို့ကျောင်းစား လှေဖြူသည် သူတို့သည် ငါ
၁၅။ တို့စားသောခါ အပိုင်လည်းမပြု အကျလည်း
၁၆။ မတောင်းဖူး မူစဲလှူထွက် မြို့ကျောင်းစား သ
၁၇။ က်သေဆိုသောအခါ မူစဲသင်္ချေငလတ်

**ကြောဘက်**

၁။ ေ · · · · · · · လ
၂။ ဘုံမ · · · · င်အခါ
၃။ ရ · ဆောင်မကို(ဋ္ဌ)ဟူ၍လည်း
၄။ ဆိုသည် ဆင်ခြေနှင့်
၅။ · သေယောက်ပေါက်ေ
၆။ · သာကြောင့် သည်ကောင်းမူ

၇။ ・ သံချီသည် သူသက်သေဆို
၈။ သောစကားကို အာမခံ၍ဆို
၉။ သောကြောင့် ငါလည်း ကျောင်းရွေ့
၁၀။ ပြောစကားနှင့် ・ ・ ကဆင်ခြေ
၁၁။ ・ ・ လေမဆိုသောကြောင့်
၁၂။ ・ ပြာင်ဘဲမဆရာသင်က င့်ါရှင်ရွှေ
၁၃။ ကျောင်း သောမခန္ဓီကိုအအော
၁၄။ င်ပေးတော်ပြုသည် မင်းသံအောင်ကျော
၁၅။ င်းတံတိုင်းသို့ ထိုရှိလိုတာကော
၁၆။ ・ ・ ・ ・ ・ ・ ・ ・ ・ ・
၁၇။ ・ ・ ・ ・ ・ ・ ・ ・ ・ ・

**ကျောက်စာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရဏနှင့် ပါဠိအဓိပ္ပါယ်**

| | | |
|---|---|---|
| ၁။ သတင်ကျွတ် | = | သီတင်းကျွတ် |
| ၂။ ၁ နိ | = | တစ်ရက်နေ့ |
| ၃။ ဖြစ်တော်ပြုသော | = | ဖြစ်တော်မူသော |
| ၄။ တရမင် | = | တရားမင်း |
| ၅။ မဟာဝိနယ်ဓိုဝ် | = | မဟာဝိနည်းထိုရ် |
| ၆။ သင်္ဃာ၊ သင်္ကဇာ | = | သံဃရာဇာ |
| ၇။ သျှင် | = | င့်ါရှင် |
| ၈။ ကကာ | = | ကကား |
| ၉။ သ်ု | = | သည် |
| ၁၀။ ကျောင်းကျ | = | ကျောင်းမှ လူထွက်၍သော်လည်းကောင်း၊ ပြောင်းရွှေ့၍သော်လည်းကောင်း၊ ကွယ်လွန်၍သော်လည်းကောင်း၊ ကျောင်းထိုင်ဆရာတော်အဖြစ်မှ ရာထူးကျသွားခြင်းကို ကျောင်းကျသည်ဟူ၍ခေါ်ဆိုသည်။ |
| ၁၁။ ပိရိဝ် | = | ပီရိုး = ပေးရိုး = ပေးကမ်းသည့် အစဉ်အလာ |
| ၁၂။ ပိုင်ရိဝ် | = | ပိုင်ရိုး = ပိုင်ဆိုင်သည့် အစဉ်အလာ |
| ၁၃။ ပိရိဝ်ပိုင်ရိဝ် | = | ပေးရိုးပိုင်ရိုး = ကျောင်းထိုင်ဆရာတော်အဖြစ်နှင့် ကျောင်းထိုင်စဉ်က ကျောင်းတိုက်တွင် ကျန်ရှိခဲ့သည့် သံဃိကပိုင် ဂရုဘဏ်၊ လဟုဘဏ် ပစ္စည်းများကို လူထွက်သွားသည့် (ဝါ) ကျောင်းမှ အပြီးအပိုင်ပြောင်းရွှေ့သွားသည့် (ဝါ) ပျံလွန်သွားသည့် ပုဂ္ဂိုလ်အား ပေးကမ်းသည့် အစဉ်အလာ၊ ကိုယ်ပိုင်ပစ္စည်းအဖြစ် အပိုင်သိမ်းဆည်းသည့် အစဉ်အလာ။ |
| ၁၄။ မဟိ | = | မရှိ |
| ၁၅။ ရွှဲ | = | ၍ |

| | | |
|---|---|---|
| ၁၆။ အပိုင်လဲမပြု | = | အပိုင်လည်းမပြု |
| ၁၇။ အကျုလဲမတောင်ဖု | = | အကျုလည်းမတောင်းဖူး |
| ၁၈။ လူထွက် | = | ရဟန်းလူထွက် |
| ၁၉။ သုက်သေ | = | သက်သေ |
| ၂၀။ ဆင်ခြေ | = | ထုချေရှင်းလင်းချက် |
| ၂၁။ သဲကောင်မှု | = | သည်ကောင်းမှု |
| ၂၂။ အာမခံ | = | ဟုတ်မှန်ကြောင်း ဝန်ခံသည် |
| ၂၃။ ကျောင်းရှေပြောစကား | = | ကျောင်းတော်၏ရှေ့မှောက်တွင် ထွက်ဆိုသည့်စကား |
| ၂၄။ ဆြာ | = | ဆရာ |
| ၂၅။ ငေ့ျှင် | = | ငါ့ရှင် |
| ၂၆။ အအောင်ပေးတော်ပြုသ် | = | အနိုင်ပေးသည် |

**<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>**

ရခိုင်ပြည်နယ် ရသေ့တောင်မြို့နယ် ဂူတောင်ကျေးရွာ၏ အရှေ့တောင်ထောင့် တစ်မိုင်ခန့်အကွာ ချရားပင်ရင်းကွင်း(ခေါ်) လင်းတနက်ကုန်းရှိ စေတီပျက်တစ်ဆူအနီးတွင် စတင်တွေ့ရှိသည်။ ယခု ဂူတောင်ကျေးရွာ ဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။

ကျောက်စာတွင် လက်ရှိဆင်ကဲ ရွှေကျောင်းဆရာတော် သောမခန္တီနှင့် မူစဲသင်္ဂဇာ င/လုဖြူတို့သည် ကျောင်းကျုပေးရိုးပိုင်ရိုးနှင့်ပတ်သက်၍ အငြင်းအခုံတရားတဘောင်ဖြစ်ကြသည်။ တရားပွဲတွင် သာသနာပိုင်ဆရာတော်ကြီး မဟာဝိနည်းထိုရ်က တရားသူကြီးအဖြစ် ကြားနာစစ်ဆေးသည်။ သက်သေအဖြစ် မူစဲလူထွက် (ရဟန်းလူထွက်)နှင့် မြို့ကျောင်းစားင/လုဖြူတို့က သက်သေအဖြစ်ထွက်ဆိုကြသည်။

ဘုန်းကြီးလူထွက် သက်သေတို့က ငါတို့စားသောအခါ အပိုင်လည်းမပြု၊ အကျုလည်းမတောင်းဖူးဟူ၍ ထွက်ဆိုချက်နှင့် ပတ်သက်၍ မူစဲသင်္ဂဇာင/လုဖြူ (ရဟန်းလူထွက်)က ဆင်ခြေလည်းမပေး၊ ထုချေရှင်းလင်းချက်လည်းမပြုသဖြင့် ဆင်ကဲရွှေကျောင်း ဆရာတော် သောမခန္တီကို အနိုင်ပေးလိုက်သည်ဟူ၍ ရေးထိုးထားသည်။

ဤကျောက်စာသည် ရှေးခေတ်ရခိုင်တို့၏ သာသနာရေးဆိုင်ရာ အမှုအခင်းတစ်ခု၏ ကြားနာစစ်ဆေးစီရင်ဆုံးဖြတ်ပုံကို ကမ္ပည်းကျောက်စာရေးထိုးထားခဲ့သော စီရင်ထုံးတစ်ခုဖြစ်သည်။ သာသနာရေးဆိုင်ရာ အမှုအခင်းများကို မဟာဝိနည်းထိုရ်ဆရာတော်ကြီးမှ ကြားနာစစ်ဆေးစီရင်ဆုံးဖြတ်ကြောင်းကိုလည်း လေ့လာမှတ်သားနိုင်သည်။ ထိုစဉ်က မဟာဝိနည်းထိုရ်၏ဘွဲ့ထူးမှာ အမင်းမင်းတို့၏မှန်ကင်းမကိုဋ္ဌဖြစ်တော်မူသော သာသနာ့ဒါယကာ သာသနာဒါယာဒ၊ သာသနနုဂ္ဂဟ၊ သာသနာတရဖြစ်တော်မူသော တရားမင်းမြတ်ဆရာတော် မဟာဝိနည်းထိုရ်'ဟူ၍ တွေ့ရသည်။ ကျောက်စာပါ သက္ကရာဇ် ၉၁၅-ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ဘုရင်မင်းဗာကြီး (၈၉၃-၉၁၅)**(AD 1531-1553)** လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။



၂း၁၉။ အလယ်နိမ္မုဇာဘုရား ကျောက်စာ

သက္ကရာဇ် ၉၀၆ ခု (AD 1544)

## ၂း၁၉။ အလယ်နိမ္မျုဇာဘုရား ကျောက်စာ
### သက္ကရာဇ် ၉၀၆ ခု (AD 1544)

<u>ကျောက်စာ မူရင်းအရေးအသား</u>

၁။ . . ၉၀၆ခုဝါဆိုဝ်လဆ္ဆန်၁၄ရက်စနေ
၂။ နေအမတ်တော်စစ်တကောင်င်စာ . . .
၃။ တောင်ပြင်တင်ကုပ်တွင်လ့်ဆေသုမ်သျှည်လုပ်
၄။ ကိုဝ်အသျှင်ဘုရင်ဆွံကျွေတော်မူသောသဃ်ရှေ့
၅။ တွင်ရေစက်ချလိုက်၏သင်္ချီတည်သောဟူ
၆။ ၏သံတော်ဆင်သ့်ကာမောင် . က်အဖောင်ငဲ
၇။ သံတော်ချသ့်ကာမင်စေကြီပွင်ရွှေဘစံသာ
၈။ ချစေသ့်ကိုဝ်ငါဆိုဝ်လေသ့်သံတော်ချနေမျိုဝ်
၉။ ယောက်အမတ်တော်ကုလာအတွင်စစ်ချီစစ်ကဲ
၁၀။ လဲလုဲအမှုတော်မင် . . အဆုမ် . . . .
၁၁။ အမတ်တော်ငရွှေစင်နှင်အနောက်တွင် . . .
၁၂။ တောင်တွင်တောခွတ်လုဲဆဲသျှည်ကိုဝ်သင်္ချီတည်သ့် . .
၁၃။ အပြန်အတာမပြည်သော . . . တောင် . . သင် . စီ
၁၄။ ပုမ်မြင်တောင်တွင် . . . . သောတော . . .
၁၅။ မင်သက် . . . . . . ချောင်တွင် . . .
၁၆။ . . . . . . . ကျဟသတည် .
၁၇။ မြိုဝ်သစ်တွင် . . . . . . . တောင်ငေါ
၁၈။ ကြာကိုဝ်စစ်ကောင်ပေါင်ဝတွင် . . တောင် . ေ
၁၉။ ကြိုကိုဝ်တောင် . . . . . . . . .
စာကြောင်းရေ မည်မျှရှိသေးသည်မသိ ကျောက်ချပ်ကျိုးပြတ်သွားသည်။

<u>ခေတ်ကာလ အရေးအသား</u>

၁။ . . ၉၈၆ ခု ဝါဆိုလဆန်း ၁၄ ရက် စနေ
၂။ နေ့ အမတ်တော် စစ်တကောင်းစား . . .
၃။ တောင်ပြင်တင်းကုပ်တွင် လယ်ဆယ်သျှည်းလုပ်
၄။ ကို အရှင်ဘုရင် ဆွမ်းကျွေးတော်မူသော သံဃာရှေ့
၅။ တွင် ရေစက်ချလိုက်၏။ သင်္ချီတည်သောဟူ
၆။ ၏ သံတော်ဆင့်သည်ကား မောင် . က်အဖောင်ငယ်
၇။ သံတော်ချသည်ကား မင်းစေကြီး ပွင့်ရွှေဘစံသာ
၈။ ချစေသည်ကို ငါဆိုလေသည် သံတော်ချ နေမျိုး
၉။ ယောက် အမတ်တော် ကုလားအတွင်း စစ်ချီစစ်ကဲ

၁၀။ လည်း လယ်အမှုတော်မင်း . . အဆုံး . . . .
၁၁။ အမတ်တော် ငရွှေစင်နှင့် အနောက်တွင် . . .
၁၂။ တောင်တွင် တောခုတ်လယ် ဆယ်သျှည်းကို ်သင်္ချိတည်သည် . .
၁၃။ အတိုင်းအတာမပြည့်သော . . . တောင် . . သင် . စီ
၁၄။ ပုမ်မြင်တောင်တွင် . . . . သောတော . . .
၁၅။ မင်သက် . . . . . . ချောင်းတွင် . . .
၁၆။ . . . . . . . ကျပါသတည်း . .
၁၇။ မြို့သစ်တွင် . . . . . . တောင်ငေါ
၁၈။ ကြားကို စစ်(တ)ကောင်းပေါင်းဝတွင် . . တောင်စစ်
၁၉။ ကြီကိုတောင် . . . . . . . . . .

<u>**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**</u>

| | | | |
|---|---|---|---|
| ၁။ | တောင်ပြင် | = | တောင်ဘက်အရပ်ရှိ မြေကွက်လပ် |
| ၂။ | တင်းကုပ် | = | တင်းကုပ်အရပ် |
| ၃။ | လှ် | = | လယ် |
| ၄။ | ဆေ | = | ဆယ် |
| ၅။ | သုမ် | = | သုံး |
| ၆။ | ကိုဝ် | = | ကို |
| ၇။ | အသျှင် | = | အရှင် |
| ၈။ | ဆွံ | = | ဆွမ်း |
| ၉။ | သဃ် | = | သံဃာ = ရဟန်း |
| ၁၀။ | သံတော်ဆင် | = | သံတော်ဆင့် = အမိန့်ချမှတ်သည်/သူ |
| ၁၁။ | သှ် | = | သည် |
| ၁၂။ | သံတော်ချ | = | အမိန့်တော်ချသည် |
| ၁၃။ | မင်စေ | = | မင်းစေ = မင်း၏ အစေခံ |
| ၁၄။ | ကြီ | = | ကြီး |
| ၁၅။ | ဆိုဝ် | = | ဆို |
| ၁၆။ | လဲ | = | လည်း |
| ၁၇။ | အဆုမ် | = | အဆုံး |
| ၁၈။ | တောခွတ် | = | တောခုတ်ထွင်ရှင်းလင်းသည် |
| ၁၉။ | ဆဲ | = | ဆယ် |
| ၂၀။ | အပြန်အတာ | = | အတိုင်းအတာ |
| ၂၁။ | ချောင် | = | ချောင်း |
| ၂၂။ | ကျဟာသတည် | = | ကျပါသတည်း |

၂၃။ မြို်သစ် = မြို့သစ်
၂၄။ တောင်ငေါ = တောင်စွယ်၊ တောင်ထွဋ်၊ တောင်ပူ
၂၅။ ကြိ = ကြီး

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

ဤကျောက်စာကို မြောက်ဦးမြို့ အလယ်နိမ္ဗူဇာဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

ဘုရင်မင်းမြတ်သည် သံဃာတော်များကိုဆွမ်းကျွေးပြီး လယ်မြေများကို ရေစက်ချလှူဒါန်းခဲ့သည်။ ယင်းသို့ လှူဒါန်းကြောင်းကို မင်းမှုထမ်း မင်းစေကြီးပွင့်ရွှေဘစံကို အမိန့်တော်ချမှတ်စေခဲ့သည်ဟူ၍ ရေးထိုးထားသည်။ သို့နှင့် ဤကျောက်စာကို အမိန့်ပြန်တမ်းကျောက်စာဟုဆိုနိုင်သည်။

ဤကျောက်စာ၌ မြောက်ဦးခေတ်တွင် ဘုရင့်ထံပါး အမှုတော်ထမ်းရွက်ခဲ့ကြသော အမတ်တော် စစ်တကောင်းစား၊ သံတော်ဆင့်၊ မင်းစေကြီး၊ သံတော်ချနေမျိုး၊ အမတ်တော် ကုလားအတွင်းစစ်ချီ၊ စစ်ကဲ၊ အမတ်တော် ငရွှေစင် စသည့်ဘွဲ့ထူး၊ ဂုဏ်ထူး၊ ရာထူးများကို တွေ့ရသည်။

သက္ကရာဇ် ၉၀၆-ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ဘုရင်မင်းဗာကြီး (၈၉၃-၉၁၅)**(AD 1531-1553)** လက်ထက်ဖြစ် သည်။

ရခိုင်ဘာသာ၊ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။



၂း၂၀။ သရက်ပင်တောင်မော်ဘုရားကျောက်စာ
(ဘုရင်ဆရာအရိယာဝံသကျောက်စာ)
သက္ကရာဇ် ၉၀၇ ခု (AD 1545)

## ၂း၂၀။ သရက်ပင်တောင်မော်ဘုရားကျောက်စာ (ဘုရင်ဆရာအရိယာဝံသကျောက်စာ)

### သက္ကရာဇ် ၉၀၇ ခု (AD 1545)

**ကျောက်စာ မူရင်းအရေးအသား**

၁။ ရှိဝင်ချောင်မာတတင်လု(ပ်)
၂။ သကြစ်၉၀၇ဝါဆိုဝ်လ္ဆုတ်၁၁ရျာက်ာနို္ဂနိ
၃။ ဖုရင်ဆြာအရိယာဝသ်နောင်ပြုသောကော
၄။ င်မှုဖုရာတွင်ခါသောသ်ရှိကာခိရာပင်ငေ
၅။ လတသျှည်လုပ်ငပိန်ငဲဖုလိတအိမ်ခောင်
၆။ ငပန်တူငဲ . . . . ရင်နွှာတယျာည်
၇။ တင်္ကာငါဆဲယ်စရပ်သ်ရှိတဆဲယ်။ညြမျှ
၈။ လှူသောငါ၏ကောင်မှုကိုဝ်ခီပင်ပါသောမြိုကြိ
၉။ ခိမိုဝ်အစိုဝ်ရသောမင်အစဟိသောသင်္ဃရာ
၁၀။ ဇာဥပရာဇာကလန်သဖျှ်မင်မှုမင်မတ်
၁၁။ မျာတိုဝ်သ်ှချိပင်ပါသောသူကာငါနှအ
၁၂။ ကျိုထပ်မျှုရစိသောဖျက်အံ့တရုံကြံငေ
၁၃။ သာသူကာအပေယ်လေပါတွင်အခါမြင်မြဲ
၁၄။ စွာခံပြီသောခါဖုရာတကာဖြစ်သောခါငေ
၁၅။ လမကျွတ်ပါရအဝစိအခေလေချင်တိုင်
၁၆။ နှစ်စီသော။ ။ငရှိနှစ်ငဲတအိမ်ခေါင်
၁၇။ တင်္ကာလေဆော။

**ခေတ်ကာလ အရေးအသား**

၁။ ရွှေဝင်ချောင်းမှာ တစ်တင်းလု(ပ်)
၂။ သက္ကရာဇ် ၉၀၇ ဝါဆိုလဆုတ် ၁၁ ရက် တနင်္ဂနွေနေ့
၃။ ဘုရင်ဆရာ အရိယာဝံသ နောင်ပြုသော ကော
၄။ င်မှု ဘုရားတွင်ထားသော သင်္ချိကား ခိရာပင်
၅။ လယ်တစ်သျှည်းလုပ် ငပိန်ငယ် ဖုလိတစ်အိမ်ထောင်
၆။ ငပန်းတူငယ် . . . . ရင်နွှားတစ်သျှည်း
၇။ ဒင်္ဂါးငါးဆယ် စရပ်သင်္ချိတစ်ဆယ် ဤမျှ
၈။ လှူသော ငါ၏ကောင်းမှုကို ချီးပင့်ပါသော
၉။ မြေကြီး ထီးမိုးအစိုးရသောမင်း အစရှိသော သံဃာရာ
၁၀။ ဇာ ဥပရာဇာ ကလန် သန်ဖျင် မင်းမှူး မင်းမတ်

၁၁။ များတို့သည် ချီးပင့်ပါသောသူကား ငါနှင့်အ
၁၂။ ကျိုးထပ်မျှရစေသော ဖျက်အံ့ တရံကြဲ
၁၃။ သာသူကား အပါယ်လေးပါးတွင် အခါမြင့်မြဲ
၁၄။ စွာခံပြီးသောခါ ဘုရားတကာဖြစ်သောခါ
၁၅။ လည်း မကျွတ်ပါရ အဝီစိအထဲ လည်ချင်တိုင်း
၁၆။ နစ်စေသော။ ။ ငွေနှစ်ငယ် တစ်အိမ်ထောင်
၁၇။ ဒင်္ဂါးလေးဆယ်။

**ကျောက်စာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**

| | | |
|---|---|---|
| ၁။ ရှိ၊ ရှိ | = | ရွှေ |
| ၂။ မာ | = | မှာ |
| ၃။ သကြစ် | = | သက္ကရာဇ် |
| ၄။ ဝါဆိုဝ်လဆွတ် | = | ဝါဆိုလဆုတ် |
| ၅။ ရျာက် | = | ရက် |
| ၆။ ၁နွိ | = | တနင်္ဂနွေ |
| ၇။ နိ | = | နေ့ |
| ၈။ ဖုရင် | = | ဘုရင် |
| ၉။ ဆြိာ | = | ဆရာ |
| ၁၀။ အရိယာဝသ် | = | အရိယာဝံသ |
| ၁၁။ ဖုရာ | = | ဘုရား |
| ၁၂။ ခါသော | = | ထားသော |
| ၁၃။ လေတသျှည်းလုပ် | = | လယ်တစ်သျှည်းလုပ် |
| ၁၄။ တစ်အိမ်ခောင် | = | တစ်အိမ်ထောင် |
| ၁၅။ နွာတယျာဉ် | = | နွားတစ်သျှည်း |
| ၁၆။ တင်္က်ာ | = | ဒင်္ဂါး |
| ၁၇။ ငါ | = | ငါး |
| ၁၈။ ဆဲယ် | = | ဆေ = ဆယ် |
| ၁၉။ တ | = | တစ် |
| ၂၀။ ခီပင် | = | ချီပင် = ချီးပင့် = ကူညီရိုင်းပင့် |
| ၂၁။ မြိ | = | မြေ |
| ၂၂။ ကြိ | = | ကြီး |
| ၂၃။ ဓိမိုဝ် | = | ထီးမိုး |
| ၂၄။ အစိုဝ်ရ | = | အစိုးရ |
| ၂၅။ သဃ်ရာဇ | = | သံဃရာဇာ |

၂၆။ ကလန် = တစ်ရွာတည်းကို အုပ်ချုပ်ရသော ရွာသူကြီး (ဝါ) အမတ်
၂၇။ သဖျှ = သံဖျင် = သံပျင် = ရွာအများကို အုပ်ချုပ်ရသော သူကြီး/ အမတ်
၂၈။ မင်မှုမင်မတ် = မင်းမှူးမတ်
၂၉။ တိုဝ် = တို့
၃၀။ သုံ = သည်
၃၁။ ငါန္ = ငါနှင့်
၃၂။ အပေယ် = အပါယ်
၃၃။ အဝစိ = အဝီစိ
၃၄။ အခေ = အထဲ
၃၅။ လေချင်တိုင်နစ်စီသော = တဝဲလယ်လယ်လယ်ချင်တိုင်းလယ်၍ နစ်မွန်းပါစေသား

<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာ</u>

မြောက်ဦးမြို့ သရက်ပင်တောင်မော်ဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင် ရှိသည်။ သက္ကရာဇ် ၉၀၇-ခု ဝါဆိုလဆုပ် ၁၁-ရက် တနင်္ဂနွေနေ့တွင် ဘုရင့်ဆရာ အရိယာဝံသဘုန်းတော်ကြီးသည် နောက်မှပြုသော ကောင်းမှုတော်ဘုရားတွင် လယ်၊ ကျွန်နှင့် ဒင်္ဂါးများ လှူဒါန်းခဲ့သည်။ ယင်းကောင်းမှုကို ရိုင်းပင်းကူညီချီးမြှင့်ကြသည့် နောင်လာနောက်သား၊ မြေကြီး၊ ထီးမိုးအစိုးရသောမင်း အစရှိသော သံဃရာဇာ၊ ဥပရာဇာ၊ ရွာသူကြီး မှူးမတ်အပေါင်းတို့သည် ၎င်းနှင့်ထပ်တူထပ်မျှ အကျိုးရကြပါစေ။ ဖျက်ဆီးသောသူတို့ကား အပါယ်လေးပါးတွင် အချိန်ကြာမြင့်စွာ တဝဲလည်လည်ခံကြရပြီး ဘုရားတကာချွတ်သော်လည်း မကျွတ်ပါစေနှင့် အဝီစိငရဲတွင်လည်း လည်ချင်တိုင်းလည် နစ်ချင်တိုင်းနစ်ပါစေဟူ၍ ကျိန်စာတိုက်ထားသည့် အလှူမှတ်တမ်းစာဟု ဆိုနိုင်သည်။

သက္ကရာဇ် ၉၀၇-ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ပထမဦးဆုံးဘုရင် မင်းဗာကြီး (၈၉၃-၉၁၅) **(AD 1531-1553)**လက်ထက်ဖြစ်သည်။

ကျောက်စာတွင်ပါရှိသော အလှူရှင်ဘုန်းတော်ကြီးသည် မင်းဆရာဟူ၍ ဖော်ပြထားသောကြောင့် အရိယာဝံသဆရာတော်ကြီးသည် မင်းဗာဘုရင်မင်းမြတ်၏ ဆရာပင်ဖြစ်ပေမည်။ ကလန်၊ သံပျင် စသည့် သူကြီးရာထူးများကိုလည်း ဤကျောက်စာတွင်တွေ့ရသည်။

ရခိုင်ဘာသာ၊ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

# ၂း၂၁။ ကုလားက ဘုရားကျောက်စာ
## သက္ကရာဇ် ၉၀၇၊ ၉၁၁ ခု (AD 1545/1549)

**ကျောက်စာမူရင်း အရေးအသား**

၁။ · · · · · · · · ရက္ခဓိပဓိ · · · · · ·
၂။ မင်စိုဝ်ရာဇာ · · · · ဖုလက်ရုမ်တံ(ခို) · · ·
၃။ အဓိပဓိဖြစ်သော · · · ရွှိနန်သခင်ဖုရရှင်မင်ပင်သေ · · ·
၄။ ကိုဝ်ဆောက်ခဲ့သော · · · · · ဖုရာရှင်လွန်ခဲ့သော · · · ·
၅။ မိတောမူသောဖုရာနှစ်ဆူတွင်သခ်နွဖုရာကိုဝ်၉၀၇ခုတပိုဝ် · · · ·
၆။ တော်မင်ရွှေကိုဝ်အိမ်ဓောင်ပြုလျှက်၉၁၁ခုက္ကဖုရာမြတ်ကိုတေဖ
၇။ အမှ · သာရမုနိကုန်မြင်မှိုအထက်မဟာစူလာသောဥသ · · · · · · · ·
၈။ · · · · · ရည်သန်မူကိုဝ်တေဇောအာနုပေါ် · · · · ·
၉။ ဝတ် · လျှင်လက်တဖက်ကိုဖြတ်လျှက် · · · · မှယင်နောက် · ·
၁၀။ · · မျာပွန် · · · ထသောလျှင် · · · မတာဓွိဖဖိုဝ်ဇီစသောမင်လှမင်ထက်
၁၁။ · · · · စတြွာဝဋ္ဋါအောက်အဝီစိ · · · ဘီလာလုံစုံထက်ဘုံမြင့်စွာနပ်ဗြမ္မာ
၁၂။ · · · · · · ရိတွက္ကိန်တသိန်ကမ္ဘာရှေမြင်ကြာသောစကြာဓိပဓိ · ·
၁၃။ တန်ခိုဝ်ဟိလျှက်မင်ကတသင်သိတင်ဟိုဝ်ကျော်ဖြစ်လတ်သောလျှင် · ·
၁၄။ သုံပွတ်ကိုမြတ်ထွတ်ဆောင်စီးတြိရတ္တနာတံဆာငါမေအိမ်ရှိ · ·
၁၅။ ကြာမြင်စွာပြယ်ရှာလုယက်စစ်မက်ထိုဝ်မျာတိုင်ကာမူဖန်ခိုက်ရန် · · · ·
၁၆။ ပဲထ · · · မပျက်စိမ်ငှါစကြွာဝဋ္ဋါကိုစောင်ကျင်သောဂုမ္ဘန် ·
၁၇။ · · · · ကြလျှင် · · · · · မြတ်သူတော် · · သော · · · သုံ ·
၁၈။ ကြောင်နောင်ခါကာလ,,ကိုဝ် · · · · · ရှစ်ဆယ်ရှစ်မေတရ · · · ·
၁၉။ တိတိရာသီမိဿလက်နှိုက် · · · · တူကိုဝ် · · · စန်
၂၀။ ရာတိုင်ငေ · · · ထိုဝ်အောင် · · · မကိုက်ရွှေခွက် · · ·
၂၁။ · · · · ကြာ · · · ထင်တွိမြင်လတ်သော · · သံတော်ပွတ်
၂၂။ · · · · ထွက်တော်မြင် · · · · တိုဝ်စံဆက် · · · ·
၂၃။ · · · · ကိုဝ် · · · · က · · ခါနှိုက် · · · · · ·
၂၄။ · · · · · · · · · တန်ဆောင် · · · · · · ·

စာကြောင်းရေ မည်မျှရှိသေးသည်မသိ၊ ကျောချပ်ကျိုး ပြတ်သွားပြီ။

**ခေတ်ကာလအရေးအသား**

၁။ · · · · · · · · ရက္ခာဓိပတိ · · · · ·
၂။ မင်းစိုးရာဇာ · · · · ဘုန်းလက်ရုံးတန်(ခိုး) · ·
၃။ အဓိပတိဖြစ်သော · · · · ရွှေနန်းသခင် ဘုရားရှင်မင်းပင်သည် · · · ·

၄။ ကိုဆောက်ခဲ့သော · · · · · · ဘုရားရှင် လွန်ခဲ့သော · · ·
၅။ မိန့်တော်မူသော ဘုရားနှစ်ဆူတွင် ခန္ဓဘုရားကို ၉၀၇ ခု တပိုး · · · ·
၆။ တော်မင်းရွှေကို အိမ်ထောင်ပြုလျှက် ၉၁၁ ခု ဤဘုရားမြတ်ကိုတည်သော
၇။ ခါမှ · သာရမုနိကုန်းမြင့်မှိုရ်အထက် မဟာစူလသောဠသ · · ·
၈။ · · · · · ရည်သန်မှုကို တေဇော်အာနပေါ် · · · ·
၉။ ဝတ် · လျှင် လယ်တစ်ဖက်ကိုဖြတ်လျှက် · · · မှ ယင်းနောက် · ·
၁၀။ · · များပွန် · · · တသောလျှင် · · · မာတာမွေးဘဘိုးဘေးစသော မင်းလှမင်းလတ်
၁၁။ · · · · စကြွဝဠာ အောက်အဝီစိ · · · ဖီလာလုံးစုံ ထက်ဘုံမြင့်စွာ နတ်ဗြဟ္မာ
၁၂။ · · · · · ရေတွက်ကိန်း တစ်သိန်းကမ္ဘာရှည်မြင့်ကြာသော စကြာဓိပတိ
၁၃။ တန်ခိုးရှိလျှင် မင်းကတသင်း သီတင်းဟိုးကျော်ဖြစ်လတ်သော်လျှင် · ·
၁၄။ သည်ပွတ်ကို မြတ်ထွဋ်နှဆောင်စီး ကြိရတနာတန်ဆာ ငါးမည်အိမ်ရှိ · · ·
၁၅။ ကြာမြင့်စွာ ပြည်ရွာလှယက် စစ်မက်ထိုးများ တိုင်းကားပုပန်ခိုက်ရန် · · · ·
၁၆။ ပေတ · · · မပျက်စိမ့်ငှါ စကြွာဝဠာကို စောင့်ကျင်သော ဂုမ္ဘာန် ·
၁၇။ · · · · ကြာလျှင် · · · · · မြတ်သူတော် · · သော · · သည် · ·
၁၈။ ကြောင့်နောင်ခါကာလ,,ကို · · · · · ရှစ်ဆယ်ရှစ်မည်တရ · · ·
၁၉။ တိတိရာသီ မိဿလက်၌ · · · · တူကို · · · · စန်း · · · ·
၂၀။ ရာတိုင်ငေ · · · ထိုဆောင် · · · မကိုဠ်ရွှေခွက် · · ·
၂၁။ · · · ကြာ · · · သင်တွေမြင်လတ်သော · · သံတော်ပွက်
၂၂။ · · · ထွက်တော်မြင် · · · · တိုစံဆက် · · · · ·
၂၃။ · · · ကို · · · · က · · · ခါ၌ · · · · ·
၂၄။ · · · · · · · · · · တန်ဆောင် · · ·

<u>ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်</u>

| | | | |
|---|---|---|---|
| ၁။ | ရက္ခာ | = | ရခိုင် |
| ၂။ | ဓိပဓိ၊ အဓိပဓိ | = | အဓိပတိ = အကြီးအမှူး၊ အရှင်သခင်အစိုးရ၊ ဧကရာဇ်မင်း |
| ၃။ | မင်စိုဝ်ရာဇာ | = | ဘုရင်ဧကရာဇ် |
| ၄။ | ဖု | = | ဘုန်း |
| ၅။ | လက်ရမ် | = | လက်ရန်း |
| ၆။ | တံခိုး | = | တန်ခိုး |
| ၇။ | ရွှီ | = | ရွှေ |
| ၈။ | ဖုရ | = | ဘုရား |
| ၉။ | မင်းပင် | = | မင်းဗါဘုရင် |
| ၁၀။ | သေ | = | သည် |
| ၁၁။ | ကိုဝ် | = | ကို |
| ၁၂။ | မိတောမူသော | = | မိန့်တော်မူသော |

| | | |
|---|---|---|
| ၁၃။ အိမ်ဆောင်ပြု | = | အိမ်ထောင်ပြု |
| ၁၄။ ဣ | = | ဤ |
| ၁၅။ တေ | = | တည် |
| ၁၆။ ဖြ | = | သော |
| ၁၇။ ခာ | = | ခါ |
| ၁၈။ သာရမုနိကုန်မြင်မှိ | = | သာရမုနိကုန်းမြင့်မှိုရ် |
| ၁၉။ မဟာစူလာသောဠ္ဌသ | = | မဟာစူဋ္ဌသောဠ္ဌသ = ဘုရားအမည် |
| ၂၀။ တေဇာ | = | တေဇော် |
| ၂၁။ မတာ | = | မာတာ = မိခင် |
| ၂၂။ မွိဖ | = | မွေးဖ = မွေးဘ = ဘခင် |
| ၂၃။ ဖိုဝ် | = | ဘိုး |
| ၂၄။ ဖီ | = | ဘေး |
| ၂၅။ နပ် | = | နတ် |
| ၂၆။ ဗြမ္မာ | = | ဗြဟ္မာ |
| ၂၇။ ရိတွက္ကိန် | = | ရေတွက်ကိန်း = ရေတွက်သည် |
| ၂၈။ ရှေမြင်ကြာ | = | ရှည်မြင့်ကြာ |
| ၂၉။ စကြာဓိပမိ | = | စက္ကြာဓိပတိ = စကြာမင်း |
| ၃၀။ တန်ခိုဝ် | = | တန်ခိုး |
| ၃၁။ ဟိ | = | ရှိ |
| ၃၂။ သိတင် | = | သတင်း |
| ၃၃။ ဟိုဝ်ကျော် | = | ဟိုးဟိုးကျော်သည် |
| ၃၄။ သို့ပွတ် | = | သည်းပွတ် = အသည်းနှလုံး |
| ၃၅။ တြိရတ္တနာ | = | ကြိရတနာ = ရတနာသုံးပါး |
| ၃၆။ တံဆာ | = | တန်ဆာ |
| ၃၇။ ငါမေ | = | ငါးမည် |
| ၃၈။ ပြယ်ရှာ | = | ပြည်ရှာ |
| ၃၉။ တိုင်ကာ | = | တိုင်းကား |
| ၄၀။ ဖူဖန် | = | ပူပန် |
| ၄၁။ ပဲ | = | ပေး |
| ၄၂။ မေတာရ | = | မေတ္တာယျ |
| ၄၃။ မကိုက် | = | မကိုဋ္ဌ |
| ၄၄။ တွိမြင် | = | တွေ့မြင် |

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ် ကုလားကကျေးရွာ ကုလမပြင်ဘုရားကုန်းတွင် စတင်တွေ့ရှိသည်။ ၎င်းကုန်းကို မသမာသောသူများတူးဖြို၍ ဤကျောက်စာကို ကျင်းထဲသို့တွန်းချပြီး ဖျက်ဆီးခဲ့ကြသည်ဟုသိရသည်။ ယခု ပျောက်ဆုံးနေသည်။ ကျောက်စာအရ သက္ကရာဇ် ၉၀၇-ခုနှစ်တွင် သင်ခန္ဓဘုရားနှင့် သက္ကရာဇ် ၉၁၁-ခုနှစ်တွင် သာရမုနိကုန်းမြင့်မိုရ်ထက်တွင် မဟာစူဠသောဠသဘုရားနှစ်ဆူကို လှူဒါန်းခဲ့ကြောင်းသိရသည်။ အလှူမှတ်တမ်း ကမ္ဗည်းကျောက်စာပင်ဖြစ်သည်။ သက္ကရာဇ် ၉၀၇-ခု၊ ၉၁၁-ခုနှစ်တို့မှာ ဒုတိယမြောက်ဦးခေတ် ပထမမင်းဗါကြီး (၈၉၃-၉၁၅)**(AD 1531-1553)**လက်ထက်ဖြစ်သည်။ ကျောက်စာတွင်လည်း မင်းဗါကြီး၏အမည်တစ်ခုဖြစ်သော မင်းပင်အမည်ကို တွေ့ရသည်။ သို့နှင့် ကျောက်စာပါ ရက္ခာဓိပတိ မင်းစိုးရာဇာဆိုသူမှာ မင်းဗါဘုရင်ပင်ဖြစ်ပေလိမ့်မည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာ လေးလုံးစပ်လက်ာဖြင့် ရေးသားထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၂၂။ တက်စားပီးထီး စေတီကျောက်စာ
### သက္ကရာဇ် ၉၁၀ ခု (AD 1548)

<u>ကျောက်စာ မူရင်းအရေးအသား</u>

၁။ သကြစ်၉၁၀ခုနတ္တော်လ္ဆန်၈ကြသ
၂။ ပတိနိမိသုမ်မျုဝ်တွင်တက်စာပိ
၃။ မိသေကာပြီ၏ . . .

<u>ခေတ်ကာလ အရေးအသား</u>

၁။ သက္ကရာဇ် ၉၁၀ ခု နတ်တော်လဆန်း ၈ ကြာသ
၂။ ပတေးနေ့ ထီးသုံးမျိုးတွင် တက်စားပေး
၃။ ထီးသည်ကား ပြီး၏ . . .

<u>ကျောက်စာပါ အရေးအသား ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်</u>

| | | | |
|---|---|---|---|
| ၁။ | သကြစ် | = | သက္ကရာဇ် |
| ၂။ | ကြသပတိ | = | ကြာသပတေး |
| ၃။ | နိ | = | နေ့ |
| ၄။ | မိ | = | ထီး |
| ၅။ | သုမ် | = | သုံး |
| ၆။ | မျုဝ် | = | မျိုး |
| ၇။ | တက်စာပီ | = | တက်စားပီး = အစားပေး |
| ၈။ | သေကာ | = | သည်ကား |

<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>

မြောက်ဦးမြို့ ခြင်ကိုက်တောင်ထိပ်ရှိ တက်စားပီးထီးစေတီဂူတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၉၁၀-ခုနှစ် နတ်တော်လဆန်း ၈-ရက် ကြာသပတေးနေ့တွင် ထီးသုံးမျိုးတွင် တက်စားပီး(အစားပေး)သည့် ထီးသည်ကား ပြီး၏ဟူ၍ ရေးထိုးထားသည်။ အလှူမှတ်တမ်းစာဖြစ်သည်။ သက္ကရာဇ် ၉၁၀-ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ပထမဘုရင်မင်းဗာကြီး လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။



၂း၂၃။ ပန်းမြောင်းကျောက်စာ
သက္ကရာဇ် ၉၁၃ ခု (AD 1551)

# ၂း၂၃။ ပန်းမြောင်းကျောက်စာ

## သက္ကရာဇ် ၉၁၃ ခု (AD 1551)

**ကျောက်စာ မူရင်းအရေးအသား**

**ပထမမျက်နှာ**

၁။ သကြစ်၉၁၃
၂။ ခုပြာသို
၃။ ဝ်လပြည်နေဖု
၄။ ရင်မင်ကြိစော
၅။ လူတော်မူသ့်၊တော
၆။ င်ဖြုအနောက်ဖက်
၇။ တွင်မြောက်ကာသ
၈။ ရက်ချောင်အခြား

**ဒုတိယမျက်နှာ**

၁။ တောင်ကာစ
၂။ ဃာ်အခြားဗို
၃။ တောဒတ်ကျုံသွ
၄။ ရ်ဒတ်ဒုဗဲဒက်
၅။ ဂေါနူစဲဒက်သိ
၆။ ရံပေါ်တ်ဒတ်
၇။ ဓာနံဒက်

**တတိယမျက်နှာ**

၁။ ဤကောင်
၂။ မှုကိုင်ဖျ
၃။ က်သသုကာ
၄။ အောက်အ
၅။ ဝိစိန္တိုက်ချစိသော

**ခေတ်ကာလ အရေးအသား**

**ပထမမျက်နှာ**

၁။ သက္ကရာဇ် ၉၁၃
၂။ ခုပြာသို
၃။ လပြည့်နေ့ ဘု
၄။ ရင်မင်းကြီးစော
၅။ လှျုတော်မူသည် တော
၆။ င်ဖြုအနောက်ဘက်
၇။ တွင် မြောက်ကားသ

**ဒုတိယမျက်နှာ**

၁။ ရက်ချောင်းအခြား
၂။ တောင်ကား စ
၃။ ကြိုအခြား ဘိုး
၄။ တော်ခါတ် ဤသွ
၅။ ရံခါတ် ဒဗဲခါတ်
၆။ ဂေါနုခဲခါတ် သိ
၇။ ရံပေါက်ခါတ်
၈။ ခေါ်နဲခါတ်

**တတိယမျက်နှာ**

၁။ ဤကောင်း
၂။ မှုကို ဖျ
၃။ က်သောသူကား
၄။ အောက်အ
၅။ ဝီစိဒ္ဓ ကျစေသော

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်**

| | | | |
|---|---|---|---|
| ၁။ | သကြစ် | = | သက္ကရာဇ် |
| ၂။ | ပြာသိုဝ် | = | ပြာသို |
| ၃။ | လပြည်နေ | = | လပြည့်နေ့ |
| ၄။ | ဖုရင်မင်ကြိ | = | ဘုရင်မင်းကြီး |
| ၅။ | သ္ | = | သည် |
| ၆။ | စဃာ် | = | စကြီး |
| ၇။ | ဗိုတော် | = | ဘိုးတော် |
| ၈။ | ဒက် | = | ဒတ် = ခါတ် = သရီရခါတ်စေတီတော် |
| ၉။ | အဝိစိ | = | အဝီစိ |
| ၁၀။ | နှိုက် | = | ၌ |
| ၁၁။ | စိ | = | စီ = စေ |

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မင်းပြားမြို့နယ်၊ ပန်းမြောင်းမြို့နယ်ခွဲ၊ စေတီပျက်တစ်ဆူတွင်စတင်တွေ့ရှိသည်။ ယခု ပန်းမြောင်းရွှေဖောင်တော်ဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။ သက္ကရာဇ် ၉၁၃-ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် မင်းဗါကြီးလက်ထက်ဖြစ်သည်။ ခါတ်စေတီတော်များတွင် လယ်မြေလှူဒါန်းသည့် ကမ္ပည်းကျောက်စာဖြစ်သည်။ ကျောက်စာတွင်ပါရှိသော 'ဗိုတော်ဒတ်' (ဘိုးတော်ခါတ်)မှာ ပန်းမြောင်းနှင့် ဂုဏ်ကျွန်းကျေးရွာကြားတွင်ရှိသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏ အက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။



၂း၂၄။ သီရိသူရိယ ဓမ္မရာဇာကျောက်စာ
သက္ကရာဇ် ၉၀၅ ခု (AD 1543)

## ၂း၂၄။ သီရိသူရိယ ဓမ္မရာဇာကျောက်စာ
### သက္ကရာဇ် ၉၀၅ ခု (AD 1543)

<u>ကျောက်စာ မူရင်းအရေးအသား</u>

၁။ သက္ကရာဇ်၉၀၅တော်သလင်းလွှန်
၂။ ငါးရက်၅တက်နိတပိုဝ်ငါးနာရီတွင်သီရိ
၃။ သူရိယဓမ္မရာဇာအမည်တော်ဟိသော့မင်စောတည်တော်ေ
၄။ ပြုခယ်သော့ဒုကံကျောင်တွင်လယ်နှင့်မြီအခြာအရှေ့သျှစ်
၅။ သောင်တောင်ခြီနှင့်ဓါးဝယ်သျှင်ဆရာမြီစက်ချကျော
၆။ က်တိုင်ကြီးတောင်လုပ်တိုင်အောက်ကျောက်တိုင်အနော
၇။ က်ကွဲကျောင်သိန်ရာကျောင်မြီဝါးငါပြံနှင်တဲတော်မြော
၈။ င်တဘက်မြောက်တောင်ခြီရင်မြီအနောက်နှင့်သျှစ်သော
၉။ င်ကျောလမ်ရီစီအဖျားဝါးနှစ်ပြံ၊စည်မောင်တွင်အရှိချော
၁၀။ သာငယ်၊တောင်စည်မောင်ချောင်၊အနောက်သရီချောင်မြောင်
၁၁။ အသည်ရွှာ၊လှည်လေဆယ်ခြောက်သျှည်၊တောင်တစ်ရွှာတွင်အရှိကွဲ
၁၂။ ခိုင်လမ်ပင်တောင်တစ်ရွှာအနောက်နေနွှာ်ထောင်စားနန်မြောက်သရီချော
၁၃။ င်သုံ့ပြင်လုမ်၊မုံပြင်ရွှာအရှိသရီချောင်၊တောင်မုံချောင်အနောက်
၁၄။ ကွဲသိကံနား၊မြောက်မြင်မိုဝ်ဇာဒီတောင်ခြေရင်သုံ့ပြင်
၁၅။ လုမ်အကုံ၊ပန်းသမားရွှာတွင်အရှိပိကောက်ချောင်တော
၁၆။ င်ကွဲလမ်းအနောက်ချောင်တိုင်ချောင်မြောက်သင်လယ်သုံ့တွ
၁၇။ င်ဆယ်သျှည်မုန်ရွှာခွင်ဒဏ်ခွင်သိုင်ကြက်ရွှာတွင်အရှိ
၁၈။ ပိကောက်ချောင်တောင်ငကြဲချောင်အနောက်တော
၁၉။ င်ရင်မြောင်ကွဲလမ်သျှည်တွင်ပြင်အလုပ်ဝ(က်)
၂၀။ (ပု)တ်သျှမ်ရွှာအရှိဝက်ပုတ်လမ်းပစ်တောင်ထိထုပ်
၂၁။ ချောင်အနောက်ဝက်ပုတ်ချောင်ခြာမြောက်သမား၊
၂၂။ ချောင်း၊တောင်ဖြုလယ်တသျှဉ်သုမ်ချောင်ကိုပယ်
၂၃။ လျှင်ခုနှစ်သျှည်ငါချောင်တပွါ၊လယ်ယာရွှာသူခွင်စား
၂၄။ မရွှေရွှာတွင်အရှိဂစ်ဆဘနဒီမြစ်
၂၅။ တောင်မောလိပ်ချောင်လက်ဝဲဘက်နှင့်ကြ
၂၆။ င်ချောင်ရီသျှိုင်အနောက်ယောပင်လယ်မြော
၂၇။ က်မြက်ရိတ်ချောင်သည်တွင်ကျွမ်ပြတ်

<u>ခေတ်ကာလ အရေးအသား</u>

၁။ သက္ကရာဇ် ၉၁၅ တော်သလင်းလဆန်း
၂။ ငါးရက် ကြာသပတေးနေ့ တက်နေတပို ငါးနာရီတွင် သီရိ
၃။ သူရိယဓမ္မရာဇာ အမည်တော်ရှိသော မင်းစောတည်တော်
၄။ ပြုခဲ့သော ဒုက္ကန်ကျောင်းတွင် လယ်နှင့်မြေအခြား အရှေ့ သျှစ်
၅။ သောင်းတောင်ခြေနှင့် ဓါးဝယ်သျှင်ဆရာမြေစက်ချကျော
၆။ က်တိုင်ကြီး တောင် လုပ်တိုင်းအောက်ကျောက်တိုင် အနော
၇။ က် ကွဲကျောင်းသိမ်ရာကျောင်းမြေဝါးငါးပြန်နှင့် တဲတော်မြော
၈။ င်တစ်ဘက် မြောက် တောင်ခြေရင်းမြေအနောက်နှင့် သျှစ်သော
၉။ င်းကျော်လမ်းရေစီးအဖျားဝါးနှစ်ပြန် စည်းမောင်းတွင် အရှေ့ချော
၁၀။ င်း သာငယ်တောင်စည်းမောင်းချောင်း၊ အနောက် သရီချောင်းမြောက်
၁၁။ အသည်ရွာလည်း လယ်ဆယ့်ခြောက်သျှည်း တောင်တစ်ရွာတွင် အရှေ့ကွဲ
၁၂။ ခိုင်းလမ်း ပစ်တောင်တစ်ရွာ အနောက် နော်နော်ထောင်စားနန်း မြောက် သရီချော
၂၁၃။ င်းသည် ပြင်လုံး၊ မှုံပြင်ရွာအရှေ့ သရီချောင်း တောင်မှုံချောင်း အနောက်
၁၄။ ကွဲသေကန်နား မြောက်မြင့်မိုရ်တောင်ခြေရင်းသည် ပြင်
၁၅။ လုံးအကုန်၊ ပန်းသမားရွာတွင် အရှေ့ ပီကောက်ချောင်း တော
၁၆။ င် ကွဲလမ်း အနောက် ချောင်းတိုင်ချောင်း မြောက် သင်လယ်သည်တွ
၁၇။ င် ဆယ်သျှည်း မုန်ရွာဒက်ခွင်သိုင်ကြက်ရွာတွင် အရှေ့
၁၈။ ပီကောက်ချောင်း တောင် ငကြဲချောင်း အနောက် တော
၁၉။ င်ရင်း မြောက် ကွဲလမ်းသည်တွင် ပြင်အလုံး ဝ(က်)
၂၀။ (ပု)တ်သျှမ်းရွာ အရှေ့ ဝက်ပုတ်လမ်းပစ်တောင်ထိ လုပ်
၂၁။ ချောင်းတောင်ဖြူ လယ်တစ်သျှည်းသုံးချောင်းကိုပယ်
၂၂။ လျှက် ခုနစ်သျှည်းငါးချောင်းတစ်ပွါ၊ လကျာ်ရွာ သူခွင်စား
၂၃။ မရွေရွာတွင် အရှေ့ ကစ္ဆပနဒီမြစ်
၂၅။ တောင် မောလိပ်ချောင်း လက်ဝဲတက်နှင့် ကြ
၂၆။ င်းချောင်းရေချို အနောက် ယောပင်လယ် မြော
၂၇။ က် မြက်ရိတ်ချောင်း သည်တွင်ကျွန်းပြတ်

<u>ကျောက်စာအရေးအသား ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်</u>

| | | |
|---|---|---|
| ၁။ ၅ | = | ကြာသပတေးနေ့ |
| ၂။ တက်နိ | = | တက်နီ = တက်နေ |
| ၃။ ဟိ | = | ရှိ |
| ၄။ သော့ | = | သော |
| ၅။ ခယ် | = | ခဲ့ |
| ၆။ မြီ | = | မြေ |

၇။ တောင်ခြီ = တောင်ခြေ
၈။ လုပ်တိုင် = လုပ်တိုင်း = မင်းသၚ်ျိုင်း၊ မင်းသုဿန်
၉။ ဝါငါပြံ = ဝါးငါးပြန်
၁၀။ တဘက် = သျှည်းတစ်ဝက်
၁၁။ တောင်ခြီရင်မြီ = တောင်ခြေရင်းမြေ
၁၂။ ရိစိ = ရိစီး = ရေစီး
၁၃။ လှည် = လှည်း
၁၄။ လေ = လယ်
၁၅။ လမ်းပစ် = လမ်းသွယ်
၁၆။ နှန္ဒော်ထောင်စား = နော်နော်ထောင်စား
၁၇။ သှ် = သည်
၁၈။ ပြင် = လယ်မြေ
၁၉။ လုမ်း = အလုံးစုံ၊ အားလုံး
၂၀။ ကျွဲသီးကံနား = ကျွဲသေကန်နား
၂၁။ မြောက်မြင်မိုဝ် = မြောက်မြင်းမှိုရ် (မြောက်ဦးခေတ်တွင် သာသနာရေးဆိုင်ရာ ကိစ္စရပ်များကို ဆွေးနွေးသောလွှတ်တော်၊ ယခု မြောက်ဦးမြို့ ရွာဟောင်းတောကျေးရွာအနီးတွင်ရှိသည်)
၂၂။ ဇာဒီ = စေတီ
၂၃။ ပြင်လုမ်း = လယ်ပြင်အားလုံး
၂၄။ အကုံ = အကုန်
၂၅။ ကျေွဲလမ်း = ကျွဲလမ်း
၂၆။ မုန်ရွာခွင် = မုန်ရွာနယ်နိမိတ်
၂၇။ ဒက်ခွင် = ဒက်နယ်နိမိတ်
၂၈။ ခွင် = နယ်မြေ၊ နယ်နိမိတ်၊ ပိုင်နက်နယ်မြေ
၂၉။ တပွါ = တစ်ပွါ = လယ်တစ်သျှဉ်း၏ လေးပုံတစ်ပုံ
၃၀။ ဂစ်ဆဘနဒီ = ကစ္ဆပနဒီ = ကုလားတန်မြစ်
၃၁။ ရိသျှိုဝ် = ရေချို
၃၂။ ကျွမ်းပြတ် = တစ်ကျွန်းလုံး

**ကျောက်စာနှင့် ပတ်သက်သော အကြောင်းအရာများ**

မြောက်ဦးမြို့ ဒုက္ကန်သိမ်ပုထိုးတော်ကြီးအနီး ဘူးခင်းရေတွင်းတူးရာမှ စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၉၁၅-ခုနှစ်တွင် သီရိမဟာသူရိယဓမ္မရာဇာဘွဲ့ခံ မင်းဗါဘုရင်မင်းမြတ်၏ ဒုက္ကန်ကျောင်းတွင်လှူဒါန်းခဲ့သည့် လယ်မြေအလှူမှတ်တမ်းကမ္ပည်းစာဖြစ်သည်။

ဤကျောက်စာအရ သက္ကရာဇ် ၉၁၅-ခု၊ တော်သလင်းလဆန်း၄ါးရက် ကြာသပဒေးနေ့ထိ ဘုရင်မင်းဗါကြီးသည် နတ်ရွာမစံသေးကြောင်း သိရသည်။ ဤကျောက်စာ၌ သျှစ်သောင်းပုထိုးတော်ကြီးကို 'သျှစ်သောင်း' ဟူ၍ 'သ' အက္ခရာဖြင့် ရေးသားထားသည်ကိုလည်းကောင်း၊ မင်းတို့၏သင်္ချိုင်း 'လုပ်တိုင်း' ဆိုသော ဝေါဟာရကိုလည်းကောင်း၊ သမိုင်းတွင် အရေးပါသည့် 'မြောက်မြင်းမိုရ်' (မြောက်မြင်းမိုရ်နန်း-လွှတ်တော်)ကိုလည်းကောင်း တွေ့ရပေသည်။

မြောက်ဦးခေတ်တွင် မြောက်ဦးနန်းတော်ထဲတွင် လွှတ်တော်တစ်ခု စစ်ရေးဆိုင်ရာနှင့် လူ့ဝှက်ကိစ္စရပ်များကို မဲခွဲဆုံးဖြတ်ရသည့် တောင်မြင်းမိုရ်လွှတ်တော်တစ်ခု၊ သာသနာရေးဆိုင်ရာကိစ္စများကို ဆွေးနွေးဆုံးဖြတ်သည့် မြောက်မြင်းမိုရ်တစ်ခု စုစုပေါင်းလွှတ်တော် အဆောက်အဦးသုံးခုရှိခဲ့ကြောင်းသိရသည်။

ဤကျောက်စာကို ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

# ၂း၂၅။ ထုက္ကန့်သိမ်ဘုရားကျောက်စာ
## သက္ကရာဇ် ၉၁၅ ခု (AD 1553)

ကျောက်စာ မူရင်းအရေးအသား

ပထမပိုင်း

၁။ · · · · · · · · နန် · · ·
၂။ · · · · · ကြိုလှစွာ · · ·
၃။ · · · · · · တြိလောကျနှာ · ·
၄။ · · · · ရာဇာရက္ခာဓိပ္ပတိ · · ·
၅။ · · · · · နန်သခင်ဖုရာ · · ·
၆။ · · · · · သလင်လ္ဆန် · · ·

ဒုတိယပိုင်း

၁။ သာရ · ရွှေ · · ·
၂။ သကြစ်၉၁၅တော် ·
၃။ · နိတပဟိုဝ်တနာရိတွင်
၄။ အရှိအဟာကိုဝ်ရှမ္မော ·
၅။ က်အောက္ကအဝိစိတိုင်ငေ ·
၆။ · နိုက်လူနတ်ဗြဟ္မာ
၇။ · ဘစိလျှက် · · ·

ခေတ်ကာလ အရေးအသား

ပထမပိုင်း

၁။ · · · · · · · · နန်း · · ·
၂။ · · · · · ကြီးလှစွာ · · ·
၃။ · · · · · · တြိလေါကကျနှာ · ·
၄။ · · · ရာဇာရက္ခာဓိပ္ပတိ · · ·
၅။ · · · · နန်းသခင်ဘုရား · · ·
၆။ · · · · · သလင်လ္ဆန်း · · ·

**<u>ဒုတိယပိုင်း</u>**

၁။ သာရ · ရွှေ · · ·
၂။ သက္ကရာဇ် ၉၁၅ · တော် ·
၃။ နေ့တစ်ဗဟို တစ်နာရီတွင်
၄။ အရှေ့အပါးကို ရေမျှော ·
၅။ က် အောက်ကား အဝီစိတိုင်ေ ·
၆။ · ၌ လူနတ်ဖြဟ္မာ
၇။ · ဘစိလျှက် · · ·

**<u>ကျောက်စာအရေးအသား ဝေါဟာရ၊ ပေါရာဏအဓိပ္ပါယ်</u>**

၁။ ရက္ခာဓိပ္ပတိ = ရက္ခာဓိပတိ
၂။ သခင်ဖုရာ = သခင်ဘုရား
၃။ သကြစ် = သက္ကရာဇ်
၄။ နိ = နေ့
၅။ တပဟိုဝ်တနာရီ = တစ်ဗဟိုတစ်နာရီ
၆။ အရှိ = အရှေ့
၇။ အဟ = အပါး
၈။ ကိုဝ် = ကို
၉။ ရှမျှော = ရေမျှော
၁၀။ အောက္က = အောက်ကား
၁၁။ အဝိစိ = အဝီစိ
၁၂။ နှိုက် = ၌
၁၃။ ဖြဟြာ = ဖြဟ္မာ

**<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>**

မြောက်ဦးမြို့၊ ထုက္ကန့်သိမ်ဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ အလျှုမှတ်တမ်း ကမ္ပည်းစာဖြစ်သည်။ သက္ကရာဇ် ၉၁၅ ခု**(AD 1553)** တော်သလင်းလဆန်း ငါးရက်နေ့တွင် ရေးထိုးသည့် သီရိသုရိယဓမ္မရာဇာ (ခေါ်) ဘုရင်မင်းဗါကြီးလက်ထက်၌ရေးထိုးခဲ့သည့် ကျောက်စာနှင့် တဆက်တစပ်တည်း ရေးထိုးခဲ့သော ဒုတိယကျောက်ချပ်ပင် ဖြစ်ပေမည်။ ကျောက်စာကျောဘက်တွင် အင်းဆံ ရေးသားထားသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာဖြစ်သည်။





၂း၂၆။ အရိမေတ္တေယျ ကြေးဆင်းတုတော်ငယ် ပလ္လင်စာ
သက္ကရာဇ် ၉၁၅ ခု (AD 1554)

## ၂း၂၆။ အရိမေတ္တေယျ ကြေးဆင်းတုတော်ငယ် ပလ္လင်စာ
### သက္ကရာဇ် ၉၁၅ ခု (AD 1554)

**ကျောက်စာမူရင်းအရေးအသား**

၁။ ကိနီမြို့ဝ်ဒေါ ်ဂမိ
၂။ မိဂတောင်ဉသိမ်ဒေါ်
၃။ တွင်သိဒင်းသုမ်းည်ျအ
၄။ ယှင်ဩက္ကဉာရတ
၅။ ပည်ဒေါတိသာ်ရသွန်
၆ သုံဩသက္ကရာဇ်၉၁၅ခု
၇။ ဖြယှင်သာသနာဒေါ်နှစ်
၈။ ထောင်၉ဆဲ၇နှစ်တပိုဝ်ခွဲ
၉။ လတွင်သွန်သုံဩ ~ . ~ .

**ခေတ်ကာလ အရေးအသား**

၁။ ကိနီမြို့တော်ဂမိ
၂။ မိဂတောင်ဦး သိမ်တော်
၃။ တွင် သီတင်းသုံးသည့် အ
၄။ ရှင်အဂ္ဂဉာရ တ
၅။ ပည့်တော်တိဿရသွန်း
၆။ သည်၏၊ သက္ကရာဇ် ၉၁၅ ခု
၇။ ဘုရားရှင် သာသနာတော် နှစ်
၈။ ထောင့်ကိုးဆယ်ခုနစ် တပိုးတွဲ
၉။ လတွင် သွန်းသည်၏။ ။

**ကျောက်စာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**

၁။ ကိနီမြို၀်ဒေါ် = ကိနီမြို့တော်
၂။ ဂဓိမိဂတောင်ဥ = ဂဓိမိဂတောင်ဦး
၃။ သိမ်ဒေါ် = သိမ်တော်
၄။ သိဒင်းသုမ်း = သီတင်းသုံး
၅။ သို = သည့်
၆။ အယှင် = အရှင်
၇။ သြက္ကဉာရ = အဂ္ဂဉာရ = ဆရာတော်နာမည်
၈။ တပည်ဒေါ = တပည့်တော်
၉။ တိသ်ာရ = တိဿရ = ရဟန်းတော်အမည်
၁၀။ သွန်သို = သွန်းသည်
၁၁။ သြ = ၏
၁၂။ ဖြာယှင် = ဘုရားရှင်
၁၃။ သိာသနာဒေါ် = သာသနာတော်
၁၄။ တပိုဝ်ခွဲ = တပိုးတွဲ

**ကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ ပီပင်ကုန်းကျေးရွာ၊ တောင်ဖီလာစေတီဌာပနာမှရရှိသည်။ ယခု မြောက်ဦးရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၉၁၅ ခုနှစ်(**AD 1554**) သာသနာတော် သက္ကရာဇ် ၂၀၉၇ ခုနှစ်တွင် ကိနီမြို့တော် ဂဓိမိဂတောင်ဦးသိမ်တော်တွင် သီတင်းသုံးတော်မူသည့် အရှင်အဂ္ဂဉာရ၏တပည့် တိဿရသည် ဘုရားသွန်းလုပ် လှူဒါန်းခဲ့ကြောင်း ကမ္ပည်းစာရေးထိုးထားခဲ့ခြင်းဖြစ်သည်။ သက္ကရာဇ် ၉၁၅ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ဘုရင်မင်းဗါကြီးလက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။



၂း၂၇။ ရွက်ညိုတောင်ဘုရားကျောက်စာ
သက္ကရာဇ် ၉၁၅ ခု (AD 1554)

## ၂း၂၇။ ရွှက်ညို့တောင်ဘုရားကျောက်စာ
### သက္ကရာဇ် ၉၁၅ ခု (AD 1554)

<u>**ကျောက်စာမူရင်း အရေးအသား**</u>

၁။ သက္က၉၁၅ခုတ
၂။ ပေါင်လပြေသတ
၃။ င်နိကရုံရှင်ရုံရှင်
၄။ မာကောင်မှုတွင်သ်
၅။ က္ခိလေလဲသျှည်တ
၆။ နင်္ဂတရာစဗ်တရာ
၇။ နွှာခြောက်ခုတေသေ
၈။ ဆမိဆိုဝ်လ္ဘမာသက်
၉။ ခပြင်လေသုံသျှည်ကိုဝ်
၁၀။ သေ်ဖြုားတွင်သ်က္ခိတေ
၁၁။ ၏အီသ်က္ခိကကိုဝ်ဖျာ
၁၂။ က်သောသူကဂံဖါလာသေ့
၁၃။ ဖြုား . . . မကျှာတ်
၁၄။ . . . . . ရောက်
၁၅။ . . . . . စိ

<u>**ခေတ်ကာလ အရေးအသား**</u>

၁။ သက္ကရာဇ် ၉၁၅ ခု တ
၂။ ပေါင်းလပြည့် သီတ
၃။ င်းနေ့ ကရုံရှင်ရုံရှင်
၄။ မှာကောင်းမှုတွင် သ
၅။ ႀချီလယ်လေးသျှည်း ဒ
၆။ ဂ်ါးတစ်ရာ စပါးတစ်ရာ
၇။ နွှားခြောက်ကောင်တည်သည်
၈။ ဆမိဆိုလ္ဘမှာသက်
၉။ ခပြင်လယ်သုံးသျှည်းကို
၁၀။ ငါ့ရှင်ဘုရားတွင် သႀချီတည်
၁၁။ ၏ ဤသံဃိကကို ဖျ
၁၂။ က်သောသူကား ကမ္ဘာလာသော
၁၃။ ဘုရား . . . မကျွတ်
၁၄။ . . . . . ရောက်
၁၅။ . . . . . စေ

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**

၁။ သက္က = သက္ကရာဇ်
၂။ လပြေ = လပြည့်
၃။ သတင် = သီတင်း
၄။ နိ = နေ့
၅။ မာ = မှာ
၆။ သံကွိ = သံချိ
၇။ လေ = လယ်
၈။ လဲ = လေး
၉။ တန်ဂ် = ဒင်္ဂါး
၁၀။ တရာ = တစ်ရာ
၁၁။ စဗ် = စပါး
၁၂။ နွားခြောက်ခု = နွားခြောက်ကောင်
၁၃။ သက်ခပြင်လေ = သက်ခလယ်ပြင်
၁၄။ သုံသျှည် = သုံးသျှည်း
၁၅။ ကိုဝ် = ကို
၁၆။ သေ် = ငါ့ရှင်
၁၇။ ဖြုား = ဘုရား
၁၈။ တေ = တည်
၁၉။ အီ = ဤ
၂၀။ ဖျာက် = ဖျက်
၂၁။ သံကွိက = သံဃိက
၂၂။ ဂဖါ = ကမ္ဘာ
၂၃။ လာသေ = လာသည်
၂၄။ မကျွာတ် = မကျွတ်
၂၅။ စိ = စီ = စေ

**ကျောက်စာနှင့်ပါတ်သက်သည့် အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ ကျောက်တော်မြို့နယ်၊ ယိုးချောင်းဖျား၊ ရွှေပန်းခိုင်ရွာရှိ စေတီတစ်ဆူအနီး ရွက်ညိုတောင်တွင် စတင်တွေ့ရှိသည်။ ရွှေပန်းခိုင်ရွာအနောက်ဘက် ရုံပြင်မြို့ဟောင်းမှ ဘုန်းတော်ကြီးတစ်ပါး ရွှေ့ပြောင်းယူဆောင်လာခဲ့သည်ဟုသိရသည်။ ယခု စစ်တွေမြို့ ဆရာတော်ဦးဝိလာသကျောင်းတိုက်တွင်ရှိသည်။

သက္ကရာဇ် ၉၁၅ခု**(AD 1554)**တွင် ရုံရှင်ရှိ ကောင်းမှုတော်ဘုရားတွင် သံချိလယ်၊ဒင်္ဂါး၊ နွားများလှူဒါန်းခဲ့သည်။ ဤသံဃိကကို ဖျက်သောသူသည် ကမ္ဘာနှင့်လာသောဘုရားများချွတ်လည်း မကျွတ်ပါစေသတည်းဟူ၍ ကျိန်စာ တိုက်ထားသည်ကိုတွေ့ရသည်။ သက္ကရာဇ် ၉၁၅ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ်ပထမမြောက်မင်းဗါကြီး လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၂၈။ နတ်တံခါး ကြေးဆင်းထုငယ် ပလ္လင်စာ

**သက္ကရာဇ် ၉၁၆ ခု (AD 1554)**

**ကမ္ပည်းစာ မူရင်းအရေးအသား**

၁။ သက္ကရာဇ်၉၁၆ဂေါတုမသတ်မေတဲဧကောင်မှုထု၏ဤ

၂။ တဲသ့်လ့်မြတ်ဤနတ်တံခါအခက်ဘ္ဗုရာဗိ၏

**ခေတ်ကာလ အရေးအသား**

၁။ သက္ကရာဇ် ၉၁၆ ဂေါတမ္မ၊ သတ္တမေတ္တ ဤကောင်းမှုထု၏ ဤ

၂။ တည်သည် လေးမြတ် ဤနတ်တံခါးအထက် ဘုရားပြီး၏

**ကမ္ပည်းစာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**

၁။ ဂေါတုမ = ဂေါတမ္မ

၂။ သတ် = သတ္တ = ဇေါဓိသတ္တ = ဘုရားလောင်း

၃။ မေတဲ = မေတ္တေယျ

၄။ ဧ = ဤ

၅။ ကောင်းမှုထု = ပြုလုပ်လှူဒါန်းသည်၊ ထုလုပ်လှူဒါန်းသည်

၆။ တဲ = တည်

၇။ သ့် = သည်

၈။ လ့်မြတ် = လေးမြတ် = အလေးအမြတ်

၉။ အခက် = အထက်

၁၀။ ဘ္ဗုရာ = ဘုရား

၁၁။ ဗိ = ဗြီး = ပြီး

**ကမ္ပည်းစာနှင့် ပါတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ ပီပင်ကုန်းကျေးရွာ၊ နတ်တံခါးဘုရား ဌာပနာမှုရရှိသည်။ ယခု ပီပင်ကုန်းဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။ နတ်တံခါးအထက်ဘုရားကို သက္ကရာဇ် ၉၁၆ ခုနှစ်တွင် လှူဒါန်းပြီးစီးခဲ့သည်ဟူ၍ ရေးထိုးထားသည်။ သက္ကရာဇ် ၉၁၆ ခုနှစ်(**AD 1554**)သည် ဒုတိယမြောက်ဦးခေတ် ဒုတိယမြောက်မင်း ဘုရင်မင်းသိက္ခာ လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။



၂း၂၉။ ပန်းဈေးမြောင်းကျောက်စာ (ခေါ်) ဝရသံပေါဓိကျောက်စာ
သက္ကရာဇ် ၉၁၆ ခု (AD 1554)

## ၂း၂၉။ ပန်းဈေးမြောင်းကျောက်စာ (ခေါ်) ဝရသံဖေါခိကျောက်စာ
### သက္ကရာဇ် ၉၁၆ ခု (AD 1554)

**<u>ကျောက်စာမူရင်းအရေးအသား</u>**

၁။ သက္ကစ်၉၁၆ခုဝရ
၂။ သဖော ံခိကောင်မု
၃။ ငကောင်မုကိုဝ်ဖျက်သာ
၄။ သူကာအဝိဇ်ကျစ်သော
၅။ ညှိုဝ်သာဥကငဲရောင်သှ်
၆။ အခြီနှစ်ချောင်

**<u>ခေတ်ကာလ အရေးအသား</u>**

၁။ သက္ကရာဇ် ၉၁၆ ခု ဝရ
၂။ သံဖေါခိကောင်းမှု
၃။ ငါ့ကောင်းမှုကိုဖျက်သော
၄။ သူကား အဝီစိကျစေသော
၅။ ညှိုသား ဥက္ကာငယ်ရောင်သည်
၆။ အခြေနှစ်ချောင်း

**<u>ကျောက်စာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်</u>**

၁။ သက္ကစ် = သက္ကရာဇ်
၂။ ဝရသဖော ံခိ = ဝရသံဖေါခိ
၃။ ကောင်မု = ကောင်းမှု
၄။ ငကောင်မုကိုဝ် = ငါ့ကောင်းမှုကို
၅။ ဖျက်သာ = ဖျက်သော
၆။ အဝိဇ် = အဝီစိ
၇။ ကျစ်သော = ကျစေသော
၈။ ညှိုဝ် = ညှို (လူအမည်)
၉။ သာ = သား
၁၀။ ဥကငဲရောင် = ဥက္ကာငယ်ရောင် (လူအမည်)
၁၁။ သှ် = သည်
၁၂။ အခြိ = အခြီ = ခြေထောက်

**ကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ ဝရသံဖေါါခိကျောင်းတိုက်၊ တောင်ဖီလာသမုခ်သိမ်တွင်တွေ့ရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သမုခ်သိမ်တိုင်တွင် ရေးထိုးထားခြင်းဖြစ်၍ ဤသို့စာရေးထိုးထားသော သမုခ်သိမ်တိုင်မျိုး နောက်ထပ်ရှိဦးမည်ဟု ယူဆရသည်။ သက္ကရာဇ် ၉၁၆ ခုနှစ်တွင် ဝရသံဖေါါခိဆရာတော်သည် ကောင်းမှုကုသိုလ်ပြုလုပ်ခဲ့ကြောင်း သူ၏ကောင်းမှုကိုဖျက်သောသူသည် အဝီစိတွင်ကျပါစေဟု ကျိန်ဆိုထားသည်။ သက္ကရာဇ် ၉၁၆ ခုနှစ်(**AD 1554**)သည် ဒုတိယမြောက်ဦးခေတ် ဒုတိယမြောက်မင်း ဘုရင်မင်းတိက္ခာ လက်ထက် ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

# ၂း၃၀။ ပိန္နဲတောင်စေတီကျောက်စာ
## သက္ကရာဇ် ၉၁၇-၈၉၉ ခု (AD 1556-1537)

**ကျောက်စာမူရင်း အရေးအသား**

၁။ သက္ကိစ်၉၁၇ခုသကြိန်လ္ဆုတ်၄
၂။ နိဖုရင်မင်ကြိစောတေတောပြုသော
၃။ လေယ်အယှည်၁၀။မြိဆီအယှည်နှစ်
၄။ ဆယ်။
၅။ သက္ကိ၈၉၉ခုဖြာဗုထိုဝ်သင်ခိလဲခုနှစ်
၆။ ယှည်ဖြာဗုထိုမှ . . . . . . . . .
၇။ တွင်ဟိ၏ . . . . . . . . . . . .
၈။ . . . . . . . . . . . . . . .
၉။ . . . . . . . . . . . . . . .
၁၀။ . . . . . . . . . . . . . . .

**ခေတ်ကာလ အရေးအသား**

၁။ သက္ကရာဇ် ၉၁၇ ခု သကြိန်လဆုတ် ဗုဒ္ဓဟူး
၂။ နေ့ ဘုရင်မင်းကြီးစော တည်တော်ပြုသော
၃။ လယ်အသျှည်း ၁၀။ မြေဆီ အသျှည်း နှစ်
၄။ ဆယ်။
၅။ သက္ကရာဇ် ၈၉၉ ခု ဘုရားပုထိုး သင်္ချိလယ် ခုနစ်
၆။ သျှည်း ဘုရားပုထိုးမှ . . . . . . . . .
၇။ တွင်ရှိ၏ . . . . . . . . . . . . .
၈။ . . . . . . . . . . . . . . . .
၉။ . . . . . . . . . . . . . . .
၁၀။ . . . . . . . . . . . . . . .

**ကျောက်စာအရေးအသား၊ ပေါ်ရာဏ၊ ဝေါဟာရအဓိပ္ပါယ်**

၁။ သက္ကိစ် = သက္ကိ = သက္ကရာဇ်
၂။ ၄ နိ = ဗုဒ္ဓဟူးနေ့
၃။ ဖုရင် = ဘုရင်
၄။ မင်ကြိ = မင်းကြီး
၅။ တေ = တည်
၆။ တော = တော်

၇။ လေယ် = လဲ = လယ်
၈။ ယှည် = သျှည်း
၉။ မြိဆီ = မြေဆီ
၁၀။ ဖြှာ = ဘုရား
၁၁။ ဗုထိုဝ် = ပုထိုး
၁၂။ သင်ခိ = သင်္ချိ
၁၃။ ဟိ = ရှိ

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ မြောက်ဦးမြို့၊ ပိန္နဲတောင်မြို့ရိုးအနီး စေတီတစ်ဆူမှ ရရှိသည်။ ယခု မြောက်ဦးရှေးဟောင်းသုတေသနပြတိုက်တွင် ရှိသည်။ သက္ကရာဇ် ၉၁၇ ခုနှစ်(**AD 1555**) ဘုရင်မင်းတိက္ခာလက်ထက်နှင့် သက္ကရာဇ် ၈၉၉ ခု(**AD 1537**) ဘုရင် မင်းဗါကြီးလက်ထက်တွင် ဘုရားပုထိုးစေတီများ၌ သင်္ချိလယ်အလှူမှတ်တမ်းကို ရေထိုးထားခြင်းဖြစ်သည်။ ကျောက်စာ၏ အပေါ်ပိုင်းလောက်တွင်သာ စာလုံးများ အနည်းငယ် ကျန်ရှိပြီး ကျောက်စာအောက်ပိုင်းတွင် ရေးထိုး ခဲ့သည့် စာလုံးများမှာ လုံးဝ ပျက်ပြေသွားပြီး စာကြောင်းရေ မည်မျှရေးထိုးခဲ့မည်ကိုလည်း မခန့်မှန်းနိုင်ပေ။

ရက္ခဝဏ္ဏ အက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၃၁။ ဝလေဘုရားကျောက်စာ (ခေါ်) သုံးကန်စုဘုရားကျောက်စာ

**သက္ကရာဇ် ၉၁၈ ခု (AD 1556)**

<u>**ကျောက်စာမူရင်း အရေးအသား**</u>

၁။ သကြစ်၉၁၈ခု · · · ·
၂။ ဓရစ်ကန်ဝလေဘုရာ · · ·
၃။ တောင်ငဲကိုဝ်သောတောင် · · · ·
၄။ ရဲကျောက်စရစ်ပြင် · · · · ·
၅။ အခြာမြောက်သိုဝ်လေ · · · ·
၆။ မွိဘအင်ချောင်ငဲ · · · ·
၇။ အခြာကိုဝ်သ်ချိတ့ · · ·
၈။ ၏မှတ်ပါကုန်ငရွေ · · ·
၉။ ်ချိလေကိုဝ်သိန်ခိုဝ်ရောက် · ·
၁၀။ ဘုရင်မင်စောကိုဝ်ဆို၍သ
၁၁။ ်ချိတေ၏ကျောင်နောက်ချောင်ငဲ
၁၂။ တွင်ကျောင်ရာကန်ရာကိုဝ်သ်ချိ
၁၃။ တ၏ဘုရာမြောက်ကဆင်ထိန်င
၁၄။ ကောင်ငဲပြာတွင်ကြွက်ခဲချောင်ငဲ
၁၅။ အခြာအရှိဘက်ကိုဝ်တင်ကာတဆဲပ
၁၆။ ဆိုဝ်တထေမျှက်သုတ်တထေအသိ
၁၇။ ပြင်တင်ကာတချပ်ပီ၏အပေါင်
၁၈။ သော်တဆဲ့သုမ်ချပ်ပီ၏သ်ချိ · ·
၁၉။ ၏အပေါင်သောတင်ကာ · · · ·
၂၀။ လေနှစ်သျှည်သုမ်း · · · · ·

<u>**ခေတ်ကာလ အရေးအသား**</u>

၁။ သက္ကရာဇ် ၉၁၈ ခု · · · ·
၂။ ဓရစ်ကန် ဝလယ်ဘုရား · · ·
၃။ တောင်ငယ်ကိုသောတောင် · · · ·
၄။ ရဲကျောက်စရစ်ပြင် · · · · · ·
၅။ အခြား မြောက်သို့ လယ် · · · ·
၆။ မွေးဘအင်းချောင်းငယ် · · · ·
၇။ အခြားကို သ်ချိတည် · · ·

၈။ ၏ မှတ်ပါကုန် ငရွှေ . . .
၉။ ဗိုလယ်ကို သိဃ်ပိုရောက် . .
၁၀။ ဘုရင်မင်းစောကိုပြော၍ သ
၁၁။ ဗိုတည်၏ ကျောင်းနောက်ချောင်းငယ်
၁၂။ တွင် ကျောင်းရာကန်ရာကို သဗို
၁၃။ တည်၏ ဘုရားမြောက်က ဆင်ထိန်းင
၁၄။ ကောင်းငယ်ပြားတွင် ကြွက်ခဲချောင်းငယ်
၁၅။ အခြား အရှေ့ဘက်ကို ဒင်္ဂါးတစ်ဆယ် ပု
၁၆။ ဆိုးတစ်ထည် မျက်နှာသုတ်တစ်ထည် အသိ
၁၇။ ပြင်ဒင်္ဂါးတစ်ချပ်ပေး၏ အပေါင်း
၁၈။ သော် တစ်ဆယ့်သုံးချပ်ပေး၏ သဗို . .
၁၉။ ၏အပေါင်းသော် ဒင်္ဂါး . . . . .
၂၀။ လယ်နှစ်သျှည်းသုံး . . . . .

**<u>ကျောက်စာပါအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်</u>**

၁။ သကြစ် = သက္ကရာဇ်
၂။ လေ = လယ်
၃။ ငဲ = ငယ်
၄။ ကိုဝ် = ကို
၅။ ပြင် = ကွင်းပြင် = လယ်ကွင်းပြင်
၆။ သိုဝ် = သို့
၇။ မွိဘ = မွိုးဘ = မွေးဘ = ဘခင်
၈။ တှ = တည်
၉။ သိန်ခိုဝ် = သိဃ်ပို = သီဟိုဠ်
၁၀။ ဆို = ပြောဆိုသည်
၁၁။ တေ = တည်
၁၂။ ပြာ = ပြား = မြစ်ချောင်းနံဘေးတွင်ပေါက်ရောက်သော ဒီရောက်တော
၁၃။ အရှိဘက် = အရှေ့ဘက်
၁၄။ တင်ကာ = ဒင်္ဂါး
၁၅။ တ = တစ်
၁၆။ ဆဲ = ဆဲ့ = ဆယ်
၁၇။ ပဆိုဝ် = ပုဆိုး = စောင်
၁၈။ ထေ = ထည်
၁၉။ မှျက်သုတ် = မျက်နှာသုတ်

၂၀။ အသိ = အသိမိတ်ဆွေ
၂၁။ တချပ် = ဒင်္ဂါးကျပ်တစ်ရာနှင့်ညီသော ဒင်္ဂါးပြား
၂၂။ သုမ် = သုမ်း = သုံး
၂၃။ ပီ = ပီး = ပေး
၂၄။ အပေါင် = အပေါင်း

**ကျောက်စာနှင့် ပါတ်သက်သည့် အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ မင်းပြားမြို့နယ်၊ ပြင်ယောင်းကျေးရွာအနီးရှိ ဘုရားဆင်းတုတော်များ အနီးတွင် စတင်တွေ့ရှိသည်။ ယခု ပြင်ယောင်းဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။ မူလက ကျောက်စာနှစ်ချပ်ရှိခဲ့သည်။ ကျန်တစ်ချပ်မှာ မြစ်ကမ်းပါးပြိုရာတွင်ပါသွားသည်ဟုသိရသည်။ သက္ကရာဇ် ၉၁၈ ခုတွင် ကျောက်စရစ်ကန်ဘုရားခေါ် (ဝလေဘုရား)တွင် လယ်၊ ဒင်္ဂါးများ ပေးလှူခဲ့ကြောင်း ရေးထိုးထားသည်။ သက္ကရာဇ် ၉၁၈ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ဒုတိယမြောက်ဘုရင် မင်းတိက္ခာ(၉၁၅-၉၁၈)**(AD 1553-1556)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၃၂။ ပြွန်ခေါင်ကျေးရွာ ဆင်းတုတော် ကမ္ပည်းစာ
### သက္ကရာဇ် ၉၃၀ (AD 1568)

**ပထမဆင်းတုတော်မှ ကမ္ပည်းစာ မူရင်းအရေးအသား**

၁။ ၉၃၀နပျုံလ · · · · · ကေချိန · · စဖြုသ္မံမောင်နံကောင်မှပြုသ်

**ခေတ်ကာလ အရေးအသား**

၁။ ၉၃၀ နံယုံလ · · · · · ကြေးချိန် · · စံဖြုသ္မီးမောင်နံ ကောင်းမှုပြုသည်

**ဒုတိယဆင်းတုတော်မှ ကမ္ပည်းစာ မူရင်းအရေးအသား**

၁။ ကက်ကုံသန်

**ခေတ်ကာလ အရေးအသား**

၁။ ကကုဿန်

**ကျောက်စာပါ အရေးအသား**

၁။ နပျုံလ = နံယုံလ
၂။ ကေချိန် = ကြေးချိန်
၃။ စဖြု = စံဖြု
၄။ သ္မံမောင်နံ = သ္မီးမောင်နံ
၅။ ကောင်မှပြု = ကောင်းမှုပြု
၆။ သ် = သည်

**ကမ္ပည်းစာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ ပြွန်ခေါင်ကျေးရွာ၊ အနောက်မြောက်ဘက်၊ မြစ်တက်ဘုရားကုန်းတွင် စတင် တွေ့ရှိသည်။ ယခု ပြွန်ခေါင်ဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။ အရွယ်အစားမတူညီသော ဗုဒ္ဓကြေးဆင်းတုတော်လေးဆူကို ပြွန်ခေါင်ကျေးရွာအနီး စေတီပျက်ကုန်းတစ်ခုမှ တူးဖော်ရရှိခဲ့သည်။ အကြီးဆုံး ဆင်းတုတော်၏ ဓမ္မခံပတ်လည်တွင် ဤကမ္ပည်းစာတစ်ကြောင်းကိုရေးထိုးထားပြီး ဒုတိယဆင်းတုတော်တွင်လည်း စာအနည်းငယ်ပါသည်။ အကြီးဆုံးဆင်းတုတော်မှာ ဉာဏ်တော်အမြင့် ၁၄"၊ ဒူးစွန် ၁၀"၊ ရင် ၆½"၊ ဒုတိယဆင်းတုတော်မှာ ဉာဏ်တော်အမြင့် ၉"၊ ဒူးစွန် ၅½"၊ ရင် ၄"၊ တတိယဆင်းတုတော်မှာ ဉာဏ်တော်အမြင့် ၆"၊ ဒူးစွန် ၄"၊ ရင် ၃"၊ ပလ္လင် ၃"၊ စတုတ္ထဆင်းတုတော်မှာ ဉာဏ်တော်အမြင့် ၅"၊ ဒူးစွန် ၃½"၊ ရင် ၂½"၊ ပလ္လင် ၆½" ခန့်ဖြစ်သည်။ ကကုသန်၊ ဂေါဏဂုံ၊ ကဿပ၊ ဂေါတမ္မဘုရားများအဖြစ် ဌာပနာပြုခဲ့ဟန်တူသည်။ သက္ကရာဇ် ၉၃၀ သည် ဒုတိယ မြောက်ဦးခေတ် စကြာဝဒေးမင်း (၉၂၆-၉၃၃)**(AD 1564-1571)** လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။

## ၂း၃၃။ ဝတ်အိပ်ကုန်း ဘုရားကျောက်စာ

### ခန့်မှန်းသက္ကရာဇ် ၉၃၁ ခု (AD 1569) သာသနာသက္ကရာဇ် ၂၁၁၃ ခု

**ကျောက်စာမူရင်း အရေးအသား**

၁။ သုမ်လုသပ္ပ(ညု)
၂။ မေစ္စာသါသ(နာ)
၃။ နှစ်ထေါင်တရတာဆဲသုမ်(တန်)
၄။ ဆောင်မုလ္လုတ်ငါရက်တက်နေ · ·
၅။ တိ+ရိဘာဝနာတိတ္ထာပဝရမဟာခ · ·
၆။ သောစပုဒ်ပါသောင်ဝန်ထောက် · ·
၇။ မကိုက်တန်ဆာဖြင်တိ · · · · ·
၈။ သခင်ဘဝရှင်မင်တြာသ့် · · သ့်၏ခါ ·
၉။ · သိ · ရွှေဇာတိကိုဝ် · · · · · ·
၁၀။ ဖြာ · · က်စင်၏

**ခေတ်ကာလအရေးအသား**

၁။ သုံးလူ့သဗ္ဗ(ညု)
၂။ မြတ်စွာသာသ(နာ)
၃။ နှစ်ထောင့်တစ်ရာတစ်ဆယ့်သုံး (တန်)
၄။ ဆောင်မုန်းလဆုတ်ငါးရက် တက်နေ · ·
၅။ တြိဘာဝနာဒိတ္ထာပဝရမဟာခ · ·
၆။ သောစပုဒ်ပါသောင် ဝန်ထောက် · ·
၇။ မကိုင်မှုတန်ဆာဖြင့် တိ · · · · ·
၈။ သခင်ဘဝရှင်မင်းတရားသည် · · သည်၏ခါ ·
၉။ · သိ · ရွှေစေတီကို · · · · · · · · ·
၁၀။ ဘုရား · · က်စင်၏

**ကျောက်စာအရေးအသား ဝေါဟာရ ပေါ်ရာကာအဓိပ္ပါယ်**

၁။ သုမ်း = သုံး
၂။ လု = လူ့
၃။ သပ္ပညု = သဗ္ဗညု
၄။ မေစ္စာ = မြတ်စွာ
၅။ တရတာဆဲသုမ် = တစ်ရာ့တစ်ဆယ့်သုံး

၆။ တန်ဆောင်မု = တန်ဆောင်မုန်း
၇။ တိ+ရိဘဝနာတိတျာ = တြိဘာဝနာဒိတျာ
၈။ မကိုက်တန်ဆာ = မကိုဋ်တန်ဆာ
၉။ မင်တြာ = မင်းတရား
၁၀။ သ် = သည်
၁၁။ ဇာတိ = စေတီ
၁၂။ ကိုဝ် = ကို
၁၃။ ဖြာ = ဘုရား

**ကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ ဝတ်အိပ်ကုန်းဘုရားတွင် စတင်တွေ့ရှိသည်။ ယခုမြောက်ဦးမြို့ ရှေးဟောင်းသုတေသန ပြတိုက်တွင်ရှိသည်။ သာသနာသက္ကရာဇ် ၂၁၁၃ခု ကောဇာသက္ကရာဇ်၉၁၃ခုဒုတိယမြောက်ဦးခေတ် ဘုရင်မင်းစောလှ (၉၁၈-၉၂၆) လက်ထက်တွင် စေတီတော်လှူဒါန်းသော ကမ္ပည်းကျောက်စာဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၃၄။ ပုဏ္ဏားမြောင်းကြေးဆင်းတုတော် တစ်ဆူ၏စာ
### သက္ကရာဇ် ၉၃၆ ခု (AD 1574)

**ကမ္ပည်းစာ မူရင်းအရေးအသား**

၁။ ၉၃၆ ·

**ခေတ်ကာလ အရေးအသား**

၁။ ၉၃၆ ·

**ကမ္ပည်းစာနှင့် ပတ်သက်သည့် အကြောင်းအရာ**

မြောက်ဦးမြို့ ပုဏ္ဏားမြောင်းအနီး စေတီတော်တစ်ဆူမှရရှိသည်။ ယခင် စန္ဒမဏ္ဍူကျောင်း ယခုမဟာကုသလကျောင်းဆရာတော် ဦးဝဏ္ဏိတထံတွင်ရှိသည်။ သက္ကရာဇ် ၉၃၆ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ပဥ္စမမြောက်မင်း မင်းဖလောင်း(၉၃၃-၉၅၅)(**AD 1571-1593**) လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

# ၂း၃၅။ ရွှေစံဦးဆင်းတုတော် ခမ္ဘခံစာ
## သက္ကရာဇ် ၉၃၉ ခု (AD 1577)

**ကမ္ပည်းစာ မူရင်းအရေးအသား**

**ရှေ့မျက်နှာ**

၁။ ရွှေစံဦး

**နောက်မျက်နှာ**

၁။ //သကရစ်၉၃၉ပြါသိုဝ်လပြဲ့တနင်ကန္ဒေနေ့ပြီသည်///·//

**ခေတ်ကာလ အရေးအသား**

**ရှေ့မျက်နှာ**

၁။ ရွှေစံဦး

**နောက်မျက်နှာ**

၁။ //သက္ကရာဇ် ၉၃၉ ပြာသိုလပြည့် တနင်္ဂနွေနေ့ပြီးသည်///·//

**ကမ္ပည်းစာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်**

၁။ သကရစ် = သက္ကရာဇ်

၂။ ပြာသိုဝ်လပြည့် = ပြာသိုလပြည့်

၃။ တနင်ကန္ဒေနေ့ = တနင်္ဂနွေနေ့

**ကမ္ပည်းစာနှင့် ပါတ်သက်သည့် အကြောင်းအရာများ**

နန်းစဦဘုရားတစ်ဆူဖြစ်သည်။ ယခု စစ်တွေမြို့ ရွှေစေတီကျောင်းတွင်ရှိသည်။ သက္ကရာဇ် ၉၃၉ ခုနှစ်တွင် ဘုရားသွန်းလုပ် လှူဒါန်းခဲ့ကြောင်း ကမ္ပည်းစာရေးထိုးထားသည်။ သက္ကရာဇ် ၉၃၉ ခုနှစ်သည် ဒုတိယမြောက် ဦးခေတ် ပဉ္စမမြောက်မင်း ဘုရင်မင်းဖလောင်း(၉၃၃-၉၅၅)**(AD 1571-1593)**လက်ထက်ဖြစ်သည်။ ('ရွှေစံဦး' ဆိုသောအမည်ကိုဘုရား၏ အမည်နာမဟူ၍လည်း ယူဆကြသည်) ဉာဏ်တော်အမြင့် ၁၉ လက္မ၊ ရင် ၇ လက္မ၊ ဒူး ၁၃ လက္မ ခန့်ရှိသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကမ္ပည်းစာမျိုးဖြစ်သည်။

# ၂း၃၆။ ဂဠုန်တောင်ဘုရားကျောက်စာ (ငါးမျက်နှာ)
## သက္ကရာဇ် ၉၄၃၊ ၉၄၇ ခု (AD 1581/1585)

<u>ကျောက်စာမူရင်း အရေးအသား</u>

<u>ပထမမျက်နှာ</u>

၁။ နမောတဿတိမြောက်ကုမြိုဝ်နိုက်
၂။ လွန်လီပြီသောခာစောမွန်အစဟိသော
၃။ ၁၁ဆက်သောမင်းတိုဝ်၏အဆုံးနိုက်ဖြစ်
၄။ သောဘဝရှင်မင်းပင်၏သားတော်ကြီးဖြစ်
၅။ (သော)ဘုရင်မင်းတိခာ၏သားတော်အ

<u>ဒုတိယမျက်နှာ</u>

၁။ လတ်ဖြစ်သောဘုံလက်ရုံးပညာပဋိဘန်နှင်
၂။ ပြွစုံသောမင်ကြီရွှေညိုဝ်သေ။ဘဝရှင်မင်ပင်
၃။ ၏သာတော်အလတ်ဖြစ်သောသက်ပြယ်
၄။ ကိုဝ်အစပြု၍မြို့ပြယ်တိုင်အောင်ကိုဝ်
၅။ ခြီတော်ဆန်၍လက်နက်သွင်းတော်ပြုသော
၆။ . . . . . . . ၏သမီးတော်ဖြစ်

<u>တတိယမျက်နှာ</u>

၁။ သောအဆင်းငါးပါးနှင့်ပြေယ်စုံသောစိ
၂။ တ်စိန်လျှင်ချမ်းလှသောလောကဒေ
၃။ ဝီအမေဟိသောသီးတော်အလတ်နှင့်အိ
၄။ န်ထောင်တော်ပြုပြေွလျှင်စလက််သူ

<u>စတုတ္ထမျက်နှာ</u>

၁။ . . နိုက်ခြေတော်ချသောအခာ
၂။ သုမီမောင်နံနိုက်ပါညီညာကြ၍
၃။ သက်ကြစ်၉၄၃ခုဖိုဝ်ခေါင်ငေ
၄။ တာင်၏အရှေ့ဖက်ကလုံတောင်
၅။ နိုက်ဘုရာတေတော်မူ၏ဘုရာ

**ပဥ္စမမျက်နှာ**

၁။ တောင်ဘက်ချည်တွင်ရွှေကျောင်စေ

၂။ ဒဝန်ဆောက်တော်ပြု၍ပိဋ္ဌ

၃။ ကဋ္ဌပိတင်နိုက်ကျော်ဇောလှသော

၄။ ကုတ္တမတေဇောမဟာဓေအသက်ကြ

၅။ ၆၉၄၇ခုဝါဆိုဝ်လတွင်ကျောင်းနှင်ဘုရာ

**ခေတ်ကာလ အရေးအသား**

**ပထမမျက်နှာ**

၁။ နမောတဿတိ မြောက်ဦးမြို့၌

၂။ လွန်လေပြီးသောခါ စောမွန်အစရှိသော

၃။ ၁၁ ဆက်သောမင်းတို့၏ အဆုံး၌ဖြစ်

၄။ သော ဘဝရှင်မင်းပင်၏ သားတော်ကြီးဖြစ်

၅။ (သော) ဘုရင်မင်းတိက္ခာ၏ သားတော်အ

**ဒုတိယမျက်နှာ**

၁။ လတ်ဖြစ်သော ဘုန်းလက်ရုံးပညာ ပဋိဘန်နှင့်

၂။ ပြည့်စုံသော မင်းကြီးရွှေညိုသည်။ ဘဝရှင်မင်းပင်

၃။ ၏ သားတော်အလတ်ဖြစ်သော သက်ပြည်

၄။ ကိုအစပြု၍ မြို့ပြည်တိုင်အောင်ကို

၅။ ခြေတော်ဆန့်၍ လက်နက်သွင်းတော်ပြုသော

၆။ . . . . . . . ၏ သမီးတော်ဖြစ်

**တတိယမျက်နှာ**

၁။ သော အဆင်းငါးပါးနှင့်ပြည့်စုံသော စ

၂။ ည်းစိမ်လျှင်ချမ်းလှသော လောကဒေ

၃။ ဝီအမည်ရှိသော သမီးတော်အလတ်နှင့် အိ

၄။ မ်ထောင်တော်ပြုပြီးလျှင် စလက်သူ

**စတုတ္ထမျက်နှာ**

၁။ . . ၌ ခြေတော်ချသောအခါ

၂။ သမီးမောင်နှံနှစ်ပါး ညီညာကြ၍

၃။ သက္ကရာဇ် ၉၄၃ ခု ဖိုးခေါင်ငေ

၄။ တာင်၏ အရှေ့ဘက် ဂဠုန်တောင်

၅။ ၌ ဘုရားတည်တော်မူ၏ ဘုရား

**ပဋ္ဌမမျက်နှာ**

၁။ တောင်ဘက်လှျိုတွင် ရွှေကျောင်းဖေ
၂။ တဝန်ဆောက်တော်ပြု၍ ပိဋ္ဌ
၃။ ကတ်ဗေဒင်၌ ကျော်ဇောလှသော
၄။ ဥတ္တမတေဇောမဟာထေရ်အား သက္က
၅။ ရာဇ် ၉၄၇ ခု ဝါဆိုလတွင် ကျောင်းနှင့်ဘုရား

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်**

၁။ မြောက်ကုမြိုဝ် = မြောက်ဦးမြို့
၂။ နှိုက် = ၌
၃။ လွန်လီပြီသော = လွန်လေပြီးသော
၄။ ခာ = ခါ
၅။ ဟိ = ရှိ
၆။ တိုဝ် = တို့
၇။ မင်းပင် = မင်းဗါကြီး
၈။ မင်းတိခာ = မင်းတိက္ခာ
၉။ ဘုံ = ဘုန်း
၁၀။ ပညာပဋ္ဋိဘန် = ပညာပဋ္ဋိပန္န = ဉာဏ်ပညာဖြင့် ပြည့်စုံသောသူ
၁၁။ ပြဲ့စုံ = ပြေယ်စုံ = ပြည့်စုံ
၁၂။ သေ = သည်
၁၃။ ပြဲယ် = ပြည်
၁၄။ ကိုဝ် = ကို
၁၅။ ခြီ = ခြေ
၁၆။ ခြီတော်ဆန့် = ခြီတော်ဆန့် = ခြေဖဝါးတော်အောက် သိမ်းသွင်းသည်
၁၇။ သမှီး = သမီး
၁၈။ စိတ်စိန် = စည်းစိမ်
၁၉။ အမေ = အမည်
၂၀။
၂၁။
၂၂။ အိန်ထောင် = အိမ်ထောင်
၂၃။ ပြုပြေ့လျှင် = ပြုပြီးလျှင်
၂၄။ ခြေတော်ချ = သိမ်းပိုက်သည်
၂၅။ အခာ = အခါ

၂၇။ နှိုက်ပါ = နှစ်ပါး
၂၈။ သက်ကြစ် = သက္ကရာဇ်
၂၉။ ဖိုဝ်ခေါင်တောင် = ဖိုးခေါင်တောင်
၃၀။ ကလုံတောင် = ဂဠုန်တောင်
၃၁။ တေ = တည်
၃၂။ ချည် = လှူ
၃၃။ စေဒဝန် = ဇေတဝန်
၃၄။ ပိဋ္ဋကဋ္ဋ = ပိဋကတ်
၃၄။ ပီတင် = ဗေဒင်
၃၅။ ကုတ္တမတေဇော မဟာခေ = ဥတ္တမတေဇောမဟာထေရ်
၃၆။ အ = အား

**ကျောက်စာနှင့် ပါတ်သက်သည့် အကြောင်းအရာ**

မြောက်ဦးမြို့ ဂဠုန်တောင်စေတီတော် ကျောက်စာဖြစ်သည်။ ဤကျောက်စာကို သိုက်ဆရာများက ခိုးယူသွားပြီး မင်းပြားမြို့နယ်၊ ဆတ်ကျာကုလားရွာတွင်ထားရှိခဲ့သည်။ ဆတ်ကျာကုလါးရွာမှတဖန် မင်းပြားမြို့ ဇေယျသုခကျောင်းသို့ ပြောင်းရွှေ့သိမ်းဆည်းထားခဲ့သည်။ ၄င်းမှတဖန် သိုက်ဆရာများခိုးယူပြီး မြောက်ဦးမြို့ သဘော်ဆိပ်၊ ချင်းရွာတွင် ဝှက်ထားခဲ့သည်။ ၄င်းမှ သိမ်းဆည်းပြီး ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသန ပြတိုက်သို့ ပြောင်းရွှေ့ထိန်းသိမ်းထားသည်။

ကျောက်စာ၏ နိဒါန်းတွင် 'နမောတဿ' ဂါထာနှင့် အစပျိုးထားသည်။ ဘုရင်မင်းဗါကြီး၏ သားတော်ကြီး ဘုရင်မင်းတိက္ခာ၏ သားတော်အလတ် မင်းကြီးရွှေညိုသည် ဘုရင်မင်းဗါကြီး၏ သားတော်လတ်၏ သမီးတော်အလတ် လောကဒေဝီနှင့် ထိမ်းမြားလက်ထပ်ပြီးလျှင် သက္ကရာဇ် ၉၄၃ ခုနှစ်တွင် ဖိုးခေါင်တောင်၏ အရှေ့ဘက် ဂဠုန်တောင်၌ ဘုရားတည်တော်မူသည်။ ဘုရားတောင်ဘက် လှျိုတွင် ရွှေကျောင်းဇေတဝန်ဆောက်လုပ်ပြီး ဆရာတော် ဥတ္တမတေဇောမဟာထေရ်အား သက္ကရာဇ် ၉၄၇ ခုနှစ်တွင် ကျောင်းနှင့်ဘုရားကို ရေစက်ချလှူဒါန်း ခဲ့လေသည်။ သက္ကရာဇ် ၉၄၃ နှင့် ၉၄၇ သည် ဒုတိယမြောက်ဦးခေတ် ပဉ္စမမြောက်မင်း ဘုရင်မင်းဖလောင်း ၉၃၃-၉၅၅**(AD 1571-1593)** လက်ထက်ဖြစ်သည်။

ရခိုင်သမိုင်း အစောင်စောင်တို့တွင် ဘုရင်မင်းဗါကြီးကို မင်းစောမွန်၏ ၁၂ ဆက်မြောက်မင်း ၁၃ ဆက်မြောက်မင်းဟူ၍ ကွဲလွဲမှုများရှိနေပေသည်။ ဤကျောက်စာတွင် စောမွန်အစ တစ်ဆယ့်တစ်ဆက်သော မင်းတို့၏ အဆုံး၌ဖြစ်သောမင်းဟူ၍ ဖေါ်ပြထားသည်။ သို့နှင့် ဘုရင်မင်းဗါကြီးသည် ဤကျောက်စာ၏ အဆိုအရ မင်းစောမွန်အစ ၁၂ ဆက်မြောက်သောမင်းဟူ၍ ယူဆနိုင်ပေသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာဖြစ်သည်။

## ၂း၃၇။ ပီပင်ကုန်းဘုရားကျောက်စာ

### သက္ကရာဇ် ၉၄၉ ခု (AD 1587)

**ကျောက်စာမူရင်း အရေးအသား**

၁။ . . . ၉၄၉ခုတပေါင်လ္ဆုတ်၁ရက်စနိနိန်ပ . . .

၂။ . . . . စ္တိ . . . . . . . . . . . . .

စာကြောင်းရေ မည်မျှရှိသည်မသိ၊ ပျက်ပြေနေသည်။

**ခေတ်ကာလ အရေးအသား**

၁။ . . . ၉၄၉ ခု တပေါင်းလဆုတ် ၁ ရက် စနေနေ့ပ . . .

၂။ . . . . စ္တိ . . . . . . . . . . . . .

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ အဓိပ္ပါယ်**

၁။ စနိ = စနေ

၂။ နိန် = နေ့

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာ**

မြောက်ဦးမြို့နယ်၊ ပီပင်ကုန်းကျေးရွာ၏ တောင်ဘက်တောင်တန်းပေါ်ရှိ စေတီတစ်ဆူတွင် စတင်တွေ့ရှိသည်။ ယခု မသမာသူများဖျက်ဆီး၍ လုံးဝပျက်စီးသွားပြီ။ သက္ကရာဇ် ၉၄၉ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ပဥ္စမမြောက်မင်း ဘုရင်မင်းဖလောင်း(၉၃၃-၉၅၅)**(AD 1571-1593)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကမ္ပည်းစာမျိုးဖြစ်သည်။

## ၂း၃၈။ ကြေးဆင်းတုတော်တစ်ဆူ၏ ဓမ္မခံတော်စာ

**သက္ကရာဇ် ၉၅၃ ခု (AD 1590)**

**ကျောက်စာ မူရင်းအရေးအသား**

၁။ //သက္ကစ်၉၅၃ခုတပေါင်းလဆန်၁၁ရက်သောက်ကြာနိသွန်၏

**ခေတ်ကာလ အရေးအသား**

၁။ //သက္ကရာဇ် ၉၅၃ ခု တပေါင်းလဆန်း ၁၁ ရက် သောကြာနေ့ သွန်း၏။

ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရဏနှင့် ပါဠိအဓိပ္ပါယ်

၁။ သက္ကစ် = သက္ကရာဇ်

၂။ သောက်ကြာ = သောကြာ

၃။ နိ = နေ့

**ကျောက်စာနှင့် ပါတ်သက်သည့် အကြောင်းအရာ**

မြောက်ဦးမြို့ နယ်မှ ရရှိသည်။ ယခု စစ်တွေမြို့၊ ကျေးပင်ကြီးရပ်နေ ဦးမောင်သာဇံ၏ နေအိမ်တွင် ရှိသည်။ သက္ကရာဇ် ၉၅၃ ခု၊ တပေါင်းလဆန်း ၁၁ ရက်၊ သောကြာနေ့တွင် သွန်းလုပ်ခဲ့သည်ဟုသိရသည်။ သက္ကရာဇ် ၉၅၃ ခုသည် ဒုတိယမြောက်ဦးခေတ် ပဋ္ဌမမြောက်မင်း ဘုရင်မင်းဖလောင်း(၉၃၃-၉၅၅)**(AD 1571-1593)** လက်ထက် ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကမ္ပည်းစာမျိုးဖြစ်သည်။

# ၂း၃၉။ ပေါင်တော်စေတီကျောက်စာ
## သက္ကရာဇ် ၉၅၄ ခု (AD 1593)

**ကျောက်စာ မူရင်းအရေးအသား**

၁။ သက္ကစ်၉၅၄ခုတန်ခူလပောင်းလ္ဆန်
၂။ ၃ရက်သောက်ကြာနိန္နိက်ဘုရင်မ
၃။ င်ဖလောင်းသိုဘုရင်မင်စဏ္ဍာသိုတို
၄။ တောမူသောသင်္ဃိလှဲဂါကွံချောင်
၅။ တွင်၁ည်လုပ်စင်ပြ္ဆိတောတွင်တသျှည်
၆။ တဖက်လုပ်ကျောက်တောတွင်၃ပဝါလု
၇။ ပ်ပိတိုည်တွင်၁ည်လုပ်၄ဏ္ဍိချောင်တွင်
၈။ ၁၀သျှည်လုပ်ကျွေတေတွင်၁သျှည်လုပ်တဖ
၉။ က်လုပ်လဲအပေါင်သောကသျှည်၁ဆဲ၅သျှည်၃ပဝါလု
၁၀။ ပ်ထိုဝ်၁ဆဲသျှည်၃ပဝါလုပ်တိုဝ်သိုအဝေမာဟိ
၁၁။ လေသောကြောင်ဘုရင်မင်ဖလောင်သိုပေါ
၁၂။ င်တော်အပါးငရေကောက်ခွင်တွင်မင်လဲ
၁၃။ တိုဝ်နှဖ၍သင်္ဃီတေတောမူ၏လဲဒါထို
၁၄။ ဝ်၍ပိလာသိုကာတောင်မောက်စမ်တာ
၁၅။ လေဝါထိုဝ်၍ပေလာသို
၁၆။ စေတီဒေါ်အပါတွင်လဲ၄
၁၇။ သျှည်တဖက်လုပ်ဟိ၏

**ခေတ်ကာလ အရေးအသား**

၁။ သက္ကရာဇ် ၉၅၄ ခု တန်ခူးလပောင်း လဆန်း
၂။ ၃ရက် သောကြာနေ့၌ ဘုရင်မ
၃။ င်းဖလောင်းသည် ဘုရင်မင်းစဏ္ဍာသည် တည်
၄။ တော်မူသော သံ္ဃိ လူလယ်ကား ကွမ်းချောင်း
၅။ တွင် ၁ သျှည်းလုပ် စင်ပြွန်းတောတွင် တစ်သျှည်း
၆။ တစ်ဖက်လုပ် ကျောက်တော်တွင် သုံးပွါလု
၇။ ပ် ပိတိုင်တွင် ၁ သျှည်းလုပ် ၄က်ကြီးချောင်းတွင်
၈။ ၁၀ သျှည်းလုပ် ကျွဲတဲတွင် ၁ သျှည်းလုပ် တစ်ဖ
၉။ က်လုပ် လယ်အပေါင်းသော်ကား သျှည်းတစ်ဆဲ့ငါးသျှည်း သုံးပွါလု
၁၀။ ပ် ထိုတစ်ဆယ့်သုံးပွါလုပ်တို့သည် အဝေးမှာရှိ
၁၁။ လေသောကြောင့် ဘုရင်မင်းဖလောင်းသည် ပေါ
၁၂။ င်တော်အပါး ငရေကောက်ဒေသတွင် မင်းလယ်

၁၃။ တို့နှင့်ဖြ၍ သင်္ချိုတည်တော်မူ၏ လယ်တိုင်းတာ
၁၄။ ၍ပေးလာသည်ကား တောင်မောက်စမ်းတာ
၁၅။ လယ်ဝါးထိုး၍ ပေးလာသည်
၁၆။ စေတီတော်အပါးတွင် လယ် ၄
၁၇။ သျှည်းတစ်ဖက်လုပ်ရှိ၏

**<u>ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရဏ၊ ပါဠိအဓိပ္ပါယ်များ</u>**

၁။ သက္ကစ် = သက္ကရာဇ်
၂။ တန်ခူးလပဟောင်းလဆန်း = ပထမတန်ခူးလ၊ ဒုတိယတန်ခူးလ၊ နှစ်တန်ခူးထပ်သည့်လတွင် ပထမတန်ခူးလကို တန်းခူးလပဟောင်းဟုခေါ်ပြီး ဒုတိယတန်းခူးလကို တန်းခူးလသစ်ဟူ၍ ခေါ်ဆိုသည်။
၃။ သောက်ကြာ = သောကြာ
၄။ နိ = နေ့
၅။ နိုက် = ၌
၆။ သိ = သည်
၇။ တိ = တည်
၈။ သင်္ဃိ = သင်္ချိ
၉။ လို = လယ်၊ လူ
၁၀။ ဂါ = ကား
၁၁။ ကွံချောင်း = ကွမ်းချောင်း
၁၂။ ၁ည် = တစ်သျှည်း
၁၃။ တသျှည်တဖက်လုပ် = တစ်သျှည်းနှင့်အခွဲလုပ်
၁၄။ ကျောက်တော = ကျောက်တော်အရပ်
၁၅။ ၃ ပဝါ = ၃ ပွါ = လယ်တစ်သျှည်း၏ လေးပုံသုံးပုံ
၁၆။ ပိတိုည် = ပိတိုင်အရပ်
၁၇။ ၄က္ကိချောင် = ၄က်ကြီးချောင်း
၁၈။ ကျွေတေ = ကျွဲတဲအရပ်
၁၉။ တဖက်လုပ် = လယ်တစ်သျှည်း၏နှစ်ပုံတစ်ပုံ
၂၀။ လဲအပေါင်သောက = လယ်အပေါင်းသော်ကား
၂၁။ ၁ဆဲ၅သျှည်၃ပဝါလုပ် = တစ်ဆယ့်ငါးသျှည်းနှင့် လေပုံသုံးပုံသျှည်း။
၂၂။ ထိုဝ် = ထို
၂၃။ ၁ဆဲသျှည်၃ပဝါလုပ် = ဆယ်သျှည်းနှင့် လေးပုံသုံးပုံသျှည်းလုပ်
၂၄။ တိုဝ် = တို့
၂၅။ သိ = သည်
၂၆။ အဝေမာ = အဝေးမှာ

၂၇။ ဟိ = ရှိ
၂၈။ ရေကောက်ခွင် = ရေကောက်အရပ်
၂၉။ မင်လဲတိုဝ်နှ = မင်းလယ်တို့နှင့်
၃၀။ ဖ = လဲလှယ်သည်
၃၁။ လဲဒါထိုဝ် = လယ်ကိုတိုင်းတာသည်
၃၂။ ပိ = ပေး
၃၃။ လေဝါထိုဝ် = လယ်ကိုဝါးပြန်နှင့်တိုင်းတာသည်
၃၄။ ပေလာသ့် = ပေးလာသည်
၃၅။ စေတီဒေါ် = စေတီတော်
၃၆။ အပါတွင် = အပါးတွင် = အနီးတွင်

**<u>ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>**

မြောက်ဦးမြို့၊ ပေါင်တော်စေတီတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၉၅၄ ခုနှစ်တွင် ဘုရင်မင်းဖလောင်းသည် ပေါင်တော်စေတီတွင် ဘုရင်မင်းစကြာ လှူဒါန်းခဲ့သည့် လယ်တစ်ဆယ့်ငါးသျှည်းနှင့် လေးပုံတစ်ပုံအနက် လယ်တစ်ဆယ်သျှည်းနှင့် လေးပုံတစ်ပုံတို့သည် ပေါင်တော်ဘုရားနှင့် အဝေးတွင်ရှိနေသောကြောင့် ဘုရားနှင့်နီးသည့် ရေကောက်အရပ်ရှိ ဘုရင်မင်းကြီးပိုင်လယ်များကို ဝါးပြန်ဖြင့် တိုင်းတာ၍ လဲလှယ်ကာ လှူဒါန်းခဲ့ကြောင်းကို ကျောက်စာရေးထိုးထားခြင်းဖြစ်သည်။ ကျောက်စာတွင်ပါရှိသော ဘုရင်မင်းစကြာ(၉၂၆-၉၃၃)**(AD 1564-1571)**သည် ဒုတိယမြောက်ဦးခေတ်၏ စတုတ္ထမြောက်မင်းဖြစ်ပြီး၊ ဘုရင်မင်းဖလောင်း(၉၃၃-၉၅၅)**(AD 1571-1593)**သည် ဒုတိယမြောက်ဦးခေတ်၏ ပဉ္စမမြောက်မင်းဖြစ်သည်။ မင်းဗါဘုရင်ကြီး၏ သားတော်များ ဖြစ်ကြသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာဖြစ်သည်။

# ၂၄၀။ ရေတံခါးဘုရား ဓမ္မခံစာ
## သက္ကရာဇ် ၉၅၄ ခု (AD 1592)

**ကမ္ပည်းစာ မူရင်းအရေးအသား**

၁။ ၉၅၄ခုဝါကျွတ်လတွင်တံခါမင်ကောင်မှုတော်သွန်သည်ကားကြိတဆဲ့သမောင်ဝင်၏။

**ခေတ်ကာလ အရေးအသား**

၁။ ၉၅၄ ခု ဝါကျွတ်လတွင် တံခါးမင်းကောင်းမှုတော် သွန်းသည်ကား ကြေးတစ်ဆယ့်တစ်မောင်းဝင်၏။

**ကမ္ပည်းစာ၊ အရေးအသား ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်များ**

၁။ ဝါကျွတ်လ = သီတင်းကျွတ်လ
၂။ တံခါမင် = တံခါးမင်း
၃။ သွန်သည် = သွန်းသည်
၄။ ကြိ = ကြေး
၅။ တဆဲ့သမောင် = တစ်ဆယ့်တစ်မောင်း(တစ်မောင်း = ၂၅ ပိဿာ)

**ကမ္ပည်းစာနှင့် ပါတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ ကျောက်ရစ်ကေရွာ၊ ရေတံခါးစေတီဌါပနာမှ ရရှိသည်။ ယခု ရေတံခါးဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။ သက္ကရာဇ် ၉၅၄ ခုနှစ်တွင် ရေတံခါးမင်း သွန်းလုပ်ခဲ့သည်။ ကြေးတစ်ဆယ့်တစ်မေါင်းဝင်သည်ဟု ကမ္ပည်းထိုးထားသည်။ သက္ကရာဇ် ၉၅၄ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ပဥ္စမမြောက်မင်း ဘုရင်မင်းဖလောင်း(၉၃၃-၉၅၅)**(AD 1571-1593)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏ အက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။

## ၂၄၁။ သကျဝတဘုရားမင်းကမ္ပည်းစာ

**သက္ကရာဇ် ၉၅၄ (AD 1592)**

**<u>ကမ္ပည်းစာ မူလအရေးအသား</u>**

(က) ပလ္လင်အရှေ့ဘက်စာ

၁။ သကျာဝတဖြာမင်

(ခ) ပလ္လင်နောက်ဘက်စာ

၁။ သကြာဇ်၉ရ၅၄ခု၀ါဆိုဝ်

၂။ တဆဲလေရက်၅နေမို

၃။ သောက်ရောင်နီလာလျှင်

၄။ ဖြာဖျှစ်တောမူသ်

**<u>ခေတ်ကာလ အရေးအသား</u>**

(က) ပလ္လင်အရှေ့ဘက်စာ

၁။ သကျဝတဘုရားမင်း

(ခ) ပလ္လင်နောက်ဘက်စာ

၁။ သက္ကရာဇ် ၉(ရာ)၅၄ ခု ဝါဆို

၂။ တစ်ဆယ့်လေးရက် ကြာသပဒေးနေ့ မိုး

၃။ သောက်ရောင်နီလာလျှင်

၄။ ဘုရားဖြစ်တော်မူသည်။

**<u>ကမ္ပည်းစာပါ အရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပါယ်</u>**

၁။ သကျာ = သကျ = သကျသာကီဝင်

၂။ ဝတ = အကျင့်၊ ဆောက်တည်အပ်သောကျင့်ဝတ်၊ ကျင့်ဝတ်တရား၊ ဆောက်တည်ခြင်း

၃။ ဖြာ = ဘုရား

၄။ သကြာဇ် = သက္ကရာဇ်

၅။ တဆဲ = တစ်ဆယ့်

၆။ ၅ = ကြာသပတေးနေ့

၇။ ဖျှစ် = ဖြစ်

၈။ သ် = သည်

(ဂ) ပလ္လင်နောက်ဘက်ဇာတာတော်

**<u>ကမ္ပည်းစာနှင့် ပတ်သက်သည့် အကြောင်းအရာများ</u>**

ဤဆင်းတုတော်ကို ပဉ္စလောဟာဖြင့် သွန်းလုပ်သည်။ ဘူမိဖဿမုဒြာပုံတော်ဖြစ်သည်။ ခြေယှက်၊ ခိုနန်ချီးပလ္လင်မျိုးဖြစ်သည်။ ဉာဏ်တော်အမြင့် (ပလ္လင် + ဉာဏ်တော် ၃၀ စင်တီမီတာ၊ ဒူးစွန်အကျယ် ၂၀.၅

စင်တီမီတာခန့်ရှိသည်။ ရှေ့မျက်နှာစာ ဓမ္မခံပေါ်တွင် ဘုရား၏အမည်ကို "သကျ၀တဘုရားမင်း" ဟူ၍ ရေးထိုးထားသည်။ ပလ္လင်နောက်မျက်နှာတွင် စာလေးကြောင်းနှင့် ဇာတာတော်တစ်ခု ရေးထိုးထားသည်။ ရက္ခ၀ဏ္ဏ အက္ခရာ မြောက်ဦးခေတ်အရေးအသားမျိုးဖြစ်သည်။ သက္ကရာဇ် ၉၅၄ ကိုရေးရာတွင် ရှေးခေတ် ရေးသားပုံနည်းစနစ်တစ်ခုဖြစ်သော ဂဏန်းနှင့်အက္ခရာကို ရော၍ရေးသားထားသည်။ ကမ္ပည်းစာတွင် ဘုရားသွန်းလုပ် လှူဒါန်းသည်ဟူ၍မရေးဘဲ "ဘုရားဖြစ်တော်မူသည်"ဟူ၍ ရေးသားခဲ့ခြင်းမှာ ထူးခြားလှသည်။

သက္ကရာဇ် ၉၅၄ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ငါးဆက်မြောက်မင်းဖြစ်သော ဘုရင်မင်းဖလောင်း (၅၃၃-၉၅၅)**(AD 1571-1593)**လက်ထက်ဖြစ်သည်။

ရခိုင်ပြည်နယ်၊ မြောက်ဦးမြို့နယ်၊ ညောင်ပင်လှကျေးရွာ ဘုန်းတော်ကြီးကျောင်းတွင် စတင်တွေ့ရှိရသည်။ ကျောင်းစဉ် ဘုရားတစ်ဆူဖြစ်သည်။ ယခုတိုင် ယင်းကျောင်းတွင် စံမွေ့ယ်လျှက်ရှိသည်။

ရခိုင်ဘာသာ ရက္ခ၀ဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။



၂း၄၂။ မြောက်ဦးပြတိုက်မှ ကြေးဆင်းတုတော်တစ်ဆူ၏စာ
သက္ကရာဇ် ၉၅၅ (AD 1593)

## ၂း၄၂။ မြောက်ဦးပြတိုက်မှ ကြေးဆင်းတုတော်တစ်ဆူ၏စာ
### သက္ကရာဇ် ၉၅၅ (AD 1593)

**ကျောက်စာမူရင်း အရေးအသား**

၁။ ၉၅၅ခုနတ္တောလဆ္ခန်၉ရက်၄နိနှစ်မိဖြူကနက္ကတန်၄ဆောင်ဆောင်ပြီသောမိဖြ္ဂခေါင်၏ညီမတော်ဖြစ်ဖ ရခိုင်ဘဝရှင်မင်ကြီစော၏မျောက်သာတော်ဤတောင်မိဖြ္ဂ၏ကောင်မှုဘြာပွင်တော်ပြု၏

**ခေတ်ကာလ အရေးအသား**

၁။ ၉၅၅ ခု နတ်တော်လဆန်း ၉ ရက် ဗုဒ္ဓဟူးနေ့ ထီးဖြူကနက္ကဒါန်လေးဆောင်ဆောင်းပြီးသော မိဖုရားခေါင်၏ ညီမတော်ဖြစ်သော ရခိုင်ဘဝရှင်မင်းကြီးစော၏ မျောက်သားတော် ဤတောင်မိဖုရား၏ ကောင်းမှု ဘုရားပွင့်တော် ပြု၏

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်**

၁။ နတ္တော = နတ်တော်

၂။ ၄နိ = ဗုဒ္ဓဟူးနေ့

၃။ မိဖြူ = ထီးဖြူ

၄။ မိဖြ္ဂ = မိဖုရား

၅။ ဖ = သော

၆။ မျောက်သာတော် = မျောက်သားတော် = အစ်ကို (ဝါ) မောင် သ္မီးနှင့် အစ်မ (ဝါ) နှမ၏သား တော်စပ်ခေါ်ဝေါ်ပုံ

၇။ ဘြာ = ဘုရား

**ကမ္ပည်းစာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မသမာသော သူများထံမှ ဖမ်းဆီးရမိသောဆင်းတုတော်တစ်ဆူဖြစ်သည်။ မြောက်ဦးမြို့နယ်၊ ကျောက်တွင်း ကုန်းကျေးရွာအနီး စေတီတစ်ဆူ၏ဌါပနာဆင်းတုတော်ဟု ယူဆရသည်။

ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ ဓမ္မခံပတ်လည်တွင် ကမ္ပည်းစာတစ်ကြောင်း ပါရှိသည်။ ‘‘မိဖြ္ဂ’’(မိဖုရား)နှင့် ‘‘ဘြာ’’ (ဘုရား) ခွဲထားအရေးအသားကို လေ့လာမှတ်သားနိုင်သည်။ သက္ကရာဇ် ၉၅၅ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် မင်းရာဇာကြီး(၉၅၅-၉၇၄)**(AD 1593-1612)**လက်ထက်ဖြစ်သည်။ ဘုရားသွန်းလုပ်လှူဒါန်းသည်ကို ဘုရားပွင့်တော်ပြု၏ဟူ၍ ရေးထိုးထားသည်မှာ ထူးခြားလှသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကမ္ပည်းစာဖြစ်သည်။



၂၄၃။ နရာဓိပတိကျောက်စာ
သက္ကရာဇ် ၉၅၅ ခု (AD 1593)

## ၂း၄၃။ နရာဓိပတိကျောက်စာ
### သက္ကရာဇ် ၉၅၅ ခု (AD 1593)

**<u>ကျောက်စာ မူရင်းအရေးအသား</u>**

၁။ သကြစ်၉၅၅ခု။တဗိုဝ်တွဲလဆန်ငါ
၂။ ရက်၄နိနရာဓိပတိရွေနန်သျှင်မိန်တော
၃။ မုသောဝါဆိုဝ်လတွင်အလိုဝ်တော်ပြည့်မည်
၄။ ဟူ၍ဆိုဝ်သ့်မှန်သောကြောင်ပုဏာမဏိခေတ်
၅။ ကိုဝ်ကင်ပြင်ရွာတွင်ဟိန်ဒုသောရောမောနွောအ
၆။ ဝင်၅သျှည်၃ပဝါလှုတော်ပြည့်လဲကိုဝ်ဂသာစိုင်မြိဆက်
၇။ စာစီဟု၍ကံပဲထာသ့်ရှေ့တောခံငရူအားငရဲက္က
၈။ နှစ်ယောက်အသံချသ့်သံကျသံပေါက်ထင်မြင်အ
၉။ တောင်အမှက်မယူပိ၏

**<u>ခေတ်ကာလ အရေးအသား</u>**

၁။ သက္ကရာဇ် ၉၅၅ ခု။ တပို့တွဲလဆန်း ငါး
၂။ ရက် ဗုဒ္ဓဟူးနေ့ နရာဓိပတိ ရွှေနန်းရှင်မိန့်တော်
၃။ မူသော ဝါဆိုလတွင် အလိုတော်ပြည့်မည်
၄။ ဟူ၍ဆိုသည်မှန်သောကြောင့် ပုဏ္ဏားမုဏိခေါ်တ်
၅။ ကို ကင်းပြင်ရွာတွင် ဟိန္ဒူသောရောမောနွောအ
၆။ ဝင် ငါးသျှည်း ၃ပွါ လှူတော်ပြုသည် လယ်ကိုကား သားစဉ်မြေးဆက်
၇။ စားစေဟူ၍ ကံပေးထားသည် ရှေ့တော်ခံ ငရူးအား ငရဲက္က
၈။ နှစ်ယောက် အသံချသည် သံကျသံပေါက်ထင်မြင် အ
၉။ တောင်းအမှက်မယူပေး၏

**<u>ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်များ</u>**

၁။ သကြစ် = သက္ကရာဇ်
၂။ တဗိုဝ်တွဲ = တပို့တွဲ
၃။ ၄ နိ = ဗုဒ္ဓဟူးနေ့
၄။ မိန်တော်မုသော = မိန့်တော်မူသော
၅။ ဆိုဝ် = ဆို
၆။ သ့် = သည်
၇။ ပုဏာ = ပုဏ္ဏား
၈။ မဏိခေတ် = မုဏိခေါ်တ် = ပုဏ္ဏားအမည်
၉။ ဟိန်ဒုသောရောဟောနွော = ဟိန္ဒူဘာသာဝင် ပုဏ္ဏားတို့နေထိုင်သော သောရောမောနွောအရပ်

၁၀။ အဝင် = အပါအဝင်
၁၁။ ၃ပဝါ = သုံးပွါ = တစ်သျှည်း၏ လေးပုံသုံးပုံ
၁၂။ ပြသ့် = ပြုသည်
၁၃။ လဲ = လယ်
၁၄။ ကိုဝ် = ကို
၁၅။ ဂ = ကား
၁၆။ သာစိုင် = သားစဉ်
၁၇။ မြိဆက် = မြေးဆက်
၁၈။ စာစီ = စားစေ
၁၉။ ကံပဲထာသ့် = ပေးကမ်းချီးမြှင့်ထားသည်
၂၀။ သံကျ = ဘုရင့်အမိန့်တော်ချမှတ်သည်
၂၁။ သံပေါက် = ဘုရင့်အမိန့်တော်ကို သဘောပေါက်အောင် ရွတ်ဖတ်၊ ပြောဆို၊ ရှင်းလင်းပြသည်
၂၂။ ထင်မြင် = အဓိပ္ပါယ်ကို ရှင်းရှင်းလင်းလင်း သဘောပေါက်စေသည်
၂၃။ အတောင်းအမှက် = လာဒ်ပေးလာဒ်ယူ
၂၄။ ပိ = ပေး

<u>**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**</u>

မြောက်ဦးမြို့အရှေ့ဘက် သရက်အုပ်အရပ် ပုဏ္ဏားအိမ်ရာတစ်ခုတွင် စတင်တွေ့ရှိသည်။ ၁၉၅၀-ခုနှစ်တွင် ဆရာကြီးဦးဦးသာထွန်းနှင့် မြေစာရင်းအင်စပက်တော် ဦးစိန်လုံးဖြူတို့သည် သျှစ်သောင်းပုထိုးတော်ကြီးသို့ ပြောင်းရွှေ့ သိမ်းဆည်းထားခဲ့သည်။ ယခု သျှစ်သောင်းပုထိုးတော်ကြီးတွင်ရှိသည်။

သက္ကရာဇ် ၉၅၅ ခု၊ တပို့တွဲလဆန်း ငါးရက်၊ ဗုဒ္ဓဟူးနေ့တွင် နရာဓိပတိရွှေနန်းရှင် အမိန့်တော် ချမှတ်တော်မူသည်။ ဝါဆိုလတွင် အလိုတော်ပြည့်မည်ဟူ၍ ပုဏ္ဏားမုဏိခေါတ်၏ ဗေဒင်ဟောဆိုမှုသည် မှန်ကန်သောကြောင့် မုဏိခေါတ်အား ကင်းပြင်ရွာရှိ ဟိန္ဒူသောရောမောနှောတွင် လယ် ၅သျှည်းသုံးပွါကိုဗေဒင်ဆရာ ပုဏ္ဏားအား ပေးလှူလိုက်သည်။ ယင်းလယ်ကိုလည်း သားစဉ်မြေးဆက် အပိုင်စားစေသည် ဤအမိန့်ပြန်တမ်းကို ရှေ့တော်ခံ ငရူးအား ငရဲက္လတို့က အမိန့်ပြန်တမ်းဖတ်ကြရသည်။ အမိန့်ပြန်တမ်းဖတ်သည့်အတွက် လာဒ်ပေး လာဒ်ယူမပြုလုပ်စေဘဲ ပေးတော်မူသည်ဟူ၍ ရေးထိုးထားသည်။

ဤအမိန့်ပြန်တမ်းအရ ဘုရင်မင်းဖလောင်း(၉၃၃-၉၅၅)**(AD 1571-1593)**လက်ထက်တွင် ဘုရင်ဖြစ်လာမည့် မင်းရာဇာ ကြီးကို ပုဏ္ဏားမုဏိခေါတ်က သက္ကရာဇ် ၉၅၅ ခု၊ ဝါဆိုလတွင် မင်းဖြစ်မည်ဟု ဗေဒင်ဟောခဲ့သည်။ ယင်းဗေဒင် ဟောပြောချက်သည် မှန်ကန်ပြီး သက္ကရာဇ် ၉၅၅ ခု၊ ဝါဆိုလတွင် အလိုတော်ပြည့်ကာ မင်းဖြစ်လာခဲ့သည်။ သို့နှင့် သက္ကရာဇ် ၉၅၅ ခု၊ တပို့တွဲလဆန်း ငါးရက်၊ ဗုဒ္ဓဟူးနေ့တွင် ပုဏ္ဏားမုဏိခေါတ်အား ဆုတော်လာဒ်တော်အဖြစ် လယ်ငါးသျှည်းနှင့် သုံးပွါကို သားစဉ်မြေးဆက်စားစေဟူ၍ အမိန့်တော်ချမှတ်ခဲ့သည်။

ဤကျောက်စာသည် ဘုရင့်အမိန့်တော် ပြန်တမ်းစာဖြစ်သည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။



၂း၄၄။ အံတော်သိမ်ဘုရားမုခ်ဝ စုလစ်မွန်းချွန်ကျောက်စာ
သက္ကရာဇ် ၉၅၈ ခု (AD 1597)

## ၂း၄၄။ အံတော်သိမ်ဘုရားမုခ်ဝ စုလစ်မွန်းချွန်ကျောက်စာ

### သက္ကရာဇ် ၉၅၈ ခု (AD 1597)

**ကျောက်စာမူရင်း အရေးအသား**

၁။ ///၉၅၈ခုတပိုဝ်တွဲလဆန်၁၁

၂။ · · က်တနလာနေတက်နေတပဝါ

၃။ · ချိန်တွင်သျှစ်သောင်ဘု

၄။ · · · အန်တော်တွင်လမ်

၅။ · · · · လှူသို။

**ခေတ်ကာလ အရေးအသား**

၁။ /// ၉၅၈ ခု တပို့တွဲလဆန်း ၁၁

၂။ · · က် တနင်္လာနေ့ တက်နေတစ်ပွါး

၃။ · ချိန်တွင် သျှစ်သောင်းဘု

၄။ (ရား) · · အန်တော်တွင် လမ်း

၅။ · · · · လှူသည်။

**ကျောက်စာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပါယ်များ**

၁။ တပိုဝ်တွဲ = တပို့တွဲ

၂။ တနလာ = တနင်္လာ

၃။ နေ = နေ့

၄။ တပဝါ = တစ်ဖဝါး

၅။ အန်တော် = အံတော်

၆။ သို = သည်

**ကျောက်စာနှင့် ပါတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ အံတော်သိမ်ပုထိုးတော်ကြီး၏မုခ်ဝ စုလစ်မွန်းချွန်တစ်ခုတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့၊ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

သက္ကရာဇ် ၉၅၈ ခု၊ တပို့တွဲလဆန်း (၁၁) ရက်၊ တနင်္လာနေ့၊ တက်နေ တစ်ပွါးအချိန်တွင် သျှစ်သောင်းဘုရားနှင့် အံတော်သိမ်ဘုရားတို့တွင် လမ်းလှူဒါန်းခဲ့ကြောင်း ကျောက်စာရေးထိုးခဲ့ခြင်းဖြစ်သည်။ သက္ကရာဇ် ၉၅၈ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ဆင္ဈမမြောက်မင်း ဘုရင်မင်းရာဇာကြီး(၉၅၅-၉၇၄) **(AD 1593-1612)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။



၂၄၅။ ကျောက်ဆိပ်ဓါတ်တော် စေတီကျောက်စာ

သက္ကရာဇ် ၉၆၄ ခု (AD 1602)

## ၂း၄၅။ ကျောက်ဆိပ်ဓါတ်တော် ဓေတီကျောက်စာ

### သက္ကရာဇ် ၉၆၄ ခု (AD 1602)

<u>ကျောက်စာ မူရင်းအရေးအသား</u>

၁။ ၉၆၄ခုဝါကျွတ် · ဆ့် · · ဓိပ္ပတိ
၂။ အသျှင် · · · · အာစိုဝ်ရတော်ပြုသောအ
၃။ သျှင် · · သောမင်တကာတိုဝ်ထက်အလွန်ဘုန်
၄။ တန်ခိုဝ်ကျက်သရေတော်နှင့်ပြံ့စုံစွာထသောဝ်
၅။ ဘုဝသျှင်မင်တရာကြီဖြစ်တော်မူသောဝ်မင်ဖလောင်
၆။ ၏မျောက်သာတော်ဖြစ်သောမြောက်ဦမိဖုရာ၏သ္မ
၇။ က်တော်သည်အနောက်တရိဝ်ကစ၍အရှိယ္ဗ
၈။ န်သိုဝ် · · · · ဖြစ်သောဝ် · · · · · မင်လက် ·
၉။ · · · · · · · · · · · · · · · · ·
၁၀။ · · · · · ထောင်၏ · · · · · · · ·
၁၁။ · · · · · · · · · · · · · · · · ·
၁၂။ · · · · · · · · · · · · · · · · ·
၁၃။ · · · · · · · · · · · · · · · · ·
၁၄။ · · · · · · · · · · · · · · · · ·
၁၅။ · · · · · · · · · · · · · · · · ·
၁၆။ · · · · · ဥရာဇ်တောင်ရှာ · · · · ·
၁၇။ · · · · · · · · · · · · · · · · ·
၁၈။ · · · · · · · · · တဲတော်ပြု၏ · · ·
၁၉။ ယဉ်လှ့် · · အထက် · · · · ဝတ္တုကိုဝ်သေ
၂၀။ · · · · တိုဝ်သ · · · · · · · ·

<u>ခေတ်ကာလ အရေးအသား</u>

၁။ ၉၆၄ ခု ဝါကျွတ်(လ)ဆန်း (ရက္ခာ)ဓိပတိ
၂။ အရှင် · · · · အစိုးရတော်မူသော အ
၃။ ရှင် · · သော မင်းတကာတို့ထက် အလွန်ဘုန်း
၄။ တန်ခိုးကြက်သရေတော်နှင့် ပြည့်စုံစွာထသော
၅။ ဘဝရှင်မင်းတရားကြီးဖြစ်တော်မူသော မင်းဖလောင်း
၆။ ၏မျောက်သားတော်ဖြစ်သော မြောက်ဦးမိဖုရား၏ သမ
၇။ က်တော်သည် အနောက်တရိုးကစ၍ အရှေ့ယွ
၈။ န်းသို့ · · · · ဖြစ်သော · · · · · မင်းလက် · ·
၉။ · · · · · · · · · · · · · · · · ·
၁၀။ · · · · · ထောင်၏ · · · · · · · ·

၁၁။ . . . . . . . . . . . . . . . .
၁၂။ . . . . . . . . . . . . . . . .
၁၃။ . . . . . . . . . . . . . . . .
၁၄။ . . . . . . . . . . . . . . . .
၁၅။ . . . . . . . . . . . . . . . .
၁၆။ . . . . . ဦးရာဇ်တောင်ရှာ . . . . .
၁၇။ . . . . . . . . . . . . . . . .
၁၈။ . . . . . . . တည်တော်ပြု၏ . . .
၁၉။ ယဉ်သည် . . အထက် . . . . ဝတ္ထုကို သေ
၂၀။ . . . . တို့သ . . . . . . . .

**<u>ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်များ</u>**

၁။ ဝါကျွတ် = သီတင်းကျွတ်
၂။ ဓိပ္ပတ္တိ = ဓိပတိ = (ရက္ခာဓိပတိ = ရခိုင်ဘုရင်ဧကရာဇ်)
၃။ အသျှင် = အရှင်
၄။ အာစိုဝ်ရ = အစိုးရ
၅။ ပြုသော = မူသော
၆။ မင်တကာ = မင်းတကာ
၇။ တိုဝ် = တို့
၈။ ဘုန်တန်ခိုဝ် = ဘုန်းတန်ခိုး
၉။ ကျက်ရေ = ကြက်သရေ = မင်္ဂလာအပေါင်းနှင့် ပြည့်စုံခြင်း
၁၀။ ပြဲ့စုံစွာထသောဝ် = ပြည့်စုံစွာထသော
၁၁။ ဘုဝသျှင် = ဘဝရှင်
၁၂။ မင်တရာကြီ = မင်းတရာကြီး
၁၃။ မျောက်သား = အစ်မ (ဝါ) နှမ၏ သားနှင့် အစ်ကို (ဝါ) မောင်၏သမီးကို ရခိုင်တို့တွင် သမီးမျောက်သား တော်စပ်သည်ဟု ဆွေမျိုးစပ်ကြသည်။
၁၄။ ဉရာဇ်တောင် = ဦးရဇ်တောင်
၁၅။ တဲ = တည်

**<u>ကျောက်စာနှင့် ပါတ်သက်သည့် အကြောင်းအရာများ</u>**

ရခိုင်ပြည်နယ်၊ ပုဏ္ဏားကျွန်းမြို့နယ်၊ ကျောက်ဆိပ်ကျေးရွာ၏ အနောက်မြောက်ဘက် တောင်ထိပ်ပေါ်ရှိ စေတီတစ်ဆူ၏ အရှေ့ဘက် ချိုင့်ဝှမ်းတွင် စတင်တွေ့ရှိသည်။ ယခု ဦးရာဇ်တောင်စေတီတော် ဗုဒ္ဓပြတိုက်တွင် ရှိသည်။

သက္ကရာဇ် ၉၆၄ ခုနှစ်(**AD 1602**)တွင် ဘုရင်မင်းဖလောင်း၏ မျောက်သားတော်ဖြစ်သော မြောက်ဦးမိဖုရား၏ သမက်တော်က ဘုရားတည်ခဲ့သည့် အလှူမှတ်တမ်း ကမ္ပည်းကျောက်စာဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးသားထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၄၆။ ညီမတော်စေတီ ဥာပနာဆင်းတုတော် ဓမ္မခံစာ
### သက္ကရာဇ် ၉၆၇ ခု (AD 1606)

**ကျောက်စာမူရင်း အရေးအသား**

၁။ ‘‘။၀’’သက္ကရှဓ်၉၆၇အ

၂။ ။စွန်တခုတန်ခုလ၊ ၊

၃။ ။ဆုတ်သိတ်င်၊

၄။ မိခင်ဖခင်ငရဲပြိတ်ာမလွတ်သောဖုရာဂဆူပြိ၏။၀။ပြုဇေနတ်ကောင်လူကောင်ဖြာ၏

၅။ လောင်မင်ကောဓမသ်ကောင်မှု

**ခေတ်ကာလ အရေးအသား**

၁။ ‘‘။၀’’ သက္ကရာဇ် ၉၆၇ အ

၂။ ။ စွန်းတစ်ခု တန်းခူးလ။

၃။ ။ ဆုတ်သီတင်း၊

၄။ မိခင်ဘခင် ငရဲပြိတ္တာမှလွတ်သော ဘုရားငါးဆူပြီး၏။၀။ ပြု၏ နတ်ကောင်း လူကောင်း ဘုရား၏

၅။ လောင်းမင်းဂေါဓမ္မသည် ကောင်းမှု

**ကျောက်စာမူရင်းအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်များ**

၁။ သက္ကရှဓ် = သက္ကရာဇ်

၂။ သိတ်င် = သီတင်း

၃။ ပြိတ်ာ = ပြိတ္တာ

၄။ မလွတ်သော = မှလွတ်သော

၅။ ဖုရာ = ဘုရား

၆။ ဂဆူပြိ၏ = ငါးဆူပြီး၏

၇။ ပြုဇ = ပြု၏

၈။ နတ်ကောင်လူကောင် = နတ်ကောင်းလူကောင်း

၉။ ဖြာ = ဘုရား

၁၀။ ကောဓမ = ဂေါဓမ္မ

၁၁။ သ် = သည်

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ ညီမတော်စေတီဥာပနာမှ စတင်တွေ့ရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင် ရှိသည်။ သက္ကရာဇ် ၉၆၇ ခုနှစ်သည်။ ဒုတိယမြောက်ဦးခေတ် ဘုရင်မင်းရာဇာကြီး(၉၅၅-၉၇၄)**(AD 1593-1612)**လက်ထက် ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။



၂၄၇။ အဇီခံသူကြီးမယား ဥပလဝန်ကျောက်စာ

သက္ကရာဇ် ၉၆၇ ခု (AD 1605)



၂း၄၇။ အဇီခံသူကြီးမယား ဥပလဝန်ကျောက်စာ

သက္ကရာဇ် ၉၆၇ ခု (AD 1605)

## ၂၄၇။ အဇီခံသူကြီးမယား ဥပလဝန်ကျောက်စာ

**သက္ကရာဇ် ၉၆၇ ခု (AD 1605)**

**<u>ကျောက်စာမူရင်းအရေးအသား</u>**

**<u>မျက်နှာဘက်</u>**

၁။ သက္ကြဇ်၉
၂။ ၆၇ခုဝါဆို
၃။ ဝ်လ္ဆန်၁၀ရ
၄။ က်တလင်ဂနိနိ
၅။ အဇီခန်သူကြိမ
၆။ ယာဥပလွန်သင်္ချိ
၇။ မြေဟု၍လျှောက်သော
၈။ ကြောင်အသံချသု်ကာေ
၉။ ကျာင်ဝင်အလျှုသင်
၁၀။ ခာမြေရှင်း၍ပီလာသု်
၁၁။ ကာလက်ရွှေစင်

**<u>ကြောဘက်</u>**

၁။ မိပေါက်သွေ
၂။ နသယောက်၊အဖိ
၃။ ခံအငဲရဇသူရ
၄။ ကိုဝ်ရဇမိဖြုသိုဝ်စိ၍
၅။ . . . ရိစိအခြားကအစိခံ
၆။ သူကြိမယာဥပလဝ
၇။ နသင်္ခိမြေရိစိအ
၈။ ခြာကသု်ပေတော်ပြု၏

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၉

၂။ ၆၇ ခု ဝါဆို

၃။ လဆန်း ၁၀ ရ

၄။ က် တနင်္ဂနွေနေ့

၅။ အစေခံသူကြီးမ

၆။ ယား ဉပလဝန် သင်္ချိ

၇။ မြေဟူ၍ လျှောက်သော

၈။ ကြောင့် အသံချသည်ကား ငေ

၉။ ကျောင်းဝင်အလှူ သံ

၁၀။ ဃာမြေ ရှင်း၍ပေးလာသည်

၁၁။ ကား လက်ရွေးစင်

**ကြောဘက်**

၁။ မီးပေါက် သွေ

၂။ န ၁ ယောက်၊ အစေ

၃။ ခံအငယ် ရာဇသူရ

၄။ ကို ရာဇထီးဖြူသို့ စေ၍

၅။ . . . ရေစီးအခြားက အစေခံ

၆။ သူကြီးမယား ဉပလဝ

၇။ န် သင်္ချိမြေ ရေစီးအ

၈။ ခြားကသည် ပေးတော်ပြု၏

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်**

၁။ သက္ကြစ် = သက္ကရာဇ်

၂။ ဝါဆိုဝ် = ဝါဆို

၃။ တလင်ဂနီ = တနင်္ဂနွေ

၄။ နိ = နေ့

၅။ အစီခန် = အစီခံ = အစေခံ = မင်းကိုယ်လုပ်

၆။ သူကြီး = အကြီးအကဲ

၇။ မယာ = မယား

၈။ ဉပလွန် = ဉပလဝန် = မင်းအစေခံသူကြီး၏ ဇနီးကတော်အမည်။

၉။ အသံချ = အမိန့်တော်ချမှတ်သည်။

၁၀။ သ်ှ = သည်

၁၁။ ကာ = ကား

၁၂။ ကျောင်းဝင်အလျ္ဂ = ကျောင်းတွင်ပါဝင်သောအလျှု
၁၃။ သင်ခါ = သံဃာ = ရဟန်း
၁၄။ ပီ = ပေး
၁၅။ မီပေါက်သွေန = မီးပေါက်သေနတ်
၁၆။ မီးပေါက်သွေန ၁ ယောက် = မီးပေါက်သေနတ် လက်နက်ကိုင် တစ်ယောက်။
၁၇။ အဇီခံအငဲ = အစီခံအငယ် = အစေခံအငယ်
၁၈။ ရဇသူရ = ရာဇသူရ = အစေခံအငယ်၏အမည်။
၁၉။ ရာဇဓိဖြူ = ရာဇထီးဖြူ = လူအမည်
၂၀။ စီ = စေလွှတ်သည်။
၂၁။ ရီစီ = ရေစီး
၂၂။ သႅီ = သႅိ

**ကျောက်စာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့ သရက်အုပ်ဘုရားစေတီတော်တစ်ဆူမှ စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၉၆၇ ခုနှစ်တွင် မင်း၏အစေခံသူကြီးမယား ဥပလဝန်၏ သႅိမြေသည် ဘုန်းတော်ကြီးကျောင်းတွင် ရဟန်းသံဃာများအား လှူဒါန်းထားသည့်မြေနှင့် ရောနှောပါဝင်နေကြောင်း ဥပလဝန်က လျှောက်ထားသောကြောင့် သႅိမြေနှင့် ကျောင်းအလှူခံသံဃာမြေတို့ကို ရှင်းလင်းပေးပြီး အမိန့်တော်ချမှတ်ခဲ့သည်။ လက်ရွေးစင် မီးပေါက်သေနတ်ကိုင်တစ်ဦးဖြစ်သော အစေခံငယ် ရာဇသူရကို ရာဇထီးဖြူထံသို့ စေလွှတ်၍ အစေခံသူကြီး မယားဥပလဝန်သႅိမြေကို ရေစီးအခြားမှသည် ပေးတော်မူ၏ဟူ၍ ရေးထိုးထားသည်။ ဤကျောက်စာသည် ဘုရားပိုင်မြေ(ဝတ္တက)နှင့် ရဟန်းတော်များအပိုင်း(သံဃိက)မြေ ရောထွေးပြီး အရှုပ်အထွေးဖြစ်နေသည်ကို ဘုရင်မင်းမြတ်ထံ လျှောက်ထားရာ ဘုရင်မင်းမြတ်က အမိန့်တော်ချမှတ်ပြီး ရှင်းလင်းပေးသော တရားစီရင်ထုံးတစ်ခု ဖြစ်သည်။ သက္ကရာဇ် ၉၆၇ ခုနှစ်(**AD 1605**)သည် ဒုတိယမြောက်ဦးခေတ် ဆင္ဖမြောက်မင်း ဘုရင်မင်းရာဇာကြီးလက်ထက် ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာဖြစ်သည်။



၂၄၈။ တြိရတနာမုနိရတနဝိမာလဝတ်ကျောင်းတော် ကျောက်စာ
(ပန်းဈေးမြောင်း ချတွင်းကျိုင်ကျောက်စာ)
သက္ကရာဇ် ၉၇၁ ခု (AD 1609)



## ၂၄၈။ တြိရတနာမူနိရတနဝိမာလဝတ်ကျောင်းတော် ကျောက်စာ (ပန်းဈေးမြောင်း ချတွင်းကျိုင်ကျောက်စာ)

**သက္ကရာဇ် ၉၇၁ ခု (AD 1609)**

**ကျောက်စာမူရင်းအရေးအသား**

**(မျက်နှာဘက်)**

**ပါတ်လည်စာ**

၁။ သူခေါင်ကျော်ထင်အစီသာရေတော်ခန်နောင်တော် ဆွေသန်တော်ချသ် . . . . . . . . . . . . . . . .
. . . . . . . မိဖုယာပိသ်ကစာဘတ်ညှိုဝ်လေ့်နှင်

**(မျက်နှာစာ)**

၁။ ။။သက္ကြဇ်၉၇၁ခုတောသလ(င်)

၂။ လွှတ်ဖရက်ဗုတဟုနိမစ္ထိမာ

၃။ တရိဝ်ပြည်ကြီမျာအပေါင်နှင်ဟံသာ(ဝတီ)

၄။ သရေချတ္တရာပြည်ကြီကိုဝ်အစိုဝ်ရတော်မူ(သောမင်တ)

၅။ ကာတိုဝ်ခက်အလွန်မြတ်တော်မူသောရွှေနန်(သခင်ဆင်)

၆။ နီသခင်ဘဝသျှင်နရဓိပတိမိတော်မူသောအမတ် . .

၇။ စ်ချေမုရင်ခေါင်စာမူရင်ခတ်ဆရာတော်ရာမ . .

၈။ ဝ်ဘိုဝ်ဘုံကြီဝတ်ကျောင်ဇာတိဝဓိကျွန်မြောက်က . .

၉။ မော်လျှင်အခြာတောင်ကရေလဲချောင်ကြိနာနောက် . .

၁၀။ ချောင်လျှင်အခြာတိုင်အောင်လှူတော်ပြုသ့်သုဓ . . .

၁၁။ ခာရွာနှစ်ရွာအရှေ့ဘကင်ြက်သျှည်ရွာမြောက် . .

၁၂။ သျှည်၉မုဆိုဝ်ဘိုဝ်ဘုံကြိဝတ်ကျောင်တော်ဇာတိရင် .

၁၃။ စ်တည်တော်ပြုသ့်၊ဆင်ဖြူသျှင်သာတော်မဟာဥပရာ .

၁၄။ ဝ်ဖက်ခွပ်ဆိပ်မာယိုဝ်စာငရဲဖြုစုမ်အလုမ်စုမ်ကို . .

၁၅။ တော်ပြုသ့်ပန်သုမ်ချောင်မာဆင်ဖြူသျှင်မင်တရာလှူတော် . .

၁၆။ သက္ကံကျင်တွင်သုံစုတစ်စုကိုဝ်ဗုဂိုလ်နှင်သင်္ခာနှအကွကိုဝ်လှူတော်

၁၇။ ပြုသ့်ဇာတိအလှူဘက်ရေပြင်ဆိုက်သ့်လျှင်အခြားတည်

၁၈။ ဤငကောင်မှုကိုချိပင်ပါသောသူတိုဝ်ကာဆင်ရည်သာသော်

၁၉။ သူဋ္ဌေသူကြွယ်ဖြစ်စိသောအမတ်သာသော်အမတ်ဖြစ်စေ

၂၀။ သာ်မင်သာသော်မင်ဖြစ်စေသောမင်သော်ကာစကြ္ကာရတနာရောက်

၂၁။ စေသောငါနအတူကောင်မှုအကျိုဝ်ကိုဝ်ရကုမ်စေသော၊

၂၂။ ကောင်မှုကိုဖျက်သောသူကိုဝ်ကာဆင်ရဲသာသော်မဟာ

<u>ကြောဘက်</u>

၁။ · · · · · · · ကျစေသောဝ်
၂။ · · · · · · · ဝက်၍သေလေစေ
၃။ · · · · · · သာအမတ်သော်အမတ်ဖျက်စေ
၄။ · · · · · · ကဲသိုဝ်ဖြစ်စေသောမင်သာမင်
၅။ · · · · · · မင်နူမင်ဝဲမင်ဆင်ရဲဖြစ်၍ရန်သူမျိုဝ်
၆။ · · · · · သောအဆိပ်မျိုဝ်ခဲ၍သေလေစေသော
၇။ · · · · · ဓာမျိုဝ်ခုတ်၍သေလေစေသောလုံ့မျိုဝ်စူ၍ေ
၈။ · · · · · ၍သေလေစေသောသေသော်လှ်အပဲလယ်ဗါ
၉။ · · · · · ဘုရာတကာချွတ်၍မကျွတ်စေသော။မိမိ၏
၁၀။ · · · · ကိုဝ်အကြင်သူသှ်ဖျက်၏ဖျက်သောသူကိုဝ်ကာဘု
၁၁။ · · · · ·။။သကံဒဒပုညကံဘုမ္မိကန္ဒေတသလင်္ချိကပ္ပကော
၁၂။ · · · · စ္စတ္တယာဝဇီဝပဇိတျာ၊သတ္တသောဇာယတေကိ
၁၃။ · · · · · ဒဒံမိမိလှူသောသင်္ချိကံသင်္ချိကဖြစ်သောဘုံမိလှ်ရာမိုဝ်(မြေ)
၁၄။ · · · · တိတံသူတပါလှူသောသင်္ချိကံသင်္ချိကဖြစ်သောဘုံမိလှ်ရာမိုဝ်မြေ
၁၅။ · · · · ယူမိအန်သောထိုဝ်ယူသောဖျတ်သောသူသှ်ကားကပ္ပကောတိ
၁၆။ · · · · ကြိုတသိန်ပတ်လုံအဝိစိမီအခဲနို့က်ဥပကင်ခံရလေ၏ယာဝဇီ
၁၇။ · · · · · ရာခံလေဗြိမှယဝဒံအကြင်မိမိဖျက်သူသေလည်မြေစသည်တိုဝ်
၁၈။ · · · · သှ်မကိမိပိုဝ်လောက်သှ်ဇာယဒေဖြစ်၏ဟူ၍ဟောတော်မူသော
၁၉။ · · · · ပတ်နှင့်အညီဖြစ်စီသော။ပန်သုမ်ချောင်မာ။ဆင်ဖြူသျှင်မင်တရာ
၂၀။ · · · သင်ကဲကျင်။သုံစုတစုကိုဝ်လှ်ဗုဂိုလ်နှင်သာနှအကွလှူတော်ပြသည်
၂၁။ · · · တြိရတနာမုဏိရဒါနဝိမာလာဝတ်ကျောင်တော်ကိုဝ်တည်သော
၂၂။ (အ)ကျိုဝ်ကိုဝ်ကာ၊ဆင်ဖြူသျှင်နရာဓိပတိနှအကွသောအောက်
၂၃။ ကားအဝိစိအထက်ကာဘဝက်။စကရဝလာကကုဋ္ဌေတသနှစ်
၂၄။ ဟိသော။လူနတ်ဗြဟ္မာသတ္တဝါရေနှစ်ဟိသော။သတ္တဝါ။ကြည်
၂၅။ နှစ်ဟိသောသတ္တဝါ။ရက္ခစိုဝ်ဗြမစိုဝ်။အာကာသစိုဝ်။သာသနာကို
၂၆။ ဝ်စောင်သော။နတ်နှအကွသောမည်တောခမည်တောဆေ
၂၇။ တ်မျိုဝ်တော်။အလုံစုံကိုဝ်လှ်။ငါဝီ၏။သာသနာကိုဝ်စောင်သော
၂၈။ နတ်အပေါင်းတိုဝ်သှ်လှ်။ငကောင်မှုကိုဝ်ငါ၏ကိုစာစောင်ရှောက်
၂၉။ ပါစီကုံမ်သော။။ဖုရာမင်တိက္ခာကျောင်တော်ကိုဝ်စေသောဖက်ဆက်
၃၀။ မြောက်ဖဆင်ဖြူသခင်မင်ရာစဆြာတော်ဘုရာနာဂရအမေတော်ဟိ(သာ)
၃၁။ ။ဘုံကြီကောင်မှုတော်။။။။

<u>**ခေတ်ကာလအရေးအသား**</u>

<u>**မျက်နှာဘက်**</u>

<u>**ပါတ်လည်စာ**</u>

၁။ သူကောင်းကျော်ထင် အစီသားရှေ့တော်ခံ နောင်တော်ဆွေ သံတော်ချသည် . . . . . . . . . . . . . .
. . . . . . . . . မိဖုရားပေးသည်က စာဖတ်ညှိုဝ် လယ်နှင့်

<u>**မျက်နှာစာ**</u>

၁။ သက္ကရာဇ် ၉၇၁ ခု တော်သလ(င်း)
၂။ လဆုတ် ၆ ရက် ဗုဒ္ဓဟူးနေ့ မစ္ဆိမ
၃။ တရိုး ပြည်ကြီးများအပေါင်းနှင့် ဟံသာ(ဝတီ)
၄။ သရေခေတ္တရာပြည်ကြီးကို အစိုးရတော်မူ(သော မင်းတ)
၅။ ကာတို့ထက် အလွန်မြတ်တော်မူသော ရွှေနန်း(သခင် ဆင်)
၆။ နီသခင် ဘဝရှင်နရဓိပတိမိန့်တော်မူသော အမတ် . .
၇။ စ်ချေ မုရင်ထောင်စား မူရင်းခါတ်ဆရာတော်ရာမ . .
၈။ ဝ်ဘိုးဘုန်းကြီးဝတ်ကျောင်းစေတီ ဝထီကျွန်း မြောက်က . .
၉။ မော်လျှင်အခြား တောင်ကရေလယ်ချောင်းကြီးနား နောက် . .
၁၀။ ချောင်းလျှင် အခြားတိုင်အောင် လှုတော်ပြုသည် သုခ . . .
၁၁။ ခါ ရွာနှစ်ရွာအရှေ့ဘက် ခြောက်သျှည်း ရွာမြောက် . .
၁၂။ သျှည်ကို မုဆိုးဘိုဘုန်းကြီးဝတ်ကျောင်းတော်စေတီရင်း . .
၁၃။ စ်တည်တော်ပြုသည်၊ ဆင်ဖြူရှင်သားတော်မဟာဥပရာ .
၁၄။ ဝ်ဖက်ခွပ်ဆိပ်မှာ ယိုးစားငရဲဖြူစုံအလုံးစုံကို . .
၁၅။ တော်ပြုသည် ပန်းသုံးချောင်မှာ ဆင်ဖြူရှင်မင်းတရားလှုတော် .
၁၆။ သက်ကေကျင်းတွင် သုံးစုတစ်စုကို ပုဂ္ဂိုလ်နှင့် သံဃာနှင့်တကွကို လှုတော်
၁၇။ ပြုသည် စေတီအလှူဘက် ရေပြင်ဆိုက်သည်လျှင် အခြားတည်း
၁၈။ ဤငါ့ကောင်းမှုကို ချီးမြှင့်ပါသောသူတို့ကား ဆင်းရဲသားသော်
၁၉။ သူဌေးသူကြွယ်ဖြစ်စေသော အမတ်သားသော် အမတ်ဖြစ်စေ
၂၀။ သာ မင်းသားသော် မင်းမြတ်ဖြစ်စေသော မင်းသော်ကား စကြ္ကာရတနာရောက်
၂၁။ စေသော ငါနှင့်အတူ ကောင်းမှုအကျိုးကိုရကုန်စေသော
၂၂။ ကောင်းမှုကို ဖျက်သောသူကိုကား ဆင်းရဲသားသော် မဟာ

<u>**ကျောဘက်**</u>

၁။ . . . . . . . ကျစေသော
၂။ . . . . . . . ဝက်၍ သေလေစေ
၃။ . . . . . . . သား အမတ်သော် အမတ်ဖျက်စေ
၄။ . . . . . . . ကဲ့သို့ဖြစ်သော မင်းသား မင်း
၅။ . . . . . . . မင်းနှမင်းဝဲမင်းဆင်းရဲဖြစ်၍ ရန်သူများ

၆။ . . . . သောအဆိပ်မျိုးခဲ၍ သေလေစေသော စ
၇။ . . . . ဓါးမျိုးခုတ်၍ သေလေစေသော လှံမျိုးစူး၍ ေ
၈။ . . . . ၍ သေလေစေသော သေသော်လည်း အပါယ်လေးပါး
၉။ . . . . ဘုရားတကာချွတ်၍ မကျွတ်စေသော မိမိ၏
၁၀။ . . . ကိုအကြင်သူသည် ဖျက်၏ ဖျက်သောသူကိုကား ဘုရား
၁၁။ . . . . ။ ။ သကံဒဒပုညကံဘုမ္မိကန္ဒေတသင်္ချိကကပွကော
၁၂။ . . . စ္စတ္တိယာဝဇီဝပဇိတ္သာ၊ သတ္တသောဓာယတောကံ
၁၃။ . . . ဒဒံ၊ မိမိလှူသော၊ သံဃိကံ၊ သံဃိကဖြစ်သော ဘုမ္မိ၊ လယ်ယာမိုး(မြေ)
၁၄။ . . . တိတံ၊ သူတစ်ပါးလှူသော၊ သံဃိကံ၊ သံဃိကဖြစ်သော၊ ဘုမ္မိ၊ လယ်ယာမိုးမြေ
၁၅။ . . . ယူမိအံ့သော ထိုဝ်ယူသော ဖျက်သောသူသည်ကား။ ကပ္ပကောတိ
၁၆။ . . . ကြီးတစ်သိန်းပတ်လုံး အဝီစိမီးအထဲ၌ ဥပကတိ၊ ခံရလေ၏၊ ယာဝဇီ
၁၇။ . . . . ရာခံလေပြီးမှ ယဝဒံ၊ အကြင် မိမိဖျက်သူသည် လယ်မြေစသည်တို့
၁၈။ . . . သည် ကိမိ၊ ပိုးပေါက်သည်၊ ဓာယဒေ၊ ဖြစ်၏ ဟူ၍ဟောတော်မူသော
၁၉။ . . . ပတ်နှင့်အညီ ဖြစ်စေသော ပန်းသုံးချောင်းမှာ ဆင်ဖြူရှင်မင်းတရား
၂၀။ . . သက်ကေကျင်း။ သုံးစုတစ်စုကိုလည်း ပုဂ္ဂိုလ်နှင့်သံဃာနှင့်တကွ လှူတော်ပြုသည်။
၂၁။ . . တြိရတနာမုနိရတနဝိမာလဝတ်ကျောင်းတော်ကို တည်သော
၂၂။ (အ)ကျိုးကိုကား၊ ဆင်ဖြူရှင်နရာဓိပတိနှင့်တကွသော အောက်
၂၃။ ကား အဝီစိ အထက်ကား ဘဝဂ် စကြ္ကာဝဠာကုဋ္ဌေတသိန်း၌
၂၄။ ရှိသော လူနတ်ဗြဟ္မာ သတ္တဝါ ရေ၌ရှိသောသတ္တဝါ ကြည်း
၂၅။ ၌ရှိသောသတ္တဝါ ရက္ခစိုး ဗြဟ္မစိုး (ဘုမ္မစိုး) အာကာသစိုး သာသနာကို
၂၆။ စောင့်သောနတ်နှင့်တကွသော မယ်တော်ခမည်းတော် ဆွေ
၂၇။ တော်မျိုးတော် အလုံးစုံကိုလည်း ငါဝီ၏ သာသနာကိုစောင့်သော
၂၈။ နတ်အပေါင်းတို့သည်လည်း ငါ့ကောင်းမှုကို ငါ၏ကိုယ်စား စောင့်ရှောက်
၂၉။ ပါစေကုန်သော။ ဘုရားမင်းတိက္ခာကျောင်းတော်ကိုသော ခြောက်ဆက်
၃၀။ မြောက်သော ဆင်ဖြူသခင်မင်းရာဇာ ဆရာတော်ဘုရားနာရ အမည်တော်ရှိ(သော)
၃၁။ ဘုန်းကြီးကောင်းမှုတော်။။

**<u>ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်</u>**

၁။ သက္ကြဇ် = သက္ကရာဇ်
၂။ တောသလင် = တော်သလင်း
၃။ ဗုတဟု = ဗုဒ္ဓဟူး
၄။ နို = နေ့
၅။ မဋ္ဌိမာ = မဋ္ဌိမ
၆။ တရိုဝ် = တရိုး
၇။ သရေချတ္တရာ = သရေခေတ္တရာ
၈။ ကိုဝ် = ကို

၉။ အစိုဝ်ရ = အစိုးရ
၁၀။ တိုဝ် = တို့
၁၁။ ခက် = ထက်
၁၂။ ဘဝသျှင် = ဘဝရှင်
၁၃။ မိတော်မူ = မိန့်တော်မူ
၁၄။ မုရင်ခေါင်စာ = မူရင်းထောင်စား
၁၅။ မူရင်ခတ် = မူရင်းခတ် = မူရင်းစေတီ
၁၆။ ဘိုဝ် = ဘိုး
၁၇။ ဘုံကြီ = ဘုန်းကြီး = ဘုန်းတော်ကြီး
၁၈။ ဝတ် = ကိန်းဝတ် = နေထိုင်သည် = သီတင်းသုံးသည်
၁၉။ ဝတ်ကျောင်း = ကိန်းဝတ်တော်မူသည့်ကျောင်း = သီတင်းသုံးတော်မူသည့်ကျောင်း
၂၀။ ဇာတိ = ဇာတီ = စေတီ
၂၁။ ဝဓိ = ဝထိ = ဝင်ဝထိ
၂၂။ ကျွန် = ကျွန်း
၂၃။ ကျွန်မြောက်က = ကျွန်း၏မြောက်ဘက်မှ
၂၄။ မော် = ကုန်း၊ အငူ
၂၅။ တောင်က = တောင်ဘက်မှ
၂၆။ ရေလဲချောင်ကြိနာ = ရေလယ်ချောင်းကြီးနား
၂၇။ လှူတော်ပြုသ် = လှူတော်မူသည်
၂၈။ အရှေ့ဘက = အရှေ့ဘက်မှ
၂၉။ ဖက် = ခြောက်
၃၀။ သျှည်ဇ = သျှည်းကို
၃၁။ မုဆိုဝ်ဘိုဝ် = မုဆိုးဖို
၃၂။ မာ = မှာ
၃၃။ ယိုဝ်စာ = ယိုးစား
၃၄။ အလုမ်စုမ် = အလုံးစုံ
၃၅။ ပန်သုမ်ချောင် = ပန်းသုံးချောင်း
၃၆။ သက္ကဲကျင် = သက်ကယ်ကျင်း = သက်ငယ်ပင်များပေါက်သည့်ကွင်းပြင် = သက်ငယ်တော
၃၇။ ဗုဂိုလ် = ပုဂ္ဂိုလ် = လူပုဂ္ဂိုလ်
၃၈။ သံခ်ာ = သံဃာ = ရဟန်းသံဃာ
၃၉။ အကွ = တကွ
၄၀။ ဇာတိအလှူဘက်ရေပြင်ဆိုက်သ် = စေတီအလှူဘက် ရေပြင်သို့တိုင်အောင် ဆိုက်ရောက်သည်။
၄၁။ ငကောင်မူ = ငါ့ကောင်းမှု
၄၂။ ချိပင် = ချိပင့် = ချီးမြှင့်
၄၃။ ဆင်ရည် = ဆင်းရဲ

၄၄။ သာ = သား
၄၅။ မင် = မင်း
၄၆။ အကျိုဝ် = အကျိုး
၄၇။ ရကုမ်စေသော = ရကုန်စေသော
၄၈။ မင်နှမင်ဝဲ = မင်းနှမင်းဝဲ
၄၉။ ခဲ = စားခြင်းပုံစံတစ်မျိုး
၅၀။ အဆိပ်မျိုးခဲ၍ = အဆိပ်မျိုစား၍ (စာဖွယ်၊ သောက်ဖွယ်၊ ခဲဖွယ်၊ လျက်ဖွယ်၊ မျိုဖွယ်)
၅၁။ ယူမိအန်သော = ယူမိအံ့သော
၅၂။ လည်မြေ = လယ်မြေ
၅၃။ ပတ် = ပါဠ် = ပါဠိ
၅၄။ အဝိစိ = အဝီစိ
၅၅။ ဘဝက် = ဘဝဂ်
၅၆။ စကရဝလာ = စကြ္ကာဝဠာ
၅၇။ ဟိ = ရှိ
၅၈။ နှစ် = ဥ္စ
၅၉။ ဗြမစိုဝ် = ဘုမ္မစိုး
၆၀။ နှ = နှင့်
၆၁။ မည်သော = မယ်တော်
၆၂။ ဆေတော် = ဆွေတော်
၆၃။ လှ် = လည်း
၆၄။ ငါဝီ၏ = ငါအမျှပေးဝေ၏
၆၅။ စောင်သော = စောင့်သော
၆၆။ ကိုစာ = ကိုယ်စား
၆၇။ စောင်ရှောက်ပါစီသော = စောင့်ရှောက်ပါစေကုန်သော
၆၈။ ဖုရာ = ဘုရား
၆၉။ ဖုရာမင်တိက္ခာ = အရှင်မင်းမြတ်ဘုရားမင်းတိက္ခာ
၇၀။ ဖက်ဆက် = ခြောက်ဆက်
၇၁။ မြောက်ဖ = မြောက်သော
၇၂။ ဆင်ဖြူသခင်မင်ရာစ = ဆင်ဖြူသခင်မင်းရာဇာ
၇၃။ ဆြာတော်ဘုရား = ဆရာတော်ဘုရား
၇၄။ အမေတော်ဟိသော = အမည်တော်ရှိသော
၇၅။ ဘုံကြီ = ဘုန်းကြီး = ဘုန်းတော်ကြီး
၇၆။ သူခောင် = သူကောင်း
၇၇။ အစီသား = အစေခံ

၇၈။ ရှေတော်ခန် = ရှေ့တော်ခံ = ဘုရင်ထွက်တော်မူသောအခါ ဘုရင့်ရှေ့တော်မှ စောင့်ရှောက်လိုက်ပါရသူ

၇၉။ သန်တော်ချ = အမိန့်တော်ချမှတ်သည်

၈၀။ မိဖုယာ = မိဖုရား

၈၁။ ပိ = ပေး

၈၂။ က = ကား

၈၃။ စာဘတ် = စာဖတ်

၈၄။ လ့် = လယ်

**ကျောက်စာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့မြောက်ဘက်၊ ပန်းဈေးမြောင်း၊ ချီးတွင်းကျိုင်ရှိ တြိရတနာမုနိရတနဝိမာလဝတ်ကျောင်းတိုက်တော်တွင် စတွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

၎င်းကျောက်စာကို ပန်းဈေးမြောင်း၊ ချီးတွင်းကျိုင်ကျောက်စာဟူ၍ ခေါ်ဆိုနေကြသည်။ ပန်းဈေးမြောင်းအရပ်၊ ချီးတွင်းကျိုင်ထဲတွင်တွေ့ရသောကြောင့် ယင်းသို့ခေါ်ဆိုနေကြခြင်းဖြစ်သည်။ 'ချီးတွင်း'ဆိုသည်မှာ ရခိုင်စကားတွင် 'မစင်တွင်း'ကိုခေါ်ဆိုသည်။ မစင်တွင်းကဲ့သို့ တွင်းငယ်များတွေ့ရ၍ 'ချီးတွင်းကျိုင်' ဟူ၍ခေါ်တွင်နေကြခြင်းဖြစ်သည်။ အမှန်မှာ ၎င်းနေရာသည် ကျောက်စာတွင်ပါရှိသကဲ့သို့ ပန်းသုံးချောင်အရပ်ရှိ တြိရတနာမုနိရတနဝိမာလဝတ်ကျောင်းတော်ရာကြီးဖြစ်သည်။ ဆရာကြီးဦးဦးသာထွန်းအဆိုအရ ရှေးခေတ်က ၎င်းကျောင်းတော်မှ ရဟန်းသံဃာများသည် မြေကိုကျင်းတူးပြီး တရားကြိုးစားအားထုတ်ခဲ့ကြသည်။ ၎င်းကျင်းများသည် 'ချီးတွင်း' (မစင်တွင်း)များမဟုတ်ဘဲ တရားကြိုးစားအားထုတ်ခဲ့သည့် တွင်းငယ်များသာ ဖြစ်ကြသည်ဟု ပြောဆိုခဲ့ဖူးပါသည်။

ကျောက်စာကြောဘက်ကြောင်းရေ(၂၁)တွင် 'တြိရတဏာမုဏိရဒါနဝိမာလာဝတ်ကျောင်းတော်'ဟူ၍ တွေ့ရသည်။ ၎င်းအမည်သည် ၎င်းကျောက်စာရေးထိုးပြီးလှူဒါန်းခဲ့သည့် ကျောင်းတော်၏အမည်ဖြစ်သည်။ တြိရတဏာမုဏိရဒါနဝိမာလာဆိုသောဘွဲ့တော်မှာ ၎င်းကျောင်းတော်ကြီး၏ ပဌာနနာယကဆရာတော်ကြီး၏ ဘွဲ့တော်ဖြစ်သည်။ ယင်းဆရာတော်ကြီးသီတင်းသုံးကျိန်းဝတ်တော်မူသော ကျောင်းတော်ဖြစ်၍ 'ဝတ်ကျောင်းတော်' ဟူသောဂုဏ်ပုဒ်ကိုသုံးစွဲထားသည်ကိုတွေ့ရသည်။ သို့နှင့် ၎င်းကျောက်စာကို ၎င်းစာအုပ်တွင် တြိရတနာမုနိရတနာဝိမာလဝတ်ကျောင်းတော်ကျောက်စာဟူသောအမည်ကို ပေးထားပါသည်။

ကျောက်စာရေးထိုးသောခုနှစ်ကို ကျောက်စာတွင် ၉၇၁ ခုဟူ၍တွေ့ရသည်။ ၎င်းကာလသည် ဒုတိယမြောက်ဦးခေတ် ဆဋ္ဌမမြောက်ဘုရင် မင်းရာဇာကြီး(၉၅၅-၉၇၄)**(AD 1593-1612)**လက်ထက်ကျရောက်သည်။ ဘုရင်မင်းရာဇာကြီး၏ ဘွဲ့မည်တော်များကို ကျောက်စာမျက်နှာဘက် ကြောင်းရေ(၅ နှင့် ၆)တွင် 'ရွှေနန်းသခင် ဆင်နီသခင်ဘဝရှင် နရာဓိပတိ'ဟူသော ဘွဲ့မည်တော်ကိုလည်းကောင်း၊ ကျောက်စာကြောဘက် စာကြောင်းရေ ၂၂ တွင် 'ဆင်ဖြူရှင် နရာဓိပတိ'ဟူသော ဘွဲ့မည်တော်ကိုလည်းကောင်း တွေ့ရသည်။ ၎င်းဘွဲ့အမည်တော်များသည် သက္ကရာဇ် ၉၅၅ ခုနှစ်တွင်ခတ်နှိတ်ခဲ့သော ဘုရင်မင်းရာဇာ၏ဒင်္ဂါးတွင်ပါရှိသော 'နရာဓိပတိဆောလိမ်သျှာ'ဟူသော ဘွဲ့အမည် တော်နှင့်သော်လည်းကောင်း သက္ကရာဇ် ၉၆၃ ခုနှစ်တွင် ခတ်နှိပ်ခဲ့သော ဘုရင်မင်းရာဇာ၏ အင်္ဂါတွင်ပါရှိသော 'ဆင်ဖြူသျှင်နရာဓိပတိဆောလိမ်သျှာ'ဟူသော ဘွဲ့အမည်တော်နှင့်သော်လည်းကောင်း ကိုက်ညီမှုရှိနေသည်ကို တွေ့ရပေသည်။ ရခိုင်သမိုင်းတို့တွင်ကား ဘုရင်မင်းရာဇာ၏အမည်ကို 'မင်းရာဇာကြီး' 'သတိုးဓမ္မရာဇာ' 'ဆောလိမ်သျှာ'ဟူ၍ တွေ့နိုင်ပေသည်။

ကျောက်စာ ကြောဘက် ကြောင်းရေ(၂၉-၃၀)တွင် ‘ခြောက်ဆက်မြောက်သောဆင်ဖြူသခင်မင်းရာဇာ’ ဟူ၍ တွေ့ရသည်။ ဤစာကြောင်းကို ထောက်ခြင်းဖြင့် သမိုင်းဆရာများ ယူဆသကဲ့သို့ မင်းစောမွန်အနွယ်တော် အုပ်စိုးသောခေတ်ကို ပထမမြောက်ဦးခေတ်၊ ဘုရင်မင်းဗါကြီး အနွယ်တော်အုပ်စိုးသောခေတ်ကို ဒုတိယမြောက်ဦး ခေတ်ဟူ၍ ထိုစဉ်ကပင် ခေတ်ကာလ ခွဲခြားထားခဲ့ကြသည်မှာ ထင်ရှားသည်။ အဘယ်ကြောင့်ဆိုသော် ကျောက်စာ ပါအဆိုအတိုင်း ဘုရင်မင်းရာဇာမင်းကြီးသည် ဒုတိယမြောက်ဦးခေတ်၏ ပထမဆုံးသောဘုရင် မင်းဗာကြီးမှ ရေတွက်သော် ခြောက်ဆက်မြောက်မင်း ဖြစ်နေသည်ကိုတွေ့ရပေသည်။

ဤအလှူမှတ်တမ်းကမ္ပည်းကျောက်စာတွင် တြိရတနာမုနိရတနဝိမာလကျောင်းတော်နှင့် လယ်မြေ သက်ငယ်ကျင်းများကို လှူဒါန်းသည့် အလှူရှင်မှာ ဆင်ဖြူသခင်မင်းရာဇာကြီး၏ ဆရာတော်ဘုရားနာဂရ ဘုန်းတော် ကြီးဖြစ်သော်လည်း လှူဒါန်းသည့်လယ်မြေနှင့် သက်ငယ်ကျင်းများကို တိုင်းတာသတ်မှတ်ပြီး အမိန့်ပြန်တမ်း ထုတ်ပြန်ရသူမှာ ဘုရင်မင်းရာဇာကြီးသာဖြစ်နေသည်။ အမိန့်ပြန်တမ်းကိုလည်း မင်းမှုထမ်းအစေသား ရှေ့တော်ခံက သာ အမိန့်ပြန်တမ်းစာဖတ်ရသည်ကိုတွေ့ရသည်။ ဤအချက်ကိုထောက်ရှုပါက ဘုရင်သည် မြေယာအားလုံးကို ပိုင်ဆိုင်သည့် ရေမြေ့ရှင်ဖြစ်ကြောင်း ဘုရင်ကသာ သာသနာမြေအဖြစ် အမိန့်တော်ထုတ်ပြန်နိုင်ကြောင်း ဘုရင်အမိန့် ပြန်တမ်းကိုလည်း မင်းမှုထမ်းများကသာ ဖတ်ကြရကြောင်း စသည့် ရုံးလုပ်ငန်းသဘောသဘာဝများကိုတွေ့ရသည်။

သို့နှင့် ဤကျောက်စာသည် သာမန်အလှူမှတ်တမ်း ကျိန်စာမျိုးမဟုတ်ဘဲ ဘုရင့်အမိန့်ပြန်တမ်း အလှူမှတ် တမ်း ကမ္ပည်းကျောက်စာမျိုးဖြစ်နေသည်ကို ထူးခြားစွာတွေ့ရသည်။ ကျိန်စာနှင့် ဆုတောင်းများမှာလည်း သာမန် ကျောက်စာများထက် ထူးခြားနေသည်ကို တွေ့နိုင်သည်။

ဘုရင်မင်းရာဇာကြီးလက်ထက် ရခိုင်ပြည်၏ အကျယ်အဝန်းကို ကျောက်စာနိဒါန်းပိုင်းတွင် ‘မဇ္ဈိမတရိုး ပြည်ကြီးများအပေါင်းနှင့် ဟံသာဝတီ သရေခေတ္တရာပြည်ကြီးကို အစိုးရတော်မူသော ဟူသောစာပိုဒ်ကို ဖတ်ရှုခြင်းဖြင့် သိနိုင်သည်။

ကျောက်စာရေးသားပုံမှာ စကားပြေသက်သက်သာမဟုတ်။ ပါဠိ-ပါဠိဘာသာပြန်များဖြင့် ဝေဝေဆာဆာ ရေးသားထားသည်ကိုတွေ့ရသည်။ စာပုဒ်တစ်ပုဒ်နှင့် တစ်ပုဒ်ကြားတွင် ပုဒ်ထီးတစ်ကြောင်းစီး၊ စာပိုဒ်တစ်ပိုဒ်နှင့် တစ်ပိုဒ်ကြားတွင် ပုဒ်မနှစ်ချောင်းစီ၊ ပုဒ်ထီးပုဒ်မများဖြင့် ရေးသားထားသည်ကို ထူးခြားစွာတွေ့ရသည်။

ရခိုင်ဘာသာနှင့် ပါဠိဘာသာကို ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်



၂း၄၉။ အဂ္ဂစိန္တေယျဘုရားဆင်းတုမွန်စာ
သက္ကရာဇ် ၉၇၇ ခု (AD 1615)

## ၂၄၉။ အဂ္ဂစိန္တေယျဘုရားဆင်းတုခုံမွခံစာ

**သက္ကရာဇ် ၉၇၇ ခု (AD 1615)**

**ကျောက်စာမူရင်းအရေးအသား**

၁။ ဿဘဇ၇၇၇ဗပွန့်ကိကသိုဝ်တွဲကျော်မတဲမိုနိုက်

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၉၇၇ ခုနှစ်ဟူသောစာသားမှအပ ကျန်စာလုံးများမှာ ပဟေဠိဆန်ဆန်ရေးသားထားသည်။

**ကျောက်စာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့မြောက်ဘက် အဂ္ဂစိန္တေယျတောင်ပေါ်တွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ရှိသည်။ သက္ကရာဇ် ၉၇၇ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် ဘုရင်မင်းခမောင်း(၉၇၄-၉၈၄)**(AD 1612-1622)** လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။



၂း၅၀။ ဝရမ္မရာဇာကျောက်စာ

သက္ကရာဇ် ၉၈၀ ခု (AD 1615)

## ၂း၅၀။ ဝရဓမ္မရာဇာကျောက်စာ
### သက္ကရာဇ် ၉၈၀ ခု (AD 1615)

<u>**ကျောက်စာမူရင်းအရေးအသား**</u>

၁။ ၀/သက္ကရာဇ်၉၈၀ · ဝါခေါင်
၂။ လွှန်ဖြက်ဖြနေ့ရွှေနန်သ(ခ)
၃။ ၀်/ဆင်ဖြူသခင်ဆင်နီသခင်
၄။ သျှင်ဘ၀သျှင်ဝရဓမ္မရာဇာမိ
၅။ န်တော်မူသောအမတ်တော်ကု
၆။ လာအတွင်စစ်ချီအမတ်တော်ရွှေစုန်
၇။ တတ်ကြိ၊မုဇုန္ဒာအဒေါင်မျာလေတတ်မူ
၈။ ကာတိုဝ်၊မရိန်ထောင်စာမောလိတ်ဆိယ်ံတိတိုဝ်
၉။ တ်ုသ်ုကောင်မူတွင်သ်ံချိတ်ုဖိုဝ်
၁၀။ ကျခုတ်တောင်မြိုရှင်ကျန်တိန်လဲမြယ်
၁၁။ အနက်ကကျက်သာနှစ်သျှည်ပိစီသော
၁၂။ · · · · · ကျောင် · · · · ၏

<u>**ခေတ်ကာလအရေးအသား**</u>

၁။ ၀/ သက္ကရာဇ် ၉၈၀ · ဝါခေါင်
၂။ လဆန်းခြောက်ရက် သောကြာနေ့ ရွှေနန်းသ(ခ)
၃။ ၀်/ ဆင်ဖြူသခင်ဆင်နီသခင်
၄။ ရှင်ဘ၀ရှင်ဝရဓမ္မရာဇာမိ
၅။ န့်တော်မူသော အာမတ်တော်ကု
၆။ လားအတွင်းစစ်ချီ အမတ်တော်ရွှေဇုန်
၇။ တတ်ကြီး၊ မုဇုန္ဒာအဒေါင်မျာ လဲတပ်မှူး
၈။ ကာတို၊ မရိန်းထောင်စား မောလိတ်ဆိယ်ံတိတို့
၉။ တည်သည်ကောင်းမှုတွင် သ်ံချိတည့်ဖို့
၁၀။ ကျားခုတ်တောင်မြို့ရှင် ကျန်တိန်လယ်မြေ
၁၁။ အနက်မှ ကျက်သားနှစ်သျှည်း ပေးစေသော ·
၁၂။ · · · · · ကျောင်း · · · · ၏

<u>**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်များ**</u>

၁။ ဖြက် = ဖြ ရက် = ခြောက်ရက်
၂။ ဖြ နေ = သောကြာနေ့
၃။ အမတ်တော်ကုလားအတွင်းစစ်ချီ = ကုလားပြည်အတွင်းသို့ စစ်ချီရသော အမတ်တော်
၄။ ဇုန်တတ်ကြီး = စစ်သူကြီး၊ စစ်ဗိုလ်မှူးကြီး

၅။ မုဇုန္ဒာ = စစ်သူကြီး၊  စစ်ဗိုလ်မှူး
၆။  အဒေါင်မျာ = လူအမည် (မုဇုန္ဒာအမည်)
၇။ လေတတ်မူ = လေးတပ်မှူး
၈။ ကာတိုဝ် = လူအမည် (လေးတပ်မှူးအမည်)
၉။ မရိန်ထောင်စာ = မရိန်းထောင်စား =  မရိန်းထောင်အရပ်ကို အပိုင်စားရသူ
၁၀။ မောလိတ် = နန်းတွင်းအပျိုတော်များကို ထိန်းချုပ်ရသူ
၁၁။ ဆိဃ်တိ = လူအမည် (မောလိတ်အမည်)
၁၂။ ကျခုတ်တောင် =  ကျားခုတ်တောင်မြို့
၁၃။ ရှန်ကျန်တိန် = လူအမည် (လယ်ရှင်အမည်)
၁၄။ အနက်က = အနက်မှ
၁၅။ ကျက်သာ = ကျက်သားမြေ = ထွန်ယက်စိုက်ပျိုးနေကျ အကောင်းစားမြေ
၁၆။ ပီ = ပေး

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ မြက်ရိပ်ကျွန်းကျေးရွာအနီးရှိ စေတီတစ်ဆူတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

သက္ကရာဇ် ၉၈၀ ခုနှစ်တွင် အမတ်တော်ကုလားအတွင်းစစ်ချီ၊ အမတ်တော်ရွှေဇုန်တတ်ကြီး၊ မုဇုန္ဒာအဒေါင်မျာ၊ လေးတပ်မှူးကာတိုဝ်၊ မရိန်းထောင်စား၊ မောလိတ်ဆိဃ်တိတို့ ဘုရားတွင်လှူဒါန်းသည့် ကျားခုတ်တောင်မြို့ရှိ ရှင်ကျန်တိန်လယ်မြေအနက်မှ လယ်မြေကောင်းနှစ်သျှည်းကို သံဃိက(သင်္ချိ)လယ်အဖြစ် ရွှေနန်းသခင်ဆင်ဖြူသခင် ဆင်နီသခင် ဘဝရှင်ဝရဓမ္မရာဇာမင်းကြီးသည် အမိန့်တော်ချမှတ်လိုက်သည်ဟူ၍ ရေးထိုးထားသည်။ သက္ကရာဇ် ၉၈၀ ခုသည် ဒုတိယမြောက်ဦးခေတ် ဘုရင်မင်းခမောင်း(၉၇၄-၉၈၄)**(AD 1612-1622)**လက်ထက်ဖြစ်သည်။ ဘုရင်မင်းခမောင်း၏ဘွဲ့မည်တော်များကို ရခိုင်သမိုင်းနှင့် သူခတ်နှိပ်ခဲ့သည့်ဒင်္ဂါးများပေါ်တွင် ဝရဓမ္မရာဇာဟူ၍လည်းကောင်း၊ ဥသျှောင်သျှာဟူ၍လည်းကောင်း တွေ့ရသည်။

မြောက်ဦးခေတ်တွင် လယ်မြေများကိုလှူဒါန်းသည့်အခါ ဘုရင်က အမိန့်တော်ချမှတ်ရလေ့ရှိသည်ကိုတွေ့ရသည်။ ဘုရင်သည် လယ်မြေအားလုံးကိုပိုင်ဆိုင်ပြီး ရေမြေ့သခင်ပင်ဖြစ်သည်။ ဘုရင့်အမိန့်ပြန်တမ်းထုတ်ပြန်မှ အလှူမြေအတည်ဖြစ်ကြောင်းကိုတွေ့နိုင်သည်။ သို့နှင့် ဤကျောက်စာကို လယ်မြေအမိန့်ပြန်တမ်းကျောက်စာဟူ၍လည်း ခေါ်ဆိုနိုင်သည်။ လယ်မြေကို စုပေါင်း၍လှူဒါန်းထားသည်ကိုတွေ့ရသည်။ လယ်မြေလှူရှင်များမှာ မြောက်ဦးခေတ် ဘုရင့်အမှုတော်ကိုထမ်းဆောင်ကြသည့် မင်းမှုထမ်းများဖြစ်ကြသည်။ သူတို့၏တာဝန်ထမ်းဆောင်ရသည့် ဘွဲ့ထူးဂုဏ်ထူးများနှင့် အမည်နာမများကို တမူထူးခြားစွာ လေ့လာမှတ်သားနိုင်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၅၁။ မဟာထီးရေတွင်းကျောက်စာ

### သက္ကရာဇ် ၉၈၁ ခု (AD 1619)

**ကျောက်စာမူရင်းအရေးအသား**

၁။ /အပမာလေထက္ကုမေဍျုလေဘာတိတေနိလ္လ
၂။ ဂေနဝေါနိသန္ဒမာနိဒဝနေသွာန္တောဒိတံပိ
၃။ လက္ခိတံ။မော်ကွန်ကျောက်စာထိုဝ်ခယ့်မွာပိ
၄။ မ်ဘာသာဗြမ္မကိုဝ်ရသျှစ်ဆယ်စွန်သွယ်တခုဥတု
၅။ သာစွ၊သိသီရဟု၊ပြိုက်ကျနှင်သေစိုဝ်မြေမထော
၆။ င်တပေါင်ထွန်တက်တရက်အင်္ဂါထွက်လ္လာနေ
၇။ လည်မေတွင်သိမ်မွေနှစက်လေဆက်ရံထွေ . . .
၈။ လည်လျှင်လေသော်ရွှန်ဝေခြောက်သွယ်ကူသု
၉။ မ်ဆယ်ကမ္မဘန်ရောင်ပသည်ပရတထောက်ငါဆ
၁၀။ က်မြောက်လျှင်လေနှစ်ဝင်ဝယ်စီရင်ဖောက်
၁၁။ ကျီထူးခယ်ပြီသ္လ၊မြုံညိုစင်ကြယ်ခပ်သယ်သော
၁၂။ င်သဲမိုဝ်သိုဝ်ဖွဲလည်မစဲစီဖြာတွင်သီဒါကို
၁၃။ ဝ်စက်ကြာလည်ရစ်ကျောက်ရိုင်ဝေတ်သည်၊သီ
၁၄။ ရစ်ပုံညွှန်ချပ်သ္လတည်။။နန်ဖြ၅ချပ်။

**ခေတ်ကာလအရေးအသား**

၁။ အပ္ပမာဒေထက္ကမေဍျုတေဘာတိတေနိလ္လ
၂။ ဂေနေဝေနိသန္ဒမာနိဒေဝနေသွာန္တောဒိတံပိ
၃။ လက္ခိတံ၊ မော်ကွန်းကျောက်ထိုးခဲ့မှာပိ
၄။ မ့် ဘာသာဗြမ္မ ကိုးရာ့ရှစ်ဆယ် စွန်းသွယ်တစ်ခု ဥတု
၅။ သာစွ၊ သိသီရဟု ပြိုက်ကျနှင်းသည် စိုးမြေမထော
၆။ င်း တပေါင်းထွန်းတက် တစ်ရက်အင်္ဂါ ထွက်လာနေ
၇။ လည်း မည်တွင်သိမ်မွေ့၊ နှစက်လေဆက် ရံတွေ . . .

၈။ လည်လျှင်လေသော် ရှုန်းလေခြောက်သွယ် ကူသုံး
၉။ ဆယ်မှ ဖန်ရောင်ပသည် ပရတစ်ထောင့် ငါးဆ
၁၀။ က်မြောက်လျှင် လေးနှစ်ဝင်ဝယ် စီရင်ဖောက်
၁၁။ ကျီ ထူးခဲ့ပြီသား၊ မြုံညှိစင်ကြယ် ခဲ့သည်သော
၁၂။ င်သဲ မိုးသို့ဖွေးလည်း၊ မစဲစီးဖြာ တွင်းသီဒါကို
၁၃။ စက္ကြာလည်ရစ် ကျောက်ရိုင်ဝတ်သည်၊ သီ
၁၄။ ရစ်ပုံညွှန်းချပ်သတည်း။ ။ နန် ၆၅ ချပ်

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏနှင့် ပါဠိအဓိပ္ပာယ်**

၁။ ထိုးခယ်လွှမာပိမ် = ထိုးခဲ့မှာပိမ့်
၂။ ဗြမ္မ = ဗြဟ္မာ = (ရှေးရခိုင်တို့သည် ဗြဟ္မာကြီးများမှ တိုက်ရိုက်ဆင်းသက်လာကြသည်ဟု ယုံကြည်လက်ခံ ရေးသားခဲ့ကြပြီး ဗြမ္မာဘာသာ နှောင်တွင် မြန်မာဘာသာဟုသုံးစွဲလာသည်ကိုလေ့လာတွေ့ရှိနိုင်သည်။)
၃။ ကိုဝ်ရသျှစ်ဆယ်စွန်သွယ်တခု = ကိုးရာ့ရှစ်ဆယ်စွန်းသွယ်တစ်ခု (၉၈၁)
၄။ အင်္ဂာ = အင်္ဂါ
၅။ လ္လာ = လှာ = လာ
၆။ မေတွင် = မည်တွင်
၇။ ပရ = တပါးသော၊ လွန်သော၊ နှောင်းဖြစ်သော၊ မြတ်သော
၈။ ဖောက်ကျီ = လူတို့အား ဗေဒင်ကျိန်းခန်းအရ ကံကြမ္မာ အတက်အကျ၊ လုပ်စီးကိုင်ပွားနှင့် ကျမ်းမာရေးတို့ကို ရှေးဘုရင်ခေတ်က ရခိုင်ဒေသအတွင်း အလှူခံရင်း ရွာစဉ်လှည့်လည်တွက်ချက်ပေးတတ်သော ဟိန္ဒူဘာသာရေး ဆိုင်ရာ အကြီးအကဲတစ်မျိုး)
၉။ ထူခယ်ပြီသ္လ = ထူးခဲ့ပြီ
၁၀။ မြုံညှို = အညစ်အကြေး (မြုံ = အစားအသောက် အဝတ်အထည်တို့တွင် တက်တတ်သော အလွန်သေးငယ် သည့် မှိုတမျိုး)
၁၁။ ခပ်သယ်သောင်သဲ = ခပ်သည်သောင်းသဲ = သောင်းသောင်းသဲသဲရေခပ်သည်။
၁၂။ မိုဝ်သိုဝ်ဖွဲလည် = မိုးသို့ဖွေးလည်း
၁၃။ စက်ကြည်လည်ရစ် = စက်ကြာသဏ္ဌာန်အဝန်းအဝိုင်းပြုလုပ်သည်၊ စီသည်။
၁၄။ ကျောက်ရိုင်တော် = ကျောက်ဖြင့် အဝန်းအဝိုင်း ပြုလုပ်သည်၊ စီသည်။

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ မဟာထီးကျေးရွာရှိ ကျောက်ရေတွင်းတစ်ခုတွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင် ပင် ရှိသည်။ ကျောက်စာ၏အစပိုင်းတွင် ပါဠိဂါထာတစ်ပုဒ်ဖြင့် နိဒါန်းပျိုးထားသည်။ ကျောက်စာကိုလည်း လေးလုံးစပ်လင်္ကာဖြင့် သီကုံးရေးသားထားသည်။ သက္ကရာဇ် ၉၈၁ ခုနှစ်တွင် ကျောက်ရေတွင်းတူး၍ လှူဒါန်းခဲ့ ကြောင်း ရေးထိုးထားသည်။ ကျောက်စာအဆုံးမှ ၆၅ ချပ်ဆိုသော စကားစုမှာ ကျောက်ရေတွင်း အရေအတွက်လား၊ ကျောက်စီအရေအတွက်လားကို ခွဲခွဲခြားခြားမသိရပေ။ သက္ကရာဇ် ၉၈၁ ခုနှစ်သည် ဒုတိယမြောက်ဦးခေတ် မင်းခမောင်း(၉၇၄-၉၈၄)**(AD 1612-1622)**လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ၊ ပါဠိဘာသာ၊ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။



၂း၅၂။ ဖုန္နတ်လက်ျာပုံ့ချီကျောက်စာ

သက္ကရာဇ် ၉၇၄/၉၈၄ ခု (AD 1612-1622)



၂း၅၂။ ဗုန္ဒတ်လက်ျာပုံရှီကျောက်စာ
သက္ကရာဇ်၉၈၄/၉၈၇ ခု (AD 1612-1622)



၂း၅၂။ ဖုန္ဒတ်လက်ျာပုံ့ရှီကျောက်စာ
သက္ကရာဇ်၉၇၄/၉၈၇ ခု (AD 1612-1622)

## ၂း၅၂။ ဓနုဒ္ဒတ်လင်္ကျာပုံချီကျောက်စာ
### သက္ကရာဇ် ၉၈၄/၉၈၇ ခု (AD 1612-1622)

**<u>ကျောက်စာမူရင်းအရေးအသား</u>**

**<u>(မျက်နှာဘက်)</u>**

၁။ သက္ကြာဇ်၉၈၄ခုတွင်ဓုန်ဒတ်လင်္ကျာပုံ
၂။ ချီရွှေကျောင်တွင်သင်္ချီတယ်သှ်ကားကုရ
၃။ စ်တောင်တွင်လယ်ငါသျှည်စိုင်ဝတွင်
၄။ ကွံသီတကုယဉ်တပြုချောင်တွင်ကွံသီတ
၅။ ကုယဉ်စည်မောင်တွင်အုံတဘက်တမ်
၆။ . . . . . . . စိုင်အိုကြီတလုံ
၇။ ဓုန်ဒတ်လင်္ကျာပုံချီရွှေကျောင်ပိတ
၈။ ကတ်ကတွင်သင်္ချီတဲသှ်ငွေ၁၀အုတချောင်
၉။ ဓုန်ဒတ်ရွှေကျောင်ဆီမီဝပ်တွင်သင်္ချီငွေ၁၀
၁၀။ သက္ကြာဇ်၉၈၇တွင်ဓုန်ဒပ်လင်္ကျာ
၁၁။ ပုံချီရွှေကျောင်သိမ်ကျောင်တွင်သ
၁၂။ င်္ချီတဲသှ်ဂါးစည်မောင်တွင်အုံတဘ
၁၃။ က်တပြုချောင်တွင်ကွံသီနှစ်ကုယ
၁၄။ ည်မြကြီ . . . တွင် . . . .
၁၅။ န်ဂါးငွေ၃၀ငါ၏သင်္ချီကိုဖျက်ဖသူသည်ဖြစ်
၁၆။ ဖန်တန်မလွန်၌လှ်ကြီလှစွာဖကိုဝ်ဆဲခြောက်ပါဖအနှာ
၁၇။ ဘေသျှစ်ပါဒန်ဆဲပါတိုသည်ကိုဝ်ဂစ၍သားမြေမြစ်တီကြွ
၁၈။ တ်တိုင်အောင်ဖုံစာခွက်လက်ခွဲ၍ပျက်စီပြုံတီကြွေမွှသှ်ဖြစ်
၁၉။ စီသတ်သင်သရာနှိုက်လှ်သိမ်စိုဝ်ကာလသုတ်ရောရူဝ၊ မ
၂၀။ ဟာရောရုဝ၊သင်ခတ၊မဟာသင်ခတမဟာတာပန်န
၂၁။ အဝီစိတ်ုဟုဖငရဲကြီသျှစ်ထပ်ငရဲငဲတရခြောက်ထပ်
၂၂။ တိုဝ်နှစ်ကျ၍ငရဲမီးလျှံတပြောင်ပြောင်လောင်လျက်မရှိတွ
၂၃။ က်နိုင်ဖကံဘာတိုဝ်နှစ်ဖြာဖြစ်၍ထိုဝ်သိုဝ်ဖြစ်ဖသျှင်ချစ်
၂၄။ တိုဝ်ကိုဝ်ဘုရမည်ထာဖြာဖြစ်၏ဟုဖစကားကိုဝ်မျှမ
၂၅။ ကြာရသှ်ဖြစ်စီသတ်ငရဲမှလွတ်လျှင်လှ်တိရိဆန်အသုရိ
၂၆။ ကယ်ပြိတ်တာနှိုက်ကိဘာများစွာဖြစ်လိစီသတ်လူဖြစ်လျှ
၂၇။ င်လှ်လုဘောမဝင်ပန်နုပန်မအစဟိဖနူခြင်ရူခြင်ကျိခြင်ဆွ
၂၈။ န်ခြင်ကန်ခြင်နားပင်ခြင်တွန်ခြင်အနှာမျိုဝ်တိုဝ်သှ်ရောက်
၂၉။ စိသတ်ရှိခဲသမျှတိုဝ်သှ်ကံဘာများလှစွာဖမရီတွက်နိုင်အောင်
၃၀။ ခံရသှ်ဖြစ်စီသတ်မင်နံသုကိံ်စာတွင်ပါသမျှအတိုင်လှ်ရောက်လိစိ

**ကြောဘက်**

၁။ သက္ကြာဇ်၉၈၄ခုနတ္တော်လွှ

၂။ န်၉ရက်၁နိလူတောပြသ့်ေ

၃။ · · · လုံသာသရွှေကြိနှငထွတ်

၄။ သ(တော်)ချသုံသက္ကြာဇ်၉၈၇တော

၅။ သလင်လွှန်၁ရက်၃နိလျှုတောပြသုံ

၆။ စိုင်မောင်တွင်အုံတသျှည်ကိုဝ်ရွှေေ

၇။ ကျာင်တွင်တဘက်ရွှေကျောင်သိန်ကျော

၈။ င်တွင်တဘက်သင်ချီတဲသုံငချင်ရှေ

၉။ သာငလှခောင်နှခောင်စစ်သံတော်ချသုံ

၁၀။ သက္ကြာဇ်၉၈၄လက်ျာပုံချီရွှေကျောင်တွင်

၁၁။ ကူသင်ချီတဲသုံကးစဲလုက္ကရာတအိမ်ထောင်

၁၂။ ပွဲလံတအိမ်ထောင်ဟံစွဲတအိမ်ထောင်အင်ကုတျာ

၁၃။ တအိမ်ထောင်မုသာတအိမ်(ေ)ထာင်ဖုံတော်ရတအိမ်

၁၄။ ထောင်ဒူလာသားမိသားဘ၃(က်)ဆီသုံသာမိသာဘနှက်

၁၅။ သက္ကာဇ်၉၈၇တွင်ရွှေ(ေ)ကျာင်သိမ်ကျောင်

၁၆။ တွင်သင်ချီတဲသုံဖာလာတအိမ်ထောင်မနီ၁ေ

၁၇။ က်မော်လာသာမိသာဘ၄ကော်သက္ကာဇ်၁၀၀ခုတွ

၁၈။ င်ရွှေကျောင်သိမ်ကျောင်တွင်သင်္ချီတဲသ်ငဒုံမ်

၁၉။ တအိမ်ထောင်မြုတ်ဒိတအိမ်ထောင်က္ကလာတအိမ်

၂၀။ · · · · · ထောင် · · · ·

**ခေတ်ကာလအရေးအသား**

**(မျက်နှာဘက်)**

၁။ သက္ကရာဇ် ၉၈၄ ခုတွင် ဇုန်ဒတ်လက်ျာပုံ

၂။ ချီရွှေကျောင်းတွင် သင်္ချီတည်သည်ကား ဥရ

၃။ စ်တောင်တွင် လယ်ငါးသျှည်း စိုင်းဝတွင်

၄။ ကွမ်းသီးတစ်ဥယျာဉ် တပြုတ်ချောင်းတွင် ကွမ်းသီးတစ်

၅။ ဥယျာဉ် စည်းမောင်းတွင် အုန်းတစ်ဘက် တမ်

၆။ · · · · · · စဥ့်အိုးကြီးတစ်လုံး

၇။ ဇုန္ဒတ်လက်ျာပုံချီ ရွှေကျောင်းပိဋ္ဌ

၈။ ကတ်ကတွင် သင်္ချီတည်သည် ငွေ ၁၀ အုန်းတစ်ချောင်း

၉။ ဇုန္ဒတ်ရွှေကျောင်း ဆီမီးဝတ်တွင် သင်္ချီငွေ ၁၀

၁၀။ သက္ကြာဇ် ၉၈၇ တွင် ဇုန္ဒတ်လက်ျာ

၁၁။ ပုံချီ ရွှေကျောင်း သိမ်ကျောင်းတွင် သ

၁၂။ င်္ချီတည်သည်ကား စည်းမောင်းတွင် အုန်းတစ်ဘ

၁၃။ က် တပြုတ်ချောင်းတွင် ကွမ်းသီးနှစ်ဥယျာ
၁၄။ ဉ် မြကြီး · · · တွင် · · · ·
၁၅။ န်ကား ငွေ ၃၀ ငါ၏သင်္ချိုကို ဖျက်သောသူသည် ဖြစ်
၁၆။ ဖန်တမန်လွန်၌လည်း ကြီးလှစွာသော ကိုးဆယ့်ခြောက်ပါးသော အနာ
၁၇။ ဘေးရှစ်ပါး ဒါဏ်ဆယ်ပါးတို့သည် ကိုယ်ကစ၍ သားမြေမြစ်တီကြွ
၁၈။ တ်တိုင်အောင် ဖုန်းစာခွက်လက်ဆွဲ၍ ပျက်စီးပြုန်းတီးကြေွမွသည် ဖြစ်
၁၉။ စေသတည်း သံသရာ၌လည်း သိန်းစိုး ကာလသုတ် ရောရုဝ မ
၂၀။ ဟာရောရုဝ သင်ခတ မဟာသင်ခတ မဟာတာပန်န
၂၁။ အဝီစိတည်းဟူသော ငရဲကြီးရှစ်ထပ် ငရဲငယ်တစ်ရာ့ခြောက်ထပ်
၂၂။ တိုဝ်၌ကျ၍ ငရဲမီးလျှံတပြောင်ပြောင်လောင်လျှက် မရေတွ
၂၃။ ကက်နိုင်သောကမ္ဘာတို့၌ ဘုရားဖြစ်၍ ထိုသို့ဖြစ်သော ရှင်ချစ်
၂၄။ တို့ကို ဖူးရမည်ထား ဘုရားဖြစ်၏ဟူသော စကားကိုမျှ မ
၂၅။ ကြားရသည်ဖြစ်စေသတည်း ငရဲမှလွတ်လျှင်လည်း တိရစ္ဆာန်အသူရ
၂၆။ ကယ်ပြိတ္တာ၌ ကမ္ဘာများစွာ ဖြစ်လေစေသတည်း လူဖြစ်လျှ
၂၇။ င်လည်း လူဘော်မဝင် ပန်းန ပန်းမအစရှိသော နူခြင်း ရူးခြင်း ကျီးခြင်း ဆွ
၂၈။ န့်ခြင်း ကန်းခြင်း နားပင်းခြင်း တွန့်ခြင်း အနာမျိုးတို့သည် ရောက်
၂၉။ စေသတည်း ရှိခဲ့သမျှတို့သည် ကမ္ဘာများလှစွာသော မရေတွက်နိုင်အောင်
၃၀။ ခံရသည်ဖြစ်စေသတည်း မင်းနန်သူကျိန်စာတွင် ပါသမျှအတိုင်းလည်း ရောက်လေစေ

__ကြောဘက်__

၁။ သက္ကရာဇ် ၉၈၄ ခု နတ်တော်လဆ
၂။ န်း ၉ ရက် တနင်္ဂနွေနေ့ လှူတော်ပြုသည် ဧ
၃။ · · · လည်သား သရွှေကြီးနှင့် ငထွက်
၄။ သံ(တော်)ချသည် သက္ကရာဇ် ၉၈၇ တော်
၅။ သလင်းလဆန်း ၁ ရက် အင်္ဂါနေ့ လှူတော်ပြုသည်
၆။ စိုင်မောင်တွင် အုန်းတစ်သျှည်းကို ရွှေ
၇။ ကျောင်းတွင်တစ်ဘက် ရွှေကျောင်းသိမ်ကျော
၈။ င်းတွင်တစ်ဘက် သင်္ချိုတည်သည် ငါချင်ချေ
၉။ သား ငလှခေါင်နှင့် ခေါင်စစ် သံတော်ချသည်
၁၀။ သက္ကရာဇ် ၉၈၄ လက်ျာပုံချိုရွှေကျောင်းတွင်
၁၁။ လှူသင်္ချိုတည်သည်ကား စဲလုက္ကရာတစ်အိမ်ထောင်
၁၂။ ပွဲလံတစ်အိမ်ထောင် ဟံဇွဲတစ်အိတ်ထောင် အင်ကုတ္တာ
၁၃။ တစ်အိမ်ထောင် မုသာတစ်အိမ်ထောင် ဖုံးတော်ရတစ်အိမ်
၁၄။ ထောင် ဒုလာသားမိသားဘ ၃ ယောက် ဆီသည်သားမိသားဘ ၃ ယောက်
၁၅။ သက္ကရာဇ် ၉၈၇ တွင် ရွှေ(ဧ)ကျောင်းသိမ်ကျောင်း

၁၆။ တွင် သံ်ဃီတည်သည် ဖာလာတစ်အိမ်ထောင် မနီ ၁ ယော
၁၇။ က် ပေါ်လာသားမိသားဘ ၄ ယောက် သက္ကရာဇ် ၁၀၀ ခုတွ
၁၈။ င် ရွှေကျောင်းသိမ်ကျောင်းတွင် သံ်ဃီတည်သည် ငဒိုး
၁၉။ တစ်အိမ်ထောင် မြုတ်ဒိတစ်အိမ်ထောင် ဣလာတစ်အိမ်
၂၀။ . . . . . . ထောင် . . . . .

**<u>ကျောက်စာမူရင်းအရေးအသား၊ ပေါရာဏနှင့်ပါဠိအဓိပ္ပာယ်</u>**

၁။ သက္ကြဇ်၊ သက္ကဇ် = သက္ကရာဇ်
၂။ ဇုန်ဒတ်လက်ျာပုံချီ = လက်ျာပုံချီဘွဲ့ရသော စစ်သူကြီး
၃။ သံ်ဃီ = သံဃိက = ရဟန်းတော်များအား လှူဒါန်းသည့်အလှူ
၄။ တယ်သ်၊ တဲသ် = တည်သည်
၅။ ကုရစ်တောင် = ဦးရဇ်တောင်
၆။ ကွံသီ = ကွမ်းသီး
၇။ တကုယဉ် = တစ်ဥယျာဉ်
၈။ အုံ = အုန်း = ဓနိ
၉။ တဘက် = $\frac{၁}{၂}$ သျှည်း
၁၀။ စိုင်အိုကြိ = စဥ့်အိုးကြီး
၁၁။ တလုံ = တစ်လုံး
၁၂။ ပိတကတ် = ပိဋကတ်
၁၃။ အုတချောင် = အုန်းတစ်ချောင်း = ဓနိတောရှိသော ချောင်းရိုးတစ်ချောင်းလုံး
၁၄။ ဆီမိဝပ် = ဆီးမီးဝတ် = ဆီမီးထွန်းညှိရသည့်အမှုကိစ္စ
၁၅။ တဲသ်ဂါ = တည်သည်ကား
၁၆။ ဂါ = ဂါး = ကား
၁၇။ ဖျက်ဖ = ဖျက်သော
၁၈။ လ် = လည်း
၁၉။ ဖ = သော
၂၀။ ကိုဝ်ဆဲခြောက်ပါဖ = ကိုးဆယ့်ခြောက်ပါးသော
၂၁။ ဘေသျှစ်ပါ = ဘေးရှစ်ပါး
၂၂။ ဒန်ဆဲပါ = ဒါဏ်ဆယ်ပါး
၂၃။ ကိုဝ်ဂစ၍ = ကိုယ်ကစ၍
၂၄။ ဖုံး = ဖုန်းတောင်းယာစကာ
၂၅။ ဖုံးစာခွက်လက်စွဲ၍ = ဖုန်းတောင်းယာစကာဘဝဖြင့် ခွက်လက်စွဲ၍
၂၆။ ပြိုတီ = ပြုန်းတီး
၂၇။ စီ = စေ
၂၈။ သတ် = သတည်း
၂၉။ သင်သရာ = သံသရာ

၃၀။ နှိုက် = ၌
၃၁။ တ်ုဟုဖ = တည်းဟူသော
၃၂။ ငဲ = ငယ်
၃၃။ ငရဲငဲတရခြောက်ထပ် = ငရဲငယ်တရာ့ခြောက်ထပ်
၃၄။ တိုဝ်နှစ် = တို့၌
၃၅။ မရှိတွက်နိုင်ဖ = မရေတွက်နိုင်သော
၃၇။ ကံဘာ၊ ကိဘာ = ကမ္ဘာ
၃၈။ ဖြှာ = ဘုရား
၃၉။ ဘုရမည်ထာ = ဖူးရမည်ထား
၄၀။ တိရိဆန် = တိရစ္ဆာန်
၄၁။ အသုရိကယ် = အသူရကယ်
၄၂။ ဖြစ်လိစီသတ်ု = ဖြစ်လေစေသတည်း
၄၃။ လုဘောမဝင် = လူဘော်မဝင်
၄၄။ ပန်းနုပန်းမ = မိန်းမလျှာ၊ ယောကျ်ားလျှာ
၄၅။ ကျိုခြင်း = ကျီးခြင်း = ခြေထောက် မသန်စွမ်းခြင်း
၄၆။ ဆွန်ခြင်း = ဆွံ့ခြင်း = စကားမပြောတတ်ခြင်း
၄၇။ ကန်ခြင်း = ကန်းခြင်း = မျက်စိမမြင်ခြင်း
၄၈။ ပင်ခြင်း = ပင်းခြင်း = နားလေးခြင်း၊ နားပင်းခြင်း
၄၉။ တွန်ခြင်း = တွန့်ခြင်း = ကိုယ်ခန္ဓာတွန့်လိမ်ခြင်း = ကိုယ်လက်အင်္ဂါတုန်လှုပ်ခြင်း-ကိုယ်ခန္ဓာမတည်မငြိမ်ခြင်း
၅၀။ အနာမျိုဝ် = အနာရောဂါအမျိုးမျိုး
၅၁။ ရောက်စီသတ်ု = ရောက်စေသတည်း
၅၂။ ရှိ = မြည်တွန်တောက်တီး ဆဲဆိုကျိန်တွယ်ခြင်း
၅၄။ ရီတွက် = ရေတွက်သည်
၅၅။ မင်နံသုကိစာ = မင်းနန်သူကျိန်စာ
၅၆။ ၁နိ = တနင်္ဂနွေနေ့
၅၇။ လူတောပြ၊ လှျုတောပြ = လှျုတော်ပြု
၅၉။ သန္တေကြိ = သန္တေကြီး = လူအမည်
၆၀။ ငထွတ် = လူအမည်
၆၁။ သတော်ချသ်ု = သံတော်ချသည် = အမိန့်ပြန်တမ်းဖတ်သည်၊ အမိန့်တော်ချမှတ်သည်
၆၂။ ၃နိ = အင်္ဂါနေ့
၆၃။ ငချင်ရှေ = လူအမည်
၆၄။ ငလှခောင် = ငလှခေါင် = လူအမည်
၆၅။ ခောင်စစ် = ခေါင်စစ် = လူအမည်
၆၆။ လူသင်ချိတဲသ်ုကား = လူသင်္ချိတည်သည်ကား = ဘုရားကျွန်အဖြစ် လှူဒါန်းသည်ကား
၆၇။ စဲလုဏ္ဏရာ = လူအမည်

၆၈။ ပွဲလံ = လူအမည်
၆၉။ ဟံစွဲ = လူအမည်
၇၀။ အင်တုတျာ = လူအမည်
၇၁။ မုသာ = လူအမည်
၇၂။ ဖုံတောင်ရ = လူအမည်
၇၃။ ဒူလာ = လူအမည်
၇၄။ သာမိသာဘ၃က် = သားမိသားဘသုံးယောက်
၇၅။ ဆီသို = ဆီသည်
၇၆။ ဖာလာ = လူအမည်
၇၇။ မနီ = လူအမည်
၇၈။ ဖော်လာ = လူအမည်
၇၉။ ၄ကော် = လေးယောက်
၈၀။ ငဒုမ် = လူအမည်
၈၁။ ပြုတ်ဒိ = လူအမည်
၈၂။ ဏ္ဍလာ = လူအမည်

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့နယ် အရှေ့ဘက် ဇုန္ဒတ်လက်ျာပုံချီဘုရားအနီးတွင် စတင်တွေ့ရှိသည်။ ယခုမြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

ဇုန္ဒတ်လက်ျာပုံချီရွှေကျောင်းတွင် ဘုရားကျွန်၊ လယ်မြေ၊ ကွမ်းသီးဥယျာဉ်၊ ဓနိတော၊ငွေဒင်္ဂါး၊စဉ့်အိုး၊ ဆီမီး တို့ကို ၉၈၄ ခုနှစ်တွင် တစ်ကြိမ် ၉၈၇ခုနှစ်တွင်တစ်ကြိမ် လှူဒါန်းခဲ့သည်။လယ်မြေအလှူဘုရင့်အမိန့်ပြန်တမ်း ကိုလည်း သံတော်ချများက ပြန်တမ်းချမှတ်ခဲ့သည်။ အလှူပစ္စည်းများကို ဖျက်ဆီးသူများအား ကျိန်စာတိုက်ထား သည်။ ဤကျောက်စာ၏ ထူးခြားချက်မှာ ဆုတောင်းမပါခြင်းပင်ဖြစ်သည်။ သက္ကရာဇ် ၉၈၄ နှင့် ၉၈၇ ခုနှစ် များသည် ဒုတိယမြောက်ဦးခေတ်မင်းဟာရီ(သီရိသုဓမ္မရာဇာ)(၉၈၄-၁၀၀၀)**(AD 1622-1638)**လက်ထက်ဖြစ်သည်။

ဇုန္ဒတ်လက်ျာပုံချီဘွဲ့မှာ စစ်သူကြီးရာထူးဖြစ်သည်။ ရခိုင် ၁၂ လရာသီ ပွဲတော်တစ်ခုဖြစ်သည့် ပြာသိုလတွင် ကျင်းပသည့် မြင်းခင်းသဘင်ပွဲတော်ကို မြောက်ဦးမြို့ ရတနာ့မာရ်အောင်စေတီတော်ဝင်း အရှေ့ဘက်လဲ မြင်းခင်း သဘင်ကျင်းပရာကွင်းပြင်၌ ကျင်းပပြုလုပ်ခဲ့သည်။ ဤကစားကွင်းတွင် ဆင်ခင်းသဘင်၊ မြင်းခင်းသဘင်၊ လေးခင်း သဘင် စသည့် စစ်ရေးဆိုင်ရာသဘင်ပွဲတော်များကို အားကစားပွဲတော်တစ်ရပ်သဖွယ် ကျင်းပပြုလုပ်ခဲ့သည်။ ဤပွဲတော်တွင် ဆင်စီး၍သော်လည်းကောင်း၊ မြင်းစီး၍သော်လည်းကောင်း၊ ဒုန်းစိုင်းပြေးလျှောက်၍ သော်လည်း ကောင်း၊ ဓား၊ လှံ၊ လေး၊ လက်နက်၊ ဒုတ်တို့ဖြင့် ပစ်ပေါက်လိုက်သမျှသော သစ်သီးဝလံများကို တစ်လုံးမျှ မြေကြီးပေါ်သို့ မကျရောက်မီ နတ်အသွင်ပုံချီ ထိုးသုတ်နိုင်သောသူအား ပုံချီဘွဲ့ကို ဘုရင့်သမီးတော်ကိုယ်တိုင် ချီးမြှင့်လေ့ရှိသည်။ လက်ျာဘက်သန်သူကို လက်ျာပုံချီ၊ လက်ဝဲဘက်သန်သူကို လက်ဝဲပုံချီဘွဲ့ကို ပေးလေ့ရှိသည်။

ဤပွဲတော်ကျင်းပရာ ကွင်းပတ်လည်တွင်လည်း ပွဲကြည့်စင်များကို လေ့ကားထစ်သဖွယ် ကျောက်တုံးများ ဖြင့် ပြုလုပ်ထားသည်ကိုတွေ့နိုင်ပေသေးသည်။ ဤကွင်းပြင်ကိုယနေ့တိုင်လေးခင်းပြင်ဟူ၍ခေါ်တွင်နေသေးသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။



၂း၅၃။ ဝန်းတီးနတ်ကွန်း ကျောက်ရုပ်စာ

သက္ကရာဇ် ၉၀၅ (AD 1623)

## ၂၅၃။ ဝန်းတီးနတ်ကွန်း ကျောက်ရုပ်စာ
### သက္ကရာဇ် ၉၀၅ (AD 1623)

**ကျောက်စာ မူလအရေးအသား**

**(စာပြတ်)**

၁။ န၃၃၃၃၈၃၃ဟိ

၂။ · · ၇၈၈၇၅၃

၃။ ၇၇၇၃၃၁၅

၄။ ၃၃၃၃၄၃

၅။ သကြဲ၉၀၅တွင်အသျှင်ဖုရင်မင်မင်ကြီတ်ု

၆။ သည်၅ါ်တေ၏ထျိုဝ်လှ်ု၃သျှိုင်မီတိုင်လှ်ုတသိုင်

၇။ လူတယောက်အာအကျိုဝ်တူကာအ · · ·

၈။ မိစစ်ကောင်မှု · · · · ၍ဝေသောဂေါ · · ·

၉။ · · င်မင်ကောင်တ · · · · · · · · ·

၁၀။ အာကီတူ၏ကောဇာ · · · · · · · ·

၁၁။ · · ရှနှတော်မှု · · · · · · · · ·

ကျန်တစ်ဖက်တွင် သက္ကဋဘာသာဖြင့် ရေးထိုးထားသည် ပျက်ပြယ်နေပြီ။

**ခေတ်ကာလ အရေးအသား**

၁။ န ၃၃၃၃၈၃၃ ရှိ

၂။ · · ရ၈၈ရ၅၃

၃။ ၇၇၇၃၃၁၅

၄။ ၃၃၃၃၄၃

၅။ သက္ကရာဇ် ၉၀၅ တွင် အသျှင်ဘုရင်မင်း မင်းကြီးတည်

၆။ သည်၍တည်၏ ထိုလယ် ၃ သျှည်း မီးတိုင်လည်း တစ်သိန်း

၇။ လှူတစ်ယောက်အား ကျိုးတူတာအ · · ·

၈။ မိစစ်ကောင်းမှု · · · · ၍တည်သောဂေါ · · ·

၉။ · · · င်မင်းကောင်းတ(စ်) · · · · · ·

၁၀။ အာကီတူ၏ ကောဇာ · · · · · · · · ·

၁၁။ · · · ရှနတော်မှု · · · · · · · · ·

**ကျောက်စာအရေးအသား၊ ပေါရဏ၊ ဝေါဟာရနှင့် ပါဠိအဓိပ္ပါယ်**

| | | |
|---|---|---|
| ၁။ သကြစ် | = | သက္ကရာဇ် |
| ၂။ အသျှင် | = | အရှင် |
| ၃။ ဖုရင်မင် | = | ဘုရင်မင်း |
| ၄။ မင်ကြီ | = | မင်းကြီး |
| ၅။ တ် | = | တည် |
| ၆။ တေ | = | တည် |
| ၇။ လ် | = | လယ် |
| ၈။ သျှိုင် | = | သျှိုင်း = သျှည်း |
| ၉။ မီတိုင် | = | ဆီမီးတိုင် |
| ၁၀။ လ် | = | လည်း |
| ၁၁။ တာသိင် | = | တစ်သိန်း |

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာ**

မြောက်ဦးမြို့ ဝန်းတီးနတ်ကွန်းတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၉၀၅-ခုနှစ်တွင် ဘုရင်မင်းကြီးတည်ထားခဲ့ကြောင်း ကမ္ပည်းစာရေးထိုးထားခြင်းဖြစ်သည်။

သက္ကရာဇ် ၉၀၅-ခုနှစ်မှာ ဒုတိယမြောက်ဦးခေတ် ပထမမင်း ဘုရင်မင်းဗာကြီး (၈၉၃-၉၁၅)**(AD 1531-1553)** လက်ထက် ဖြစ်သည်။ ဘုရင်မင်းဗာကြီးကိုယ်တိုင် ဤနတ်ရုပ်ကိုထုလုပ်တည်ထားခဲ့သည်ဟု ဆိုနိုင်ပေသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏ အက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။

## ၂း၅၄။ ရန္တမဥ္ဇူကောင်းမှုဆင်းတုတော်ကမ္ပည်းစာ

**သက္ကရာဇ် ၉၈၈ ခု (AD 1627)**

**ကမ္ပည်းစာမူရင်းအရေးအသား**

၁။ ။ ရန္တမဥ္ဇူကောင်မှု။

၂။ ။ ၉၈၈ခုတန်ခူလဆန်၁၁စနေ။

၃။ ။ နေ၀င်နှစ်မောင်တွင်အောင်မြင်၏။

**ခေတ်ကာလအရေးအသား**

၁။ ။ရန္တမဥ္ဇူကောင်းမှု။

၂။ ။ ၉၈၈ ခု တန်ခူးလဆန်း ၁၁ စနေ။

၃။ နေ၀င်နှစ်မောင်းတွင် အောင်မြင်၏။

**ကမ္ပည်းစာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရ အဓိပ္ပာယ်**

၁။ ရန္တမဥ္ဇူ = အလှူရှင်ဘုန်းတော်ကြီး၏ဘွဲ့အမည်

**ကမ္ပည်းစာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

ဤဆင်းတုတော်ကို ရခိုင်အဘိုးကြီး(အသက် ၈၀ခန့်)တစ်ဦးသည် (၁၉၆၀-ခုနှစ်) မြန်မာသက္ကရာဇ်-၁၃၂၂ ခုနှစ် ဝါဆိုလပြည့်နေ့တွင် ဂျိုးဖြူအဘိုးဆရာတော်ကြီးထံ လာရောက်လှူဒါန်းပါသည်။ ၄င်းဆရာတော်ကြီးထံမှ တစ်ဆင့် ရန်ကုန်မြို့နေ မြန်မာစာပါမောက္ခအငြိမ်းစားဆရာကြီး ဦးအေးဖေထံသို့ ရောက်ရှိလာသည်။ ယခုဆရာကြီး ဦးအေးဖေထံတွင် ရှိသည်ဟူ၍သိရသည်။

ကမ္ပည်းစာပါ သက္ကရာဇ် ၉၈၈-ခုနှစ်မှာ ဒုတိယမြောက်ဦးခေတ် သီရိသုဓမ္မရာဇာ (၉၈၄-၁၀၀၀) **(AD 1622-1638)**လက်ထက်နှင့် တိုက်ဆိုင်သည်။ အလှူရှင်၏အမည်ကို 'ရန္တမဥ္ဇူ' ဟူ၍ ပါရှိသဖြင့် ဘုန်းတော်ကြီးတစ်ပါး၏ ဘွဲ့အမည်ဖြစ်မည်ဟု မှန်းဆနိုင်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။



၂း၅၅။ တက်စားပီးထီးဘုရားကျောက်စာ
သက္ကရာဇ် ၉၉၀ ခု (AD 1628)

## ၂း၅၅။ တက်စားပီးထီးဘုရားကျောက်စာ
### သက္ကရာဇ် ၉၉၀ ခု (AD 1628)

**ကျောက်စာမူရင်းအရေးအသား**

၁။ သကြစ်၉၉၀ခုနတ္တော်လ္ဆန်၈ကြသ

၂။ ပတိနိစိသုံပါတွင်တက်စာပီ

၃။ စိသေကာပြီ၏

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၉၉၀ ခု နတ်တော်လဆန်း ၈ ကြာသ

၂။ ပတေးနေ့ ထီးသုံးပါးတွင် တက်စားပေး

၃။ ထီးသည်ကား ပြီး၏။

**ကျောက်စာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရအဓိပ္ပာယ်**

၁။ သကြစ် = သက္ကရာဇ်

၂။ နတ္တော်လဆန်း = နတ်တော်လဆန်း

၃။ ကြာသပတိ = ကြာသပတေး

၄။ နိ = နေ့

၅။ ဓိ = ထီး

၆။ တက်စားပီး = အစားပေးသည်။

၇။ သေ = သည်

**ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ ခြင်ကိုက်မြို့ရိုးတောင်ထိပ်ရှိ တက်စားပေးထီးဘုရားမှရရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။

သက္ကရာဇ် ၉၉၀ ခု ဒုတိယမြောက်ဦးခေတ် သီရိသုဓမ္မရာဇာလက်ထက်(၉၈၄-၁၀၀၀)(**AD 1622-1638**)တွင် ထီးသုံးပါးတွင် တက်စားပေး ထီးကို တည်ထားပြီးစီးခဲ့သည်ဟူ၍ ရေးထိုးထားသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးကျောက်စာမျိုး ဖြစ်သည်။



၂း၅၆။ မိဖုရားသျှင်ထွေအလယ်စေတီကျောက်စာ
သက္ကရာဇ် ၁၀၀၂ ခု (AD 1641)

## ၂း၅၆။ မိဖုရားသျှင်ထွေအလယ်စေတီကျောက်စာ
### သက္ကရာဇ် ၁၀၀၂ ခု (AD 1641)

<u>ကျောက်စာမူရင်းအရေးအသား</u>

၁။ ဇေယတု
၂။ သကြစ်၁၀၀၂ခုတပိုဝ်တွဲလဆ
၃။ န်၁၃ရက်၅တိနေဆင်ဖြူသခင်ဆင်နီသခ
၄။ င်ဝရဓမ္မရာဇာ၏မျောက်သာတော်ဖြစ်ထသောဆ
၅။ င်ဖြူသခင်ဆင်နီသခင်မဟာသီရိသုဓမ္မရာဇာ၏မည်တော်
၆။ ဖြစ်ထသောဆင်ဖြူသခင်ဆင်နီသခင်မင်းကြီးစွာ၏နှမတော်
၇။ ဖြစ်ထသောမြောက်ဦမိဖြာမည်တော်ဖြစ်ထသောတောင်မိဖြာ
၈။ မည်တော်လည်းဖြစ်ထသောဆင်ဖြူသခင်ဆင်နီသခင်နရပတိကြီး၏ေ
၉။ ယာက္ခမတော်မြောက်ဦးမိဖြာသျှင်ထွေကောင်မှုတော်အလေဇာတီကိုဝ်
၁၀။ တည်တော်ပြုသောဗုဒ္ဓစောသာ၏ကျောင်ရာမြေတပ္ပာကိုဝ်ဝိနဲကျ
၁၁။ မ်ကန်နှင့်ညီစွာဆယ်တင်ခြင်လယ်နှစ်သျှည်နှင်ဘ၍ကျောင်ကိုဝ်လှံ့တည်ေ
၁၂။ တ်ပြု၏ထိုကျောင်းသြာနှိုက်တည်တော်ပြုသောသင်္ချေလယ်ကာတောင်ညို့တွင်၁သျှည်
၁၃။ တေဘွာတွင်၂၀အနောက်ရက္ခုတိုင်တွင်၂၀တောင်ချောင်တွင်၁၀သျှည်ရဲကျော်ရပ်တွင်၅သျှ
၁၄။ ည်ဖွဲ့တာမြစ်ကျွန်ဆန်တွင်၅သျှည်အုန်ကျွန်တောပြင်ကျွန်ဆန်တွင်၂သျှည်မရိဝတွင်၁သျှည်
၁၅။ လောင်ချောင်တွင်၁သျှည်တဘက်ရန်ပြင်တွင်၂သျှည်ဥယျာဉ်ကာတပြုချောင်စာတီရပ်တွင်၂ဥယျာ
၁၆။ ည်ပါးမွေတော်တောင်ဘက်မှလျှင်တောထောင်ထိအလျှုအရံစောင်လူသူတိုဝ်ကိုဝ်သာသနာတော်ငါ
၁၇။ ထောင်ပလုံ့ရွယ်၍တည်တော်ပြု၏ဤ၀တ္ထုတိုဝ်ကိုဝ်အကြင်မတြာဖမင်အိမ်ရှေ့အမတ်စစ်သူ
၁၈။ ကြီသာစစ်ကဝတ်စစ်ချီစဖသူတိုဝ်သှုဖျက်ဆီသှုဟိသော်သိန်စိုဝ်ကာလသုတ်သဉ်တစူဋ္ဌရော်ရှုဝမ
၁၉။ ဟာရော်ရုဝစူဋ္ဌတာပန္နမဟာတာပန္နအဝိစိဤငရဲနှင့်ဖငရဲငယ်ကာဘင်ပုတ်ငရဲပြာပုံငရဲခွေအစာ
၂၀။ ပည်ဖငရဲကျောက်ယန္တြာဖြင်ပြီဖငရဲသန်လျက်ထာဖြင့်ကြိန်ပြင်ဖငရဲလက်ပန်တောငရဲသားဖျင်ငရဲငရဲ
၂၁။ သစ်ငုတ်ချမ်လှုစွာဖသီတာငရဲသံချောင်အတိပြည်ဖငရဲတောင်ဖြင်ကြိတ်ဖငရဲဥသဒရငရဲနေရသိက္ခင
၂၂။ ရဲယမလောဟိကငရဲစဖငရဲငယ်သုံရနှစ်ဆဲဖငရဲနှင့်လောဟကုံဘိန်ငရဲတိုဝ်နှိုက်လှုံသဲလေစေဖ။
၂၃။ · · · · · · · နှုတ်စည်ပြတ်ဖပြိတ္တာဘင်ပုတ်မစင်ကိုဝ်စာဖပြိတ္တာလူေ
၂၄။ ကာင်ဆင်ကောင်အညစ်အကြေကိုဝ်စာဖပြိတ္တာအပ်နှဘာရှိခံတွင်ဟိဖပြိတ္တာရေ
၂၅။ သိုဝ်တဆိပ်ဘိတ်ဖပြိတ္တာခါးသွာခါကဲသိုဝ်လက်သဲကမိမိ၏အသာကိုဝ်အလိုဝ်လိုဝ်စာဖပြိ
၂၆။ တ္တာတောင်ရှိလောက်ကိုဝ်ဟိလျက်ကိုဝ်ထက်နှိုက်လေဟိဖပြိတ္တာရံခာဆင်ရဲရံခာချမ်သာခံပြီဖပြိ
၂၇။ တ္တာသှုပြိတ္တာတိုဝ်ကိုဝ်အစိုဝ်ရလျှက်ကောင်ဖအရပ်တွင်နေကြ၍စက်ဆုတ်ဖွယ်အတိဖြစ်၍
၂၈။ မစာရတတ်ဖပြိတ္တာခြေများဖပြိတ္တာအပ်အတိအမွေယောက်ဖပြိတ္တာခြေတဘက်သာဟိဖပြိတ္တာခြေများဖပြိတ္တာ
၂၉။ လက်တဘက်သာဟိဖပြိတ္တာလက်များဖပြိတ္တာမျက်စိမဟိဖပြိတ္တာမျက်စိများဖပြိတ္တာခံ
၃၀။ တွင်မှမီရှုကယ့်သိုဝ်ထွက်ဖပြိတ္တာအအူအိုဝ်စည်ရှိဖပြိတ္တာသုည်အဖြစ်တိုဝ်ကိုဝ်လှုံ

၃၁။ ရလေစေဖြ · အတ္တံဒတ္တပရဒန္တံချမ္ပိကျန္တိသင်္ချိုကံပရေတတွောတထာ
၃၂။ ကိမိလိကာ။ဟူသောကါဓါနှင်ညီစွာငရဲနိုက်ကျပြီမှထိုဝ်ကျလေပြီဖြ(င)
၃၃။ ရဲပြိတ္တာအဖြစ်မှလွတ်လျှင်လည်းဆနဂုတ္တိရောဂါးကိုဝ်ဆယ်ခြောက်ပါဖြအနာ(အပေါင်)ပ
၃၄။ ညွှဝိသတိဘယာနှစ်ဆယ်ငါပါဖြဘီတန်အပေါင်သော်ငွေသုဥပတ္တဝေါတဆယ်ခြောက်ပါ
၃၅။ ဖြဥပတ်အပေါင်ဒွတ္တိသ်ကမ္မကရနာသုံဆယ့်နှစ်ပါဖြကြံမှာအပေါင်မင်တကာတိုဝ်
၃၆။ တိုက်စရာဖြသစ္စာအပေါင်သူမကောင်တိုဝ်စွပ်စွဲဆဲစရာဖြဗျပါအပေါင်တိုဝ်သို့လည်းရော
၃၇။ က်လေစေဖြကျွန်ကြီလေကျွန်ကျွန်ငယ်နှစ်တောင်နိုက်စောင်ဖြနတ်ဘီလူမြစ်ကြိုင်ါစင်မြစ်
၃၈။ ငါယ်ငါရာနိုက်စောင်ဖြနတ်နဂါးဟေမန္တာမြင်မှိုဝ်သတရဘန်တောင်တိုဝ်နိုက်စောင်ဖြနတ်
၃၉။ ဘီလူနတ်ပြည်ခြောက်ထပ်ဖြဟုတဆယ်ခြောက်ဘုံနိုက်နေဖြနတ်ဖြဟုာတိုဝ်သို့လည်းသ
၄၀။ တ်စေဖြသဲနှင်အမျှလာလတ်တန်ဖြသြားမြတ်တိုဝ်ချှတ်သော်လည်းမကျွတ်စေသတည်(မ)
၄၁။ င်တကာတိုဝ်ကိန်စရာဖြအကိန်မျိုဝ်တိုဝ်သို့လှုံရောက်လေစေသတည်ဤဇတည်ဖြ(ကောင်မှု)
၄၂။ ကိုဝ်မဖျက်သို့သုကာဘဝကြီဘဝငယ်တိုဝ်နိုက်နတ်မင်ချမ်သာလူမင်ချမ်သာခံရလေစေဖြ
၄၃။ ပစ္စေကဗုဒ္ဓာဆုရဟန္တာဆုတိုဝ်ကိုဝ်လှုံပြည့်လေစေဖြ၊သင္ဃေကြီအပေါင်တိုဝ်ဆု
၄၄။ သည်လည်ပြည်လေစေဖြသြာကျောင်လုပ်သံ့ဝတ္တုဘုရာကျောင်ကိုဝ်ရန်ပြင်
၄၅။ ငွေစင်တသိန်စွန်တော်ပြု၍သချေ်တေသည်ကာလရာသာဘ၃ကော်၊စည်သည်လောက်သာဘ၃
၄၆။ ကော်ဥယျည်သာ · · · ဒေါလယာသာဘ၃ကော်။ကာတေပါမင်ဖြုစိန်ဖြုသာဘ၃ကော် · · ·
၄၇။ မျာပုံရာကော်၊ဘောက်ချီ · · · လျှော်လောပါတောညာသာဘ၃က်၊အဒေါင်သာ · · ·
၄၈။ · · · စင်မျာ · · မရာဒင်မျာ · ·

**ခေတ်ကာလအရေးအသား**

၁။ ဇေယတု
၂။ သက္ကရာဇ် ၁၀၀၂ ခု တပိုတွဲလဆ
၃။ န်း ၁၃ ရက် ကြာသပတေးနေ့ ဆင်ဖြူသခင်ဆင်နီသခ
၄။ င်ဝရဓမ္မရာဇာ၏ မျောက်သားတော်ဖြစ်ထသော ဆ
၅။ ဖြူသခင်ဆင်နီသခင် မဟာသီရိသုဓမ္မရာဇာ၏ မယ်တော်
၆။ ဖြစ်ထသော ဆင်ဖြူသခင်ဆင်နီသခင်မင်းကြီးစွာ၏ နှမတော်
၇။ ဖြစ်ထသော မြောက်ဦးမိဖုရားမည်တော်ဖြစ်ထသော တောင်မိဖုရား
၈။ မယ်တော်လည်းဖြစ်ထသော ဆင်ဖြူသခင်ဆင်နီသခင် နရပတိကြီး၏ ဧ
၉။ ယာကွှမတော် မြောက်ဦးမိဖုရားသျှင်ထွေကောင်းမှုတော် အလယ်စေတီကို
၁၀။ တည်တော်ပြုပြီးသော် ဗုဒ္ဓဃောသ၏ ကျောင်းရာမြေတစ်ပွာကို ဝိနည်းကျ
၁၁။ မ်းဂန်နှင့်ညီစွာ ဆယ်တင်ခြင်း လယ်နှစ်သျှည်းနှင့်ဖ၍ ကျောင်းကိုလည်းတည်ေ
၁၂။ တ်ပြု၍ ထိုကျောင်းဘုရား၌ တည်တော်ပြုသော သင်္ချိုလယ်ကား တောင်ညိုတွင်တစ်သျှည်း
၁၃။ တေဘွာတွင် ၂၀ အနောက်ရက္ခုတိုင်တွင် ၂၀ တောင်ချောင်တွင် ၁၀ သျှည်း ရဲကျော်ရပ်တွင် ၅ သျှ
၁၄။ ည်း ဖွဲတာမြစ်ကျွန်းဆန်းတွင် ၅ သျှည်း အုန်းကျွန်းတောပြင်ကျွန်းဆန်းတွင် ၂ သျှည်း မရိဝတွင် ၁ သျှည်း
၁၅။ လောင်းချောင်းတွင်၁သျှည်း တဘက်ရန်ပြင်တွင်၂သျှည်း ဥယျာဉ်ကားတပြုတ်ချောင်းစေတီရပ်တွင် ၂ ဥယျာ
၁၆။ ဉ် ပါးမွေးတော်တောင်ဘက်မှလျှင်တောတောင်ထိ အလှုအရံစောင့်လှုသူတို့ကို သာသနာတော်ငါး

၁၂။ ည်း မြင့်မိုရ်နန်းလယ် တောင်လည်း ချောင်းစောက် သည်အတွင်းတွင်ကား လယ်တစ်သျှည်း၀ အရှေ့လည်း ဆိတ်ချောင်းနှင့် တန်ေ
၁၃။ ဆာင်သင်္ချိလယ် မြောက်လည်း သစ်ကဗချောင်းနှင့် သောင်းလုံးရန်ဖြိုထောင်စားနန်းလယ် အနောက်လည်း ကင်းစွန်းချော
၁၄။ င်းနှင့် ကုမာရသင်္ချိလယ် တောင်လည်း ကုမာရသင်္ချိလယ် သည်အတွင်းတွင်ကား လယ်နှစ်ဆယ်၊ အရှေ့လည်း ကုမာရသ
၁၅။ င်္ချိလယ် တောင်လည်း နန်းတက်ဆရာသင်္ချိလယ် အနောက်လည်း ဆိတ်ချောင်း မြောက်လည်း ကွမ်းသီးပင်လမ်း ပစ် သည်အတွ
၁၆။ င်းတွင်ကား လယ်သုံးချောင်း၊ မြောက်အိမ်ရှေ့တပ် ယောဘန်ဘိလက်ျာဘက် တလိုင်းရွာ အင်ပုတ်တွင် တောင်လည် နားတော
၁၇။ င်းကျချောင်း အရှေ့လည်း တောင်မြောက်နှင့် အနောက်လည်း အင်ပုတ်ချောင်း သည်အတွင်းတွင်ကား လယ်ခုနစ်သျှည်းတစ်ဘက်
၁၈။ တစ်ကုနီ ပေါင်းလယ်သျှည်းငါးဆယ်နှစ်သျှည်းနှင့် သုံးပွါ တစ်ချောင်း တစ်ကုနီ။ သက္ကရာဇ် ၁၈၈၀ ကဆုန် လဆုတ် ၇ ရက် စနေနေ့ မင်း
၁၉။ ခေါင်ကျောင်းကို ဘေးတော်နရပတိကြီးကောင်းမှုတော် ရတနာရာမကျောင်းတွင် ထပ်၍တည်ခဲ့သည်အတိုင်း ကောင်းမှုတော် ရတနာေ
၂၀။ တဇာရာမကျောင်းတွင် ထပ်၍တည်သည်ဖြစ်၍ ကုလါးအတွင်းစစ်ချီအဝင် တောင်ဥရာဇ်တောင်တပ် သတွဲ ဗါခွင် ညွန့်ကျွန်းအလယ်
၂၁။ ပြားတွင် အရှေ့လည်း ဘောချောင်း တောင်လည်း သောက်ကြာချောင်း အနောက်လည်း ကြိမ်ချောင်းကြီး မြောက်လည်း သဘော်သူကြီးချောင်း သ
၂၂။ ည်အတွင်းတွင်ကား လယ်ဆယ်သျှည်း အရှေ့လည်း လင်သတ်ကြီးချောင်း အနောက်နှင့်မြောက်လည်း ခါးကျချောင်း တောင်လည်း ငှက်
၂၃။ ကြီးချောင်းမရိုး သည်အတွင်းတွင် ကိုယ်ရံသူကြီးဆရာလယ်တစ်သျှည်းတစ်ဘက်ကိုပယ်၍ကား လယ်တစ်ဆယ့်ခုနစ်သျှည်း၊ အရှေ့
၂၄။ လည်း ခါးကျချောင်း တောင်လည်း နမ်ဒီဆရာသင်္ချိလယ်နှင့် တောင်ရွာလမ်းပစ် အနောက်လည်း မင်းကိုယ်လုပ် လယ်နှင့် ဘုံးပွတ်ကျ
၂၅။ ချောင်း မြောက်လည်း ချောင်းစောက်ရေချိုနှင့် ကြက်သရေချိုအခြား သည်အတွင်းတွင်ကား နှစ်ဆယ် ပေါင်းလေးဆယ်ခုနစ်သျှည်း

**ကျောက်စာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပာယ်**

၁။ ဝနေ = စနေနေ့
၂။ ကိုဝ် = ကို
၄။ ဘိတော် = ဘေးတော်
၅။ သုည် = သည်

၆။ မုဇုန္ဒာကြီး = ရေတပ်ဗိုလ်ချုပ်
၇။ မုဇုန္ဒာကြီး အဝင်တန်ခွန်တပ် = မုဇုန္ဒာကြီး အဝင်တံခွန်တပ် = မုဇုန္ဒကြီးအုပ်ချုပ်သည့် တပ်များတွင်ပါဝင်သည့် တံခွန်တပ်
၈။ ဂစ္ဆဖ္ဘနဒီ = ကစ္ဆဖနဒီ
၉။ သုမ် = သုံး
၁၀။ လမ်းပစ် = လမ်းသွယ်
၁၁။ မင်္ဂလာရာမဥထုပ်တပ် = မင်္ဂလာရာမဦးထုပ်တပ်
၁၂။ သဃ်္ဃိ = သင်္ချိ
၁၃။ ပိုဝ်းရွှေချောင်ဖျာ = ပိုးရွှေချောင်းဖျား
၁၄။ မြင်မိုဝ်၊ မြင့်မှိုဝ် = မြင့်မှိုရ်
၁၅။ သောင်လုမ်ရန်ပြိုဝ်တောင်စာ = သောင်းလုံးရန်ဖြိုထောင်စား
၁၆။ ကွမ်းသီးဗင် = ကွမ်းသီးပင်
၁၇။ တဂုနီ = တစ်ကုနီ = လယ်မြေဒသမ၄၀
၁၈။ ပြား = ဒီရောက်မြေပြင်၊ ဆားငန်ရေရောက်ရာမြစ်ဝချောင်းဝ မြေနုအရပ်
၁၉။ မရိုဝ် = အလယ်ဗဟို
၂၀။ ကိုဝ်ရမ်သူကြို = ကိုယ်ရံသူကြီး
၂၁။ မင်ကိုဝ်လုပ် = ဘုရင်အား မင်းဝတ်ဆာများ ဝတ်စား ဆင်ယင်ပေးရသူ
၂၂။ ရေသျှိုဝ် = ရေချို

**<u>ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ</u>**

မြောက်ဦးမြို့ တေဇရာမစေတီအနီးတွင် စတင်တွေ့ရှိသည်။ ယခင်က စေတီအနီးတွင် ဂူငယ်ပြုလုပ်၍ ထိန်းသိမ်းထားခဲ့သည်။ အလှူရှင်များ ထုံးသက်န်းကပ်လှူ၍ ကျောက်လွှာများ ဆွေးမြေ့ပျက်စီးကာ စာများပျက်ပြေသွားသည်။ ယခု မြောက်ဦးရှေးဟောင်းသုတေသနပြတိုက်သို့ ပြောင်းရွှေ့သိမ်းဆည်းထားသည်။ သက္ကရာဇ် ၁၀၈၀ ခုနှစ် စန္ဒဝိဇယရာဇာလက်ထက်တွင် ဘေးတော်နရပတိကြီးက ရတနာတေဇာရာမကျောင်းတွင် လှူဒါန်းခဲ့သည့်အတိုင်း လယ်မြေများကို ထပ်၍လှူဒါန်းခဲ့သည့် ကမ္ဗည်းကျောက်စာဖြစ်သည်။ လှူဒါန်းသည့် လယ်မြေများကို ဖေါ်ညွှန်းရေးသားထားသည်မှာ မြေပုံကားချပ်တစ်ချပ်ကို ရှုမြင်ရသယောင် ပေါ်လွင်ထင်ရှားလှသည်။ ဤကျောက်စာမှ မြောက်ဦးခေတ်အတွင်း တည်ရှိခဲ့သည့် ချောင်းများ၊ လမ်းများ၊ ဘုရင့်တပ်မတော်များ၊ ကျေးရွာများ၊ လယ်မြေများကို လေ့လာမှတ်သားနိုင်ပေသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးကျောက်စာမျိုးဖြစ်သည်။



၂း၆၆။ ခမောင်းတက်ကတ္တော်သိမ်ဘုရားကျောက်စာ ပထမချပ်
သက္ကရာဇ် ၁၀၈၅ ခု (AD 1723)

## ၂၆၆။ ခမောင်းတက်ကတ္တော်သိမ်ဘုရားကျောက်စာ ပထမချပ်
### သက္ကရာဇ် ၁၀၈၅ ခု (AD 1723)

<u>ကျောက်စာမူရင်း အရေးအသား</u>

၁။ · · · · · · · · · · · သုည်လယ်မုဇန္ဒာ
၂။ · · · · · · · · · တွင်အရှေလည်တန်ထာ
၃။ · · · · · · · အနောက်လည်ကဒ္ဒါရွာချောင်နှ
၄။ · · · · · · · ဆန်သင်သေသင်တုပ်ပြန်လယ်တ
၅။ · · · · · တွင်လက်ကောင်ခွင်စိပ်ပါဆင်ကဲရွာ
၆။ · · · · ရာသဃ်ျီလယ်အနောက်လည်ရွာနောက်က
၇။ · · · · တွင်ဉတော်ရင်အိပ်သင်သေလယ်တောသျှစ်သျှ
၈။ · · · · ရင်ချောင်အနောက်လည်ကျွန်လုမ်တိုင်ချောင်နှင်ကပ်
၉။ · · · · ချောင်သုည်အတွင်တွင်ဉတော်ရင်အိပ်သင်သေလယ်တောသုမ်သျှ
၁၀။ · · · · ည်ကျွဲလမ်ပေါက်ထောင့်ချောင်တော်င်လည်သက်ချောင်နှင်ကျွဲလမ်ေ
၁၁။ · · · · ည်ခေါင်ပြန်ချောင်မြောက်လည်ရမ်သင်လယ်သုည်အတွင်တွင်ဉတော်ရင်အိပ်သင်
၁၂။ · · တ်ဆယ်သျှည်အတွင်လက်ကောင်သင်သေလယ်တော်ကိုယ်လက်ခုတ်ငါသျှည်အရှေလည်
၁၃။ · · တောင်လည်ကုလါးချောင်အတက်နှင်ကုလာချောင်ဖျာအနောက်လည်ကုလါချောင်မြောက်လည်
၁၄။ သဃ်ျီလယ်နှင့်ရမ်ဝပင်လယ်သုည်အတွင်တွင်ဉတော်ရင်အိပ်ပေါင်တွတ်သင်သေလယ်ကိုယ်
၁၅။ · · တ်တဆယ့်သုမ်သျှည်မြောက်ပေါက်သရက်တောရွာတွင်သုကောင်သုကြီးလယ်
၁၆။ · · ၀ိဝ်ထိန်အတွင်ပန်သမားလူသေဟလျာပို · · · · · ·

<u>ခေတ်ကာလ အရေးအသား</u>

၁။ · · · · · · · · · · · သည်လယ်မုဇန္ဒာ
၂။ · · · · · · · · · တွင်အရှေ့လည်း တန်ထား
၃။ · · · · · · · အနောက်လည်း ကတ္တော်ရွာချောင်းနှင့်
၄။ · · · · · · · ဆန်သင်းသည် သင်ထုပ်ပြန်လယ်တ
၅။ · · · · · · · တွင် လယ်ကောက်ခွင် စိပ်ပါဆင်ကဲရွာ
၆။ · · · · ရာသင်္ချိလယ် အနောက်လည်း ရွာနောက်က
၇။ · · · · တွင် ဦးတော်ရင်အိပ်သင်းသည် လယ်တောရှစ်သျှ
၈။ · · · · ရင်းချောင်းအနောက်လည်း ကျွန်လုံးတိုင်ချောင်းနှင့်ကပ်
၉။ · · · · ချောင်း သည်အတွင်းတွင် ဦးတော်ရင်းအိပ်သင်းသည် လယ်တောသုံးသျှ
၁၀။ · · · · ည် ကျွဲလမ်းပေါက် ထောင့်ချောင်း တောင်လည်း သက်ချောင်းနှင့် ကျွဲလမ်းေ
၁၁။ · · · · လည်း ခေါင်းပြန်ချောင်း မြောက်လည်း ရမ်းသင်းလယ် သည်အတွင်းတွင် ဦးတော်ရင်းအိပ်သင်း
၁၂။ · · တ် ဆယ်သျှည်းအတွင်း လက်ကောက်သင်းသည် လယ်တောကို လက်ခုတ်ငါးသျှည်း အရှေ့လည်း

၁၃။ . . တောင်လည်း ကုလါးချောင်းအတက်နှင့် ကုလါးချောင်းဖျား အနောက်လည်း ကုလါးချောင်း မြောက်လည်း
၁၄။ သင်္ချီလယ်နှင့် ရမ်းဝပင်လယ် သည်အတွင်းတွင် ဦးတော်ရင်အိပ် ဘောင်းဒွတ်သင်းသည် လယ်ကို
၁၅။ . . တ် တစ်ဆယ့်သုံးသျှည်း မြောင်းပေါက်သရက်တောရွာတွင် သုကောင်းသူကြီးလယ်
၁၆။ . . ဝိဝ်ထိန်အတွင်း ပန်းသမားလူသေဟလျာပို့ . . . . . .

**ကျောက်စာအရေးအသား ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်များ**

၁။ သှည် = သည်
၂။ မုဇန္ဒာ = မုစုန္ဒာ = စစ်ဗိုလ်ချုပ်ကြီး
၃။ တန်ထာ = တံတား
၄။ ကဒ္ဒါ = ကတ္တော် = ဘဏ္ဍာရေးဝန်ကြီး
၅။ သင် = သင်း = အသင်းအပင်း၊ အဖွဲ့အစည်း၊ အုပ်စု၊ အဖွဲ့
၆။ သင်္ယျှိ = သင်္ချိ
၇။ ပေါင်တွတ် = ဘောင်းဒွတ်အရပ်
၈။ သုကောင်သူကြီး = သူကောင်းသူကြီး

**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့နယ်၊ ခမောင်းတက်ကျေးရွာ၊ ကတ္တော်သိမ်ဘုရားတွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ မြောက်ဦးခေတ်တွင် ကဒ္ဒါ(ကတ္တော်)ခေါ် ဘဏ္ဍာရေးဝန်ကြီးသည် စန္ဒဝိဇယမင်းလက်ထက် သက္ကရာဇ် ၁၀၈၅-ခုနှစ်**(AD 1723)**တွင် ကတ္တော်သိမ်ဘုရား၌ အလှူပြုခဲ့သော အလှူမှတ်တမ်း ကမ္ပည်းစာဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့်ရေးထိုးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။

*မှတ်ချက်။ ။ Forchhammer ရဲ့ Antiquities of Arakan စာအုပ် စာမျက်နှာ ၅၀ အပိုဒ်ရေ ၇ တွင် May there be Victory! On the 2nd waning of Pyatho, Sakkaraj 1085 ဟုရေးသားထား သဖြင့် Forchhanner တွေ့ရှိချိန်က ကတ္တော်သိမ်ကျောက်စာကိုကိုးကားပြီး ယခုကျောက်စာမှာ ၁၀၈၅ ခုနှစ်တွင် ရေးထိုးထားခဲ့သော ကျောက်စာဖြစ်ကြောင်း သက်သေပြုနိုင်ပါသည်။ ယခုကျောက်စာအား ဖတ်ရှုထားချက်မှာ စာကြောင်းရေ ၁၆ ကြောင်းသာရှိသော်လည်း ကျောက်စာအကောင်းအတိုင်းရှိချိန်ကခေါက်ပုံအရ စာကြောင်းရေ ၂၀ အထိရှိခဲ့ကြောင်း တွေ့ရပါသည်။(စီစဉ်သူ)*

## ၂း၆၇။ ဦးမြဝါစေတီမှ ကြေးဆင်းတုစာ
### သက္ကရာဇ် ၁၀၈၇ ခု (AD 1726)

**ကျောက်စာမူရင်းအရေးအသား**

၁။ သက္ကရာဇ်၁၀၈၇ခုတန်ခုလပေါင်ဆုတ်၆ရက်ဝနေ့ကိုဝ်တော်လုပ်အသစ်လက်ျာစာကိုင်စံရွှေကောင်မှုသင်္ချိလယ်အလှုကါးကုလါးအတွင်းစစ်ချီအဝင်တလျားတပ်ငေတောင်ခွင်မောင်ညိုကျွန်ကိုဝ်ရံရွာတွင်အရှိလှဲရပ်စေါက်သင်္ချိလယ်နှင်အုပ်တွင်းချောင်တက်တောင်လှဲအုပ်တွင်ချောင်နှင်ကိုဝ်ရံရွာချောင်အနောက်လှဲကိုဝ်ရံရွာချောင်းမြောက်လှဲကုလါးပံစင်းရွာဆရာလယ်သုံအတွင်းတွင်လက်ျာစာကိုင်စံရွှေလင်မယာဆြာသင်္ချိလှဲသျှည်နှစ်ဆယ်

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၁၀၈၇ ခု တန်းခူးလပေါင်း လဆုတ် ၆ ရက် စနေနေ့ ကိုယ်တော်လုပ်အသစ် လက်ျာစာကိုင်စံရွှေကောင်းမှု သင်္ချိလယ်အလှူကား ကုလားအတွင်းစစ်ချီအဝင် တလျား တပ်ငယ်တောင်ခွင် မောင်ညိုကျွန်း ကိုယ်ရံရွာတွင် အရှေ့လည်း ရပ်စောက်သင်္ချိလယ်နှင့် အုတ်တွင်းချောင်းတက် တောင်လည်း အုတ်တွင်းချောင်းနှင့် ကိုယ်ရံရွာချောင်း အနောက်လည်း ကိုယ်ရံရွာချောင်း မြောက်လည်း ကုလားပန်ဇင်းရွာဆရာလယ်သည် အတွင်းတွင် လက်ျာစာကိုင် စံရွှေလင်မယား ဆရာသင်္ချိလယ်သျှည်း နှစ်ဆယ်

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပာယ်များ**

၁။ တန်ခုလပေါင် = တန်ခူးလပေါင်း(ရခိုင်တွင် လထပ်ရက်ငင်ရှိသည့်နှစ်တွင် နှစ်တန်ခူးထပ်သည်။ ပထမတန်ခူးနှင့် ဒုတိယတန်ခူးဟူ၍ဖြစ်သည်။ ပထမတန်ခူးကို တန်ခူးလပေါင်းဟုခေါ်သည်)

၂။ ဝနေ = စနေနေ့

၃။ ကိုဝ်တော်လုပ် = ကိုယ်တော်လုပ် = အပါးတော်မြဲ

၄။ တပ်ငေ = တပ်ငယ် = စစ်တပ်ငယ်

၅။ ခွင် = နယ်မြေ၊ ပိုင်နက်နယ်မြေ

၆။ ကိုဝ်ရံ = ကိုယ်ရံ

၇။ အရှိ = အရှေ့

၈။ လှဲ = လည်း

၉။ ကုလါပံစင်း = ကုလားပန်ဇင်း

၁၀။ ဆြာ = ဆရာ

၁၁။ လှဲ = လယ်

**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ ဦးမြဝါစေတီ ဌာပနာမှရရှိသည်။ ယခု မြောက်ဦးမြို့ ရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၁၀၈၇ ခုနှစ် စန္ဒဝိဇယရာဇာ (၁၀၇၂-၁၀၉၃)(**AD 1710-1731**) လက်ထက် ကိုယ်လုပ်တော်အသစ် လက်ျာစာကိုင် စံရွှေလင်မယား၏ လယ်မြေအလှူ ကမ္ပည်းစာဖြစ်သည်။ ရခိုင်တို့၏ ပက္ခဒိန်ကျမ်းအလိုအရ နှစ်တန်ခူးထပ်တွင် ပထမတန်ခူးကို တန်ခူးလပေါင်းဟု ခေါ်တွင်ပုံကို မှတ်သားနိုင်သည်။ ဒုတိယတန်ခူးကိုမူ နှောင်းတန်ခူးဟူ၍ ခေါ်တွင်ကြောင်းသိရသည်။ ရခိုင်ဘာသာရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။

## ၂၊၆၈။ ကြေးသပိတ်ခြေစာ
### သက္ကရာဇ် ၁၀၈၈ ခု (AD 1726)

**ကျောက်စာမူရင်း အရေးအသား**

၁။ သက္ကရာဇ်၁၀၈၈ခုဝါကျွတ်လ္ဆုတ်၄ရက်၁နေတွင်လေကျီသါး

၂။ ခေါင်စန်ဝလှာမှာဆရာတော်မဟာမုနိမှာဆွမ်းတင်သပိတ်

**ခေတ်ကာလ အရေးအသား**

၁။ သက္ကရာဇ် ၁၀၈၈ ခု ဝါကျွတ်လဆုတ် ၄ ရက် တနင်္ဂနွေနေ့တွင် လေကျီသား

၂။ ခေါင်ခန်ဝလာမှာ ဆရာတော် မဟာမုနိမှာ ဆွမ်းတင်သပိတ်

**ကျောက်စာအရေးအသား၊ ဝေါဟာရ၊ ပေါရာဏ၊ ပါဠိအဓိပ္ပါယ်**

၁။ ဝါကျွတ် = သီတင်းကျွတ်

၂။ ၁ နေ = တနင်္ဂနွေနေ့

၃။ လေကျီသား = လယ်ကျီသား = ဘုရင့်လယ်နှင့် ကျီတော်တွင် တာဝန်ထမ်းဆောင်ရသူ

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ ဝါဈေးကျောင်းတိုက်ဝင်လမ်းအနီး ကျောက်စေတီပျက်တစ်ဆူ၌ စတင်တွေ့ရှိသည်။ ယခု မြောက်ဦးရှေးဟောင်းသုတေသနပြတိုက်တွင်ရှိသည်။ သက္ကရာဇ် ၁၀၈၈ ခုသည် တတိယမြောက်ဦးခေတ် စန္ဒဝိဇယရာဇာ(၁၀၇၂-၁၀၉၃)(**AD 1710-1731**) လက်ထက်ဖြစ်သည်။ ဆရာတော် မဟာမုနိတွင် ဆွမ်းတင်သောသပိတ်ဟူ၍ ရေးထားသည်။ ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာမျိုးဖြစ်သည်။



၂၅၆၉။ မင်းသံလွှတ်ထွန်းပေါ်ဘုရားပလ္လင်စာ

သက္ကရာဇ် ၁၀၉၉ ခု (AD 1737)

## ၂း၆၉။ မင်းသံလွှတ်ထွန်းပေါ် ဘုရားပလ္လင်စာ
### သက္ကရာဇ် ၁၀၉၉ ခု (AD 1737)

**ကျောက်စာမူရင်းအရေးအသား**

၁။ ၁၀၉၉ခုဝါခေါင်လပြည်ကျော်၂ရက်

၂။ ၂နေ့မင်းသံလွှတ်ထွန်းပေါ်ကောင်း

၃။ မှူတော်

**ခေတ်ကာလ အရေးအသား**

၁။ ၁၀၉၉ ခု ဝါခေါင်လပြည့်ကျော် ၂ ရက်

၂။ တနင်္လာနေ့ မင်းသံလွှတ် ထွန်းပေါ်ကောင်း

၃။ မှူတော်

**ကျောက်စာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရ-ပါဠိအဓိပ္ပါယ်**

၁။ ၂ နေ = တနင်္လာနေ့

၂။ မင်းသံလွှတ် = ဘုရင့်အမိန့်တော်များ ရာဇသံများကို ထုတ်ပြန်ကြေငြာပေးရသော အမတ်

**ကျောက်စာနှင့် ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ သျှစ်သောင်းပုထိုးတော်ကြီး လှိုင်ဂူတော်အတွင်းတွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင် ရှိသည်။ သက္ကရာဇ် ၁၀၉၉ ခုနှစ်(AD 1737)သည် တတိယမြောက်ဦးခေတ် စန္ဒဝိဇယရာဇာ လက်ထက်ဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။



၂း၇၀။ ကြေးအမြောက်စာ
သက္ကရာဇ် ၁၁၀၃ ခု (AD 1741)

# ၂း၇၀။ ကြေးအမြောက်စာ

## သက္ကရာဇ် ၁၁၀၃ ခု (AD 1741)

**အမြောက်စာမူရင်းအရေးအသား**

၁။ သက္ကရာဇ်၁၁၀၃ခုရှေ့နန်းသခင်သျှင်ဘဝသျှင်မဒရာဇ်ရာ
၂။ ဇာကသ်ုအာမတ္တော်သေနာပတ္တိကိုဝ်လွှတ်၍စစ်တကောင်း
၃။ ကိုဝ်မျက်တော်တုပ်သော့ာခါဒါဂါကစစ်ကူလာသ်ုသင်ဘော
၄။ ဂြွတ်လှုည်ကျင်ရေတတ်ဘောင်တတ်ကိုဝ်သတ်ရသ်ုအန
၅။ က်ပြောင်

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၁၁၀၃ ခု ရှေ့နန်းသခင်ရှင် ဘဝရှင်မဒရာဇ်ရာ
၂။ ဇာကသည် အမတ်တော် သေနာပတိကိုလွှတ်၍ စစ်တကောင်း
၃။ ကိုမျက်တော်ထုတ်သောခါ ဒါကာကစစ်ကူလာသည့် သင်္ဘော
၄။ ဂြွတ်လေ့ကျင်း ရေတပ် ဘောင်တပ်ကို သတ်ရသည့် အန
၅။ က်ပြောင်း

**ကျောက်စာအရေးအသား ပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပာယ်**

၁။ သ်ု = သည်
၂။ အမတ္တော် = အမတ်တော်
၃။ သေနာပတ္တိ = သေနာပတိ
၄။ ကိုဝ် = ကို
၅။ သင်ဘောဂြွတ်လှုည် = သင်္ဘောဂြွတ်လေ့

**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ နန်းတော်ကုန်းအရှေ့တောင်ဘက် နန်းတော်၏တတိယထပ်တွင် အိမ်တိုင်တွင်းတူးရာမှ စတင်တွေ့ရှိသည်။ ထိုနေရာမှ အမြောက်ဆံများကိုလည်း အမြောက်အများတွေ့ရှိရသည်။ သို့နှင့် မြောက်ဦးခေတ်က ထိုနေရာတွင် နန်းတော်၏ လုံခြုံရေးအတွက် အမြောက်တပ်ကို ထားခဲ့လိမ့်မည်ဟုယူဆရသည်။ ၄င်းအမြောက်ကို ယခု မြောက်ဦးရှေးဟောင်း သုတေသနပြတိုက်တွင် ပြသထားသည်။ သက္ကရာဇ် ၁၁၀၃-ခုနှစ်(**AD 1741**) တွင် ဘဝရှင် မဒ္ဒရာဇ်ရာဇာသည် သေနာပတိစစ်သူကြီးကို စစ်တကောင်းသို့ စစ်ချီစေလွှတ်စဉ် ဒါကာမှ စစ်ကူလွှတ်လိုက်သော ဂြွတ်လေ့ရေတပ်ကို တိုက်ခိုက်အောင်နိုင်၍ သိမ်းဆည်းရရှိမိသော ပြောင်းဟူ၍ ကမ္ပည်းစာရေးထိုးထား သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည့် မူလထိုးစာဖြစ်သည်။




၃း၁။ မာန်အောင်မြို့မဟာကြီးဘုရားကျောက်စာ

သက္ကရာဇ် ၁၁၅၆ ခု (AD 1794)

## ၃း၁။ မာန်အောင်မြို့ မဟာကြီးဘုရားကျောက်စာ

### သက္ကရာဇ် ၁၁၅၆ ခု (AD 1794)

**ကျောက်စာမူရင်းအရေးအသား**

၁။ ဇေယတုသဗ္ဗမင်္ဂလာဘုန်းတော်အလွန်ကြီးမြတ်တော်မူလှသော . . .
၂။ . . . သာသနာဒါယကာတော်အလောင်းမင်းတရားကြီးဘုရားက . .
၃။ . . သက္ကရာဇ်၁၁၅၆ခုနှစ်မေဃဝတီမြို့စားဝန်ခန့်ထားသော . .
၄။ သနာတော်ဖွင့်လွင်စည်ပင်မည်အကြောင်းကိုစစ်ကဲနာခံတို့ . . .
၅။ . . . သားတို့နှင့်တိုင်ပင်၍သာသနာတော်ပွင့်လင်းစည်ထွန်းမည်အကြောင်းကို . . .
၆။ ကြီးမြတ်တော်မူလှသောဆင်ဖြူများရှင်ကိုယ်စားတော်မင်းကြီးဘုရား
၇။ . . . တည်ထား၍အင်္ဂတေသစ်စည်းအနီရွှေမွန်းမံပြီးလျှင်စစ်ကဲနာခံတော်ကြီး . . . .
၈။ . . . . ပဥ္စင်ဒူရိယာ . . . . . . . . . .
၉။ . . . . သာသနာတော်ကိုပြုရမည် . . . . . . .
၁၀။ . . . . မြို့စားရွာသားတို့နှင့်တိုင်ပင်နှိုးဆော် . . . .
၁၁။ . . . . လုပ်ဆောင်၍သာသနာ . . . . . . . .
၁၂။ . . . . . . . . ကိုရွှေငွေမွန်းမံ . . . . . . . .
၁၃။ . . . . . . . သဘင်များနှင့်ဆင်ဖြူများရှင်အလောင်း
၁၄။ . . . . စကြာကျောင်းအုပ်တံထား . . . . .
၁၅။ . . . . သဘင်ပဥ္စင်ဒူရိယာတီးမှုတ်၍ . . . . .

**ကျောက်စာနှင့်ပတ်သတ်သည့် အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ မာန်အောင်မြို့၊ မဟာကြီးဘုရားမုခ်ဝတွင်စိုက်ထူတွေ့ရှိသည်။ ယခု မူလနေရာတွင် ရှိသည်။ ဘုရားစေတီနှင့် အာရုံခံသိမ်ကြားတွင် စိုက်ထူထား၍ သိမ်ခေါင်မှ တံစက်မြိတ်ရေများကျ၍ ကျောက်စာများ ပျက်ပြေသွားပြီး ကြောဘက်မျက်နှာမှာလည်း စေတီနံရံနှင့်ကပ်နေ၍ မင်ကူးယူဖတ်ရှုရန်ခဲယဉ်းလှသည်ဟူ၍ ဦးဦးသာထွန်းမှတ်တမ်းတွင် တွေ့ရသည်။

သက္ကရာဇ် ၁၁၅၆ ခုနှစ်**(AD 1794)**တွင် ဆင်ဖြူရှင်များရှင် ဘုရင့်ကိုယ်စား မေဃဝတီမြို့ဝန်သည် စစ်ကဲနာခံမြို့စားရွာစားတို့နှင့် တိုင်ပင်၍ မဟာကြီးဘုရားကျောင်း အုတ်တံတားတို့ကို လှူဒါန်းခဲ့ကြောင်း ရေးထိုးထားသော အလှူမှတ်တမ်းစာဖြစ်သည်။ မူလထိုး ကျောက်စာမျိုးဖြစ်သည်။

# ၃း ၂။ နန်းသားကန်တော်ကျောက်စာ

## သက္ကရာဇ် ၁၁၈၃ ခု (AD 1776)

**ကျောက်စာမူရင်းအရေးအသား**

၁။ ခေညဝတီမြို့ဝန်မင်းတလုပ်မင်းကြီးမဟာမင်းကြီးကျော်စွာကောင်းမှု

၂။ စီရံတိဋ္ဌတုသဒ္ဓမ္မော။ ။သဒ္ဓမ္မောသူတော်ကောင်းတရားသည်စီရံစိရကာလံရှည်မြင့်စွာသောကာလပတ်လုံး တိဋ္ဌတုတည်ပါစေသည်

၃။ တည်းဣတိပိသောကျော်စောပြင်းဟုန်ကိုးပါးဂုဏ်ကြောင့်ဆန်စုန်အောက်ထက်ဘဝက်ဝီဇိနှံ့သိစက္ကဝါသုံးဖြာ ဥဂ္ဂက်သုဒ္ဓိနတ်ကား

၄။ ယုတ်လတ်များစွာသတ္တဝါကိုချမ်းသာခေါင်ထိပြည်သီရိသို့ပဋ္ဌိဝေကေယ်ကျွတ်ဆုရောက်ကြောင်းပြုလျက် အာယု ရှစ်ဆယ်စင်ကြယ်ပေါင်း

၅။ ဖွဲ့၄၅ဝါရောက်သောခါလျှင်ရတနာမြရောင်ငါးလုံးတောင်ဖြင့်ဝန်းမျှောင်စိမ်းညိုရာဇဂြိုဟ်ဟုနဂိုရ် ကျော်ထင် ပြည်ကြီးရှင်တို့အောင်မင်္ဂ

၆။ လာပြုရာသာမောအင်ကြင်းတောနှိုက်လောကထိပ်မိုးနိဗ္ဗာန်စိုးမှပွားတိုးမာသလေးလရောက်တိုင်ပြည်ပိုင်လု နတ် ဇာတသတ်နှင့်တင့်မြတ်

၇။ ကဿပများလှရင့်ကောင်းငါးရာပေါင်းတို့ သံညောင်းမြွက်ကြားဟောခဲ့ထားသည်တရားသုံးသွယ်သန့်စင်ကြယ် အောင်နှုပ်ဝယ်အမှတ်

၈။ ပုဒ်ပတ်မချွတ်ညီညွတ်လုံ့ကြပထမသင်္ဂါယနာထိုကဖြာမှ သုံးခါတင်ပြီးအစည်မှီးလျက်ယူသီးမခြား တက် တိုးပွား၍ သင်ကြားလေ့ကြက်

၉။ ဆောင်ရွက်မပေါက်ထွန်းတောက်ရောင်ဝါဇမ္ဗူချာနှိုက်မှန်စွာဖြောင့်ဖြောင့်နှစ်ထောင့်သုံးရာသချ်ာမှတ်သား ခြောက်ဆယ့်ငါးလျှင်ဘုရား

၁၀။ သာသနာရော်သောခါတွင်။ ။တမ္ဗဒီပကမ္ဗောဇအစရှိသောတိုင်းကြီးတို့၏အချက်အချာမင်းစံမန္တလေးအစရှိသော တောင်အ

၁၁။ ပေါင်းတို့ဖြင့်တင့်တယ်ခြံရံလျက်ရတနာကိုးပါးဖြင့်တင့်တယ်စွာမွမ်းမံခြယ်လှယ်လုပ်ဆောင်တော်မူသော မဟာအမရပူရရတအပူရံရွှေ

၁၂။ ပြည်တော်ကြီးကိုအစိုးရတော်မူသောပိတ်ဖြူဘော်သားအဆင်းနှင့်တူသောဆဒ္ဒါန်ဆင်မင်းသခင် အသျှင်ဘဝရှင်မင်းတရားကြီးဘုရားရုံမှတ်

၁၃။ သဒ္ဒါတော်မူ၍ရခိုင်ခေညဝတီမြို့ကြီးကိုတလုပ်မင်းကြီးမဟာမင်းကြီးကျော်စွာကိုမြို့ဝန်နန္ဒိသေနနော်ရထာကို အခွန်ဝန်နေမျိုးသိရီရဲတင်ကို

၁၄။ အတော်ဝန်နေမျိုးဗလနော်ရထာပုံချီကျော်ထင်နော်ရထာတို့ကိုစစ်ကဲနေမျိုးသီဟရဲတင်သီဟနော်ရထာတို့ကို နားခံနေမျိုးရွှေတောင်

၁၅။ ရာဇကျော်သီရိကျော်ထင်နော်ရထာတို့ကိုစာရေးကြီးခန့်တော်မူ၍ ရွှေပြည်တော်ကြီးအရံအကာအနောက်မျက်နှာ ခေညဝတီမြို့ကြီးသို့ရော်

၁၆။ လျှင်ကျေးဇူးသစ္စာတော်ကိုမျှော်ထော်၍တိုင်းသူပြည်သားကိုအာဏာအုပ်ထိန်းစီရင်သည်ပရိယတ္တိပဋိပတ္တိ သာသနာရေးမှာလည်း

၁၇။ အာဏာဒေသနာတော်မှလာသည့်အတိုင်းဂုဏာဘိဝံသဓဇမဟာဓမ္မရာဇဂုရုဆရာတော်နှင့် တိုင်ပင်၍ခြီးပင့်ပြုစုသည်။ ရှေးရခိုင်သျှင်ဘုရင်

၁၈။ မင်းဘလောင်းလွှက်နန်းမြို့အရှေ့မျက်နှာမြို့ကြီး၂ထပ်အတွင်းတူးလုပ်ခဲ့သောနံ့သာကန်သည် ကာလရှည်ဝေးသောကြောင့်ပြိုပျက်ပို့မြည့်

၁၉။ ရှိသည်ကိုတလုပ်မင်းကြီးမဟာမင်းကြီးကျော်စွာညာဏသမ္ပယုတ်ဉာဏ်ဖြင့်နိဗ္ဗာန်မဂ်ဖိုလ်ကိုရည်မှတ်၍အရပ်၄မျက်နှာအရပ်၈မျက်နှာ

၂၀။ မှလာကုံသောတိုင်းသူပြည်သားအများသတ္တဝါအပေါင်းတို့သော်ချိုးသုံးဆောင်စိမ့်သောငှာသက္ကရာဇ်၁၁၈၃ခုပြာသိုလပြည့်ကျော်၉ရက်၄နေ့

၂၁။ အသစ်ထပ်မံ၍ပြင်ဆင်လုပ်ဆောင်သည်ကန်အလျားအတောင်၉၀အနံအတောင်၉၀အစောက်၁၅တောင်အဝန်းအတောင်၃၆၀အဓွန့်

၂၂။ ရှည်စွာသာသနာတော်၅၀၀၀ပတ်လုံးတည်စိန့်သောငှာကန်ခြေကန်မြစ်နှိုက်ကျောက်ကိုအင်္ဂတေသရွတ်ဖြင့်ဖိကတ်ပြီးလျှင်အုတ်ရိုးတံ

၂၃။ တိုင်း၄မျက်နှာမုတ်တံခါးလှေခါးစောင်းတန်းအစုံနှင့်အသစ်ထပ်မံပြင်ဆင်လုပ်ဆောင်ပြီးပြေသည်။ ။ ထိုသို့ကျယ်ဝန်းစတုရန်းဖြင့်ရည်

၂၄။ မှန်းနိဗ္ဗာန်ဉာ်ရေကန်ကိုကောင်းမွန်တည်ထောင်လုပ်ဆောင်ကြည်နူးအကျိုးထူးကြောင့် ပြောင်းကူးဘဝသံသာရနှိုက် လေးပါယ်ဘုံ

၂၅။ မကြုံမလားရှစ်ပါးရပ်ဘောင်ဘဲးရှောင်ဝေးကွာဗြဟ္မာလူနတ်မြင့်မြတ်ခန်းဝါဘုံနှိုက်သာလျှင်ဖြစ်ပါစေသောမာကြောသန်မြန်အားအန်နိုင်း

၂၆။ ဆဗ္ဗညုလနှင့်မျှစေသတည်းကစ္စည်းသူတော်ရှင်မြတ်သို့ရွှေလှော်အဆင်းတင့်ခြင်းလက္ခဏာရုပ်ပါနတ်သွင်ဖြစ်ပါခြင်ရှင့်မြော်

၂၇။ မြင်သတ္တိဂုဏ်ထူးရှိသည်သာရိပုတ္တရထေရ်မဟာသို့ပညာဇကေဒက်မိန့်မြွက်ရလိုထိုထိုဖြစ်ရာဉာ်ခန္ဓာဝယ်ရော်ပါထက်အောက်စသည့်

၂၈။ မပျောက်မစွန်း · · · · အာယပါကူလသို့မဟးမသမ်းညိမ်းချမ်းပါစေရွှေငွေစပါးဝတ်စားတံဆာရတနာမျိုးစုံပြည့်ဖြိုးသည်ကျော်ဟိုး

၂၉။ ပုညဇောတိကသို့ဝေငှရှင်လန်းလှူဒါန်းသုံးစွဲစွန့်ကြဲမကုံဖျိုပုံလူဝယ်ကြွယ်စေခံလိုကြည်ညိုမြတ်လေးရှင်မိတေးသည်နီမွေးရွှေလှော်ပင်

၃၀။ ကုံကော်နှိုက်၄ဘော်သစ္စာပွင့်သောခါလျှင်ဦးစွာမဆွဘူးတွေ့ရုံ၍နိယမုတန်းဗျာဒိတ်ပန်းကိုလန်းလန်းသိမြင်ပန်ရွက်ဆင်မှများဖျင်သတ္တာ

၃၁။ ဝါဝေနေယာကိုခေမာပြည်တိုင်ပို့နိုင်သည်သူနတ်လူဆရာသမ္မာသမ္ဗုဒ္ဓမုက္ချဇေကန်မသွေလှန်သည်အမှန်ကြည်ညိုရပါလိုဝ်သောဝ်ထိုသို့

၃၂။ မြတ်နိုးလှူကောင်းကျိုးကိုအဘိုးမိဘစသည်ဆရာဦးစွာမဆွပေးဝေငှမှတရတစင်းမင်းတို့လက်ထက် · · · · ခေါင်မိဘုရား

၃၃။ · · · · · · သားလှသမီးဆွေကြီးမျိုးတော်လေးဘော်မတ်ပေါင်းရကြောင်းမျှဝေပေးထွေပြီးမြောက်ထို · · · · · များဘိသတ္တဝါ

၃၄။ · · · · မလစ်မလပ်နှံ့စပ်များစွာပါနာဘူတာသတ္တဝါနှင့်ခန္ဓာဧကေပညာ · · · · · · · · လျှုဒါအမှျ ပေးဝေငှ၏ · · · ·

၃၅။ · · · · · · လေးသောင်း၂သိန်းမြေထိန်းသက်သောသုန္ဒြေကို · · · · · · · ဤလှူဒါကိုသာခုသာခု ခေါ်စေသောဝ်။

**<u>ကျောက်စာနှင့်ပတ်သတ်သည့်အကြောင်းအရာများ</u>**

မြောက်ဦးမြို့၊ နန်းတော်ကုန်းဒုတိယထပ်၊ အရှေ့ဘက်ဝင်းတော်အတွင်းရှိ နန်းသားကန်အနီးတွင် စိုက်ထူတွေ့ရှိရသည်။ ယခု မြောက်ဦး ရှေးဟောင်းသုတေသနပြတိုက်တွင် သိမ်းဆည်းထားသည်။ ဤကျောက်တုံးပေါ်၌ ကုလားများ အဝတ်လျှော်ဖွတ်ခဲ့ကြသဖြင့် ကျောက်စာများ လုံးဝပျက်ပြေသွားပြီ။ ဤကမ္ပည်းစာကို ယခင်မင်ကူး အဟောင်းမှတစ်ဆင့် ကူးယူဖော်ပြခြင်းဖြစ်သည်။

အလှူမှတ်တမ်းစာ ဖြစ်သည်။ စကားပြေ-လင်္ကာနှစ်မျိုးဖြင့် ရေးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။

# ၃း၃။ ရမ်းဗြဲမြို့သူကြီးကာဒီရေကန်ကျောက်စာ
## သက္ကရာဇ် ၁၁၉၇ ခု (AD 1835)

**ကျောက်စာမူရင်းအရေးအသား**

၁။ ဇေယန္တု။ ။ပရမာနန္တညာဏာသဝရစက္ကိန္တရာဇိနောဂုဏေစိန္တေယပုတ္တသစီရံတိဋ္ဌတုသာသနံပရမာနန္တညာဏာသမြ

၂။ တ်သောအဆုံမ်းမရှိသောသဗ္ဗညုတညာဏ်ရှိတော်မူထသောဝရစက္ကိန္တရာဇိနောမြတ်သောသူတော်ကောင်းတရားတည်းဟူသောစ

၃။ ကြာရတနာကိုအစိုးရသောမင်းမြတ်ဖြစ်တော်မူထသော ဂုဏေစိန္တေယပုတ္တသမကုန်နိုင်အပ်သော ကျေးဇူးတော်နှင့် ပြည့်စုံတော်မူထသော

၄။ မြတ်စွာဘုရား၏သာသနံသာသနာတော်သည်စီရံရှည်မြင့်စွာသောကာလပတ်လလုံမ်းတိဋ္ဌတုစည်ပင် ထွန်းလင်းစေသတည်း

၅။ မောဟအဝိဇ္ဇာတည်းဟူသောမှောင်အမိုက်တို့ဖြင့်အလွန်နှိပ်စက်ကုန်ထသောများစွာသောဝေနေယျသတ္တဝါအပေါင်း

၆။ တို့ကိုဒေသနာညာဏ်တော်တည်းဟူသောတန်ဆောင်ဆီမီးကြီးလှစွာသောအလင်းဖြင့်သူတော်မြတ်တို့၏တရားဟောကြားဖော်ပြ

၇။ ဆုံမ္မတော်မူ၍သာသနာတည်းဟူသောမဟာသမုဒ္ဒရာမှမဂ္ဂင်တည်းဟူသောသဘော်လှေဖြင့်ပို့ဆောင် ကယ်တင်တော်မူပြီးလျှင်၄၅၈

၈။ ပတ်လုံမ်း။ဘုရားတို့၏ပြုဘွယ်ကိစ္စကိုကုံစင်စေပြီး၍ကုသိန္နာရုံမလ္လာမင်းတို့၏ပျော်ရာအင်ကြင်းပင်စုံချမ်းရိပ်မြို၏အကြား၌အမြစ်နိဗ္ဗာန်

၉။ ဝင်စံတော်မူပြီးသည်နောက်လေးလမြောက်သောအခါ၌ရာဇဂြိုဟ်ပြည်ကြီးကိုအစိုးရသောအဇာတသတ်မင်းလက်ထက်အရှင်မဟာကဿပအ

၁၀။ ကြီးအမှူးပြု၍ရဟန္တာ၅၀၀တို့ရလပတ်လုံမ်းပထမသင်္ဂါယနာတင်တော်မူသည်၁၁စနှစ်မြောက်သောအခါ၌ဝေသာလီပြည်ကိုအစိုးရတော်မူ

၁၁။ သောကာလာသောကမင်းလက်ထက်ရှင်မဟာယသအကြီးအမှူးပြု၍ရဟန္တာ၇၀၀တို့ရှစ်လပတ်လုံမ်းဒုတိယသင်္ဂါယနာတင်တော်မူသည်၂၁၈

၁၂။ နှစ်မြောက်သောအခါ၌ပါဒလိပုဒ်ပြည်ကြီးကိုအစိုးရတော်မူသောဓမ္မာသောကမင်းလက်ထက်အရှင်မောဂ္ဂလိပုတ္တတိဿအမှူးအကြီးပြု၍

၁၃။ ရဟန္တာ၁၀၀၀တို့၉လပတ်လုံမ်းတတိယသင်္ဂါယနာတင်တော်မူသည်၄၅၀မြောက်သောအခါ၌ ဝတ္တကာမဏိမင်းလက်ထက်ရဟန္တာ၅၀၀

၁၄။ တို့ပိဋ္ဋကတ်တော်သုံးပုံကိုပေထက်အက္ခရာတင်တော်မူသည်၉၃၀မြောက်သောအခါ၌ မဟာနာမ်မင်းလက်ထက်အရှင်ဗုဒ္ဓဃောသာထေရ်မြတ်သ

၁၅။ ည်ဇမ္ဗူဒိတ်မှသီဟိုဠ်ကျွန်းသို့ကူးတော်မူ၍ပိဋ္ဋကတ်သုံမ်းပုံကိုမြမ္မဘာသာဖြင့်ပေထက်အက္ခရာတင်တော်မူခဲ့ပြီးမှသာသ

၁၆။ နာတော်သည်အသီးသီးပြန့်ပွားတည်ထွန်းတော်မူကုန်သည်ဤသို့သောနည်းအားဖြင့်ဝေနေယျသတ္တဝါတို့၏အကျိုးစီးပွားဖြစ်စိမ့်သော၄၁

၁၇။ က္လမံပေါက္ခရဏာ်ဤရေကန်ကိုမယံအကျွန်ုပ်မြို့သူကြီးကာဒီသည်က္လမသဿနဂရသဤရမ်းဗြဲမြို့၏သေန္တာငွာနေ အရှေ့မြောက်ထောင့်အရပ်

၁၈။ ဖြစ်သောဒဟဿီလုစ္စယာအင်းတောင်၏အာသိန္နာအနီး၌ခနတိတူးလျှုပါ၏က္လမသဿပေါက္ခရဏာီယာ ဤရေကန်၏အာယာမတောအလျှား

၁၉။ အားဖြင့်မဇ္ဈိမပူရိဿဟတ္တောမဇ္ဈိမသားယောက်ျားတို့၏အတောင်ဖြင့်နရတိယောသံတောင်၉၀ရှိ၏တိရိယံပန အနံဗီလာအားဖြင့်ကား

၂၀။ အသီတိဟတ္တောအတောင်၈၀ရှိ၏စတုသုသဝနေလေးဘက်သောကန်ဘောင်နား၏ပရိမဏ္ဍလတော ထက်ဝန်းကျင်မှကား · · · · အတောင်

၂၁။ ၄၆၀သည်ဘဝေဖြစ်၏ခဏေတိကာလောတူးသောအခါဖြစ်သောကောဇာသက္ကရာဇ်သည်တိဗ္ဗုယကော၁၉၆ ခုသည်ဟောတိ

၂၂။ ကိရဖြစ်သတတ်ဗုဒ္ဓေါဘုရားသခင်၏သာသနေသာသနာတော်သည်ဒိစ္ဆောဂရေ၂၃၇၈ခုသည်သမ္ပတ္တော ရောက်ပြီးသောဘဂ္ဂု

၂၃။ နမာသေတပေါင်းလ၌ခုဒ္ဒဿ၁၄ရက်လ္ဆန်းပက္ခဖြစ်သောသောကြဝါရေသောကြာနေ့၌ဒဏတိတူးစေ၏ · · · · ဏာ · · · လောတူး

၂၄။ ၍ပြီးသောအခါ၏သက္ကရာဇေသက္ကရာဇ်သည်ကောဇာယကော၁၉၇ခုသည်ဘဝေဖြစ်၏သာသနေသာသနာ

၂၅။ တာ်သည်ကား။ · · · · ။၂၃၇၉ခုဖြစ်၏ဇေဋ္ဌပုဏ္ဏမီနံယုံလပြည့်ဖြစ်သောဗုဒ္ဓဝါရေ၄ဟူးနေ့၌နိဋ္ဌိတောပြီး၏

၂၆။ နောအကျွန်ုပ်၏ · · · · · ။ · · · · · ။စတုကုလေသုအမျိုးလေးပါးများသောအစွန်းရဟန်းပုဏ္ဏား ယောက်ျားမိန်းမ

၂၇။ ငွာနတခြားဇရေ · · ။ · · · · ။ · · သုံမ်းစေ။ · · · ။သဒ္ဒါမိပေးလျှုပါ၏။ခြင်းရာ။ · · · · ။ · · · · ။စစ်ထုတ် · · ·

၂၈။ ခေါ်ကျွန်ုပ်သော်မူကား။ခ · · ။ · · · · ။တို့ခပင်းပျော်ရာမဟာနဂရမြို့ညေ၏ကစ္ဆပနဒီသီတာအပြင်ေ

၂၉။ ရှု့ခွင်ပြပွဲါရပ်မျက်နှာ၌နရ · · ။ · · · · ။ဘေနရိမ်တို့ရွှေအိမ်ရွှေနန်းမြို့ဝန်းရိပ်မြုကနက်ထူ၍ခွန်ယူသိမ်းမှဲ့စံခဲ့ မပျက်

၃၀။ လောင်းကြက်မြို့မပူရရတနာပြည်အောင်ချာသည်ငါတို့ချက်ကြွယ်မျိုးဆွေနွယ်ဆက်ရေးအထက်ကမိ

၃၁။ ဘဘိုးဘေးအရေးကြောင်းခင်း၊ဖြစ်အံ့ခြင်းရာရာဇာနေမျိုးဘုန်းရိပ်မိုး၍စိုးစံသောခါအာဏာရှိန်ပြေးကျွန်ုပ်ဘေး မှုနီဝေးကျော်

၃၂။ ဝှန်းရာထူးချွန်၍အလွန်တင့်ကဲ။ · · · ·

**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ ရမ်းဗြဲမြို့အရှေ့ဘက် မြို့သူကြီးဦးကာဒီ၏ ရေကန်အနောက်မြောက်ထောင့် အုတ်ဂူထဲတွင် စတင်တွေ့ရှိရသည်။ ယခု မူလနေရာတွင်ရှိသည်။ ညောင်မြစ်များ ဖုံးကြက်နေ၍ ကြောဘက်မျက်နှာကို မင်ကူးကူး ယူ၍ လုံးဝမရနိုင်ခဲ့ဟူ၍ ဦးဦးသာထွန်း၏ မှတ်တမ်းတွင်တွေ့ရသည်။ ရမ်းဗြဲမြို့သူကြီးကာဒီ၏ ရေကန်တော် အလှူမှတ်တမ်းဖြစ်သည်။ မူလထိုးစာမျိုးဖြစ်သည်။

## ၃း၄။ ရမ်းဗြဲမြို့သူကြီးကာဒီပိဋကတ်တိုက်ကျောက်စာ

### သက္ကရာဇ် ၁၂၀၆ ခု (AD 1844)

<u>ကျောက်စာမူရင်းအရေးအသား</u>

၁။ စီရံတိဋ္ဌတုသဒ္ဓမ္မော။ ။သဒ္ဓမ္မောဘုရားမုက္ခပါတ်ပိဋ္ဌကတ်သုံးပုံအလုံးစုံတည်းဟူသောသူတော်ေ
၂။ ကောင်းတရားသည်စီရံမြင့်ရှည်ကြာစွာသာသနာတော်ငါးထောင်ကုံအောင်ပတ်လုံးတိဋ္ဌတုမယုတ်မ
၃။ ပျက်ထွန်းလျှက်တည်ပါစေသတည်း။ ။မဟာကာရုဏိကောဝေနေယျတ်အားသံသရာတည်းဟူ
၄။ သောမဟာဂရုဏာယှိတော်မူသောမြတ်စွာဘုရားသည်ပန္နကော၁၀၃ခုသက္ကရာဇ်၌ဗုဒ္ဓ
၅။ တ္ထဘုရားအဖြစ်သို့ပတ္တာရောက်တော်မူ၍ပဥ္စစတ္တာလီသဝဿသနိလေးဆယ်ငါးဝါပတ်
၆။ လုံးသဒ္ဓေဝကံနတ်နှင့်တကွသောလူကိုဓမ္မရသတရားအရသာကိုဝိဝယိတ္တာသော်စေ
၇။ တော်မူ၍ဇဝယံ၁၄၈ခုသက္ကရာဇ်၌ပရိနိဗ္ဗာန်ယိပရိနိဗ္ဗာန်ပြုတော်မူလေပြီဘုရားသခင်
၈။ ပရိနိဗ္ဗာန်ပြုတော်မူ၍လေးလမြောက်သောအခါရာဇဂြိုဟ်ပြည်တွင်အဇာတသတ်မင်းကို
၉။ အမှီပြု၍အရှင်မဟာကဿပအမျုးဟိသောရဟန္တာ၅၀၀တို့ပထမသင်္ဃာယနာတင်တော်
၁၀။ မူကုန်သည်ပရိနိဗ္ဗာန်စံယူတော်မူ၍အနှစ်တရာရောက်တော်မူသောအခါဝေသာလီပြည်တွင်
၁၁။ ကာလာသောကမင်းကိုအမှီပြု၍အရှင်မဟာယဿအမျုးယှိသော၇၀၀သောရဟန္တာတို့
၁၂။ ဒုတိယသင်္ဃာယနာတင်တော်မူကုန်သည်ပရိနိဗ္ဗာန်စံတော်မူသည်နောက်အနှစ်၂၁၈နှစ်ရောက်သောအခါပါ
၁၃။ ဒလိပုဒ်ပြည်တွင်ဓမ္မာသောကမင်းကိုအမှီပြု၍မောဂ္ဂလိပုတ္တာအမျုးဟှိသောရဟန္တာ၁၀၀၀တို့တတိ
၁၄။ ယသင်္ဃာယနာတင်တော်မူကုန်သည်ဘုရားသိခင်ပရိနိဗ္ဗာန်စံတော်မူသည်နှော်အနှစ်၄၅၀ရော်သောအခါသီ
၁၅။ ဟိုဠ်ကျွန်းတွင်ဝတ္တကာမဏိမင်းကိုအမှီပြု၍ရဟန္တာအရှင်မြတ်တို့သည်ပိဋ္ဋကတ်သုံးပုံကိုပေထက်
၁၆။ တင်တော်မူကုန်သည်ဘုရားသိခင်နိဗ္ဗာန်စံယူတော်မူသည်နှော်အနှစ်၉၃၀ကုံသောအခါမဟာနာဂမင်း
၁၇။ လက်ထက်အရှင်ဗုဒ္ဓဃောသာသည်ဇမ္ဗူဒီပါမှသီဟိုဠ်ကျွန်းသို့ကြွတော်မူ၍ပိဋ္ဋကတ်တော်ကိုရေးကူး
၁၈။ လျှက်ဤဇမ္ဗူဒီပါသို့ဆောင်ယူခဲ့သည်သီဟိုဠ်ကျွန်း၌လည်းကောင်းဤဇမ္ဗူဒီပါကျွန်း၌လည်းကောင်းအဆက်
၁၉။ ဆက်သောမင်းတို့ကိုအဆက်ဆက်သောဆရာတို့သည်အမှီပြုလျှက်ပိဋ္ဋကတ်သုံးပုံတည်းဟူသောမြတ်
၂၀။ စွာဘုရားစကားတော်ကိုအစဉ်မပျက်ဆောင်လေကုန်သည်ဖြစ်၍ကာလအရှည်ယွှုထက်တိုင်တည်ေ
၂၁။ တ်မူသည်နှင့်အညီသုဂတိအနူဘဝါမြတ်စွာဘုရားကိုတော်မှဖြစ်သောဒါတုန်ဓာတ်တော်တို့
၂၂။ ၏အဌ္ဌဌာနေတည်ရာဖြစ်သောရက္ခပူရရဋ္ဌေရက္ခပူရတိုင်း၌ကာတိနာမံကာဒီအမည်ရှိသောအဟံ

၂၃။ ရမ္မနဂရေဇောင္ဂာအကျွန်ုပ်ရမ္မာဝတီမြို့သူကြီးသည်ရာဇာဓိန်မင်းအစဟိသောသဂါမဏိကာမိရှာသူကြီး
၂၄။ တို့နှင့်တကွဗဟုဇ္ဇာနေများစွာကုန်သောလူတို့ကိုသမါဒပေတွာညီညွတ်စေ၍နာပြုပ္ပဒီသေမြို့အရှေ့မျက်နှာ
၂၅။ ၌သမ္မိသူတော်ကောင်းတို့သည်သန္နိတဇ္ဇာနာစည်းဝေးရာဖြစ်သောဂနစရိယစန္ဒမေဒါမဟာထေရ်ရာ
၂၆။ ဂိုဏ်းအုပ်စန္ဒမေဓာမဟာထေရ်ရာ၏ဝိဟာရသမိပေကျောင်းအနီး၌သာသနာ့မူလံသာသနာတော်၏ အမြစ်ဖြစ်သော
၂၇။ သပိဋကတယံပိဋကတ်သုံးပုံနှင့်တကွဓာတုဗုဒ္ဓရူပါနိ၊ဓာတ်တော်ဆင်းတုတော်တို့ကိုဣဋ္ဌဏပါသာဒေဏ
၂၈။ အုဋ္ဌပြသာဒ်ဖြင့်တိနာမစေတီယံဓာတုဥဒ္ဒိဿဓမ္မံသုံမ်းမည်ရသောစေတီကိုပတိဋ္ဌာတိတည်လုပ်၏တံစေတီ
၂၉။ ယံထိုစေတီ၌အာယာမစိတ္တာရတောအလျားအနံအားဖြင့်စတုဝီသတိကေမုဋ္ဌိနှစ်ဆယ့်လေးတောင်ယို၏ဥပတိ
၃၀။ တောဓောက်အမြင့်အားဖြင့်နဝတိံသ်သုံးဆယ့်ကိုးတောင်ဟို၏စတုကန္နေလေးထောင့်၌စတုသီဟရာ
၃၁။ ဇာစလေးစီးသောခြသေ့်မင်းတို့ကိုလည်းကောင်းဒွါရေတံခါး၌ဒွေးယက္ခရာဇာစနှစ်ဦးသောဘီလူးမင်းတို့ကိုလည်း
၃၂။ ကောင်း၊သာရက္ခံအစောင့်အရှောက်ကိုဌပေတွာထား၍အပဟာရာမေနာမဟာရံတံတိုင်းနှင့်တကွတံသပွံ
ထိုအရံတို့ကို
၃၃။ ကာရိတွာတည်လတ်၍သက္ကရာဇေသက္ကရာဇ်သည်၊ . . . ၁၂၀၆ခုစီသြမာသသဿတန်းခူးလ၏ပေါက္ခေလ္ဆုတ်
ပက္ခဖြစ်သော
၃၄။ အဌပိရှစ်ရက်မြောက်သောဗုဒ္ဓဝါရည္မီဗုဒ္ဓဟူးနေ့၌မဇ္ဈန္တိတောနေမွန်းတည့်အချိန်တွင်သဗ္ဗပရိပုံဏ္ဏော ကောင်းစွာ
ပြီးပြည့်စုံပြီ။

**<u>ကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ</u>**

ရခိုင်ပြည်နယ်၊ ရမ်းဗြဲမြို့မ တောင်ကျောင်းဘုန်းတော်ကြီးကျောင်းတိုက်အတွင်းရှိ ပိဋကတ်တိုက်ရှေ့တွင် စိုက်ထူတွေ့ရှိသည်။ ယခု မူလနေရာတွင်ရှိသည်။ ကြောဘက်မျက်နှာရှိစာများမှာ ပျက်ပြေသွားပြီဖြစ်၍ မဖတ်သာပြီဟု ဦးဦးသာထွန်း၏ မှတ်တမ်း၌တွေ့ရသည်။

ရမ်းဗြဲမြို့သူကြီးကာဒီ၏ ပိဋကတ်တိုက်တော် အလှူမှတ်တမ်းဖြစ်သည်။ စကားပြေနှင့် ပါဠိရော၍ ရေးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။



၃း၅။ ဦးရာဇ်တောင်ဘုရားကျောက်စာ

သက္ကရာဇ် ၁၂၂၁ ခု (AD 1859)

# ၁း၅။ ဦးရာဇ်တောင်ဘုရားကျောက်စာ

**သက္ကရာဇ် ၁၂၂၁ ခု (AD 1859)**

**ကျောက်စာမူရင်းအရေးအသား**

၁။ သက္ကြဇ်၁၂၂၁ခုရမ္မဝဒီရန်း
၂။ ဖြေးမြိုဝ်အဝင်ကညီချောင်းရွာ
၃။ နေဒေါ်ဝန်းမမြစ်ယခုရွာနေ
၄။ ရေပေါ ံချောင်းကံတကာင
၅။ ဘာင်သာဝေကောင်းမူနိ
၆။ ဗွာန်ဆုသာထုခေါ်စေ
၇။ သာဝ်

**ကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ ပုဏ္ဏားကျွန်းမြို့၊ ဦးရာဇ်တောင်စေတီတော်ကြီး၏မြောက်ဘက် လှျောင်းတော်မူဘုရားသိမ်တော်တွင် စတင်တွေ့ရှိသည်။ ယခု ဦးရာဇ်တောင်စေတီတော် ဗုဒ္ဓပြတိုက်တွင်ရှိသည်။

သက္ကရာဇ် ၁၂၂၁ ခုနှစ်တွင် ရမ်းဗြဲ-ကန်းနီချောင်းရွာနေ ဒေါ်ဝိုင်းမ၏မြစ် ယခုရွာနေ ရေပေါက်ချောင်းကံတကာ ဖောင်သာဝေကောင်းမှု နိဗ္ဗာန်ဆုသာဝခေါ်စေသောဝ် ဟူ၍ ရေးထိုးထားသည်။ အလှူမှတ်တမ်းစာဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။

# ၁း၆။ ဘုံကျောင်းမှ ကြေးဆင်းတုတော်ဓမ္မခံစာ
## သက္ကရာဇ် ၁၂၂၄ ခု (AD 1862)

**ကျောက်စာမူရင်းအရေးအသား**

၁။ သက္ကရာဇ်၁၂၂၄ခုနရုံလပြည့်ကျော်၇ရက်၄နေ့တွင်ကြေချိန်ဖဂါကိုယ်တော်စါးယုဝ်ပွာကြည်ဆင်ထုတော်မြတ်ကို သွန်လောင်အောင်မြင်တော်မူသည်။

၂။ ရခိုင်မြို့ဟောင်ရွှေကျာစျေဘုရာတကာလေ့သူကြီမောင်ဝေမယားလှဦးသွီးမောင်နှံကောင်မှူနိဗ္ဗာန်ဆုကိုသာခု လူနတ်ခေါ်စေသောဝ်။

**ကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ ဘုံကျောင်းတွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ရှိသည်။ သက္ကရာဇ် ၁၂၂၄ ခုနှစ်၊ နံယုန်လပြည့်ကျော် ၇ရက်၊ ဗုဒ္ဓဟူးနေ့တွင် ရခိုင်မြို့ဟောင်း ရွှေကြာသိမ်ဈေးမှ ဘုရားတကာလေ့သူကြီး မောင်ဝေ မယားလှဦးသွီးမောင်နှံကောင်းမှု ဟူ၍ ကမ္ပည်းစာထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။

## ၁း၇။ မဟာမုနိမှ ရှမ်းဆရာမောင်ရွှေမုံကျောက်စာ

### သက္ကရာဇ် ၁၂၂၈ ခု (AD 1866)

**ကျောက်စာမူရင်းအရေးအသား**

**(မျက်နှာဘက်)**

၁။ သက္ကရာဇ်၁၄၇ခု
၂။ · င်တော်စန္ဒသူရိယမင်တည်ထာသည်
၃။ ဗုဒ္ဓသသာသနံစီရံတိတ္ထတုဗုဒ္ဓသမြတ်စွာဘုရာ၏သာသနံ
၄။ သာသနာတော်သည်စီယံရှိမြင့်စွာတိတ္ထတုရှည်ဧသေတည်
၅။ သက္ကရာဇ်ကောဇာ၁၄၇၀ယ်ကမြတ်စွာသုံလုသပြည့ကိုပြုဧ
၆။ ကိုကွယ်အံ့ဘွယ်သေသတ်မင်မြတ်စန္ဒသူရိရာတဂါရင်မြတ်
၇။ တည်ပျီလတ်မှကတ်နှင့်မကင်ပြတ်စီချင်ကကမ္ဘောဇတိုင်
၈။ သမိုင်အဝင်ခေါ်တွင်သာယာလင်္ဂါဝဒီမျိုဝ့်မည်နာမဒေသအမံ့တိုင်နိုင်ငံ
၉။ ကရှန်ဆြာမောင်ရွှေမှုံမယားမိဝိုင်သွီအကျိမိက္ကျံသွီအငယ်မိနူသွက်
၁၀။ စာရေရှင်မုံသွက်ငြီအလတ်မောင်ငုံငြီထွေမောင်ရီသွီမောင်နံ့သွီ
၁၁။ သွက်ခုနှရောက်တိုဝ်မဟာမုနိစက်ကိုတော်မြတ်ကိုအဖူလာသ
၁၂။ ည်မှါသက္ကရာဇ်၁၂၂၈ခုတပေါင်လွှန်ဂရက်နေ့ဖူမျှော်ရောက်သ
၁၃။ ည်တွင်ကူတော်ကွဲအက်မြက်များသည်ကိုမြင်လျှင်ရှမ်ဆြာမော

၁၄။ င်ရွှေမှုံကစေတနာသုံတံမြက်သံချင်လှဝရိရအားထုပ်၍ပြက်စီရိ
၁၅။ ရွှင်သည်ဟာကိုပြင်မည်ဟုကျံပိုလျှင်ကျင်သူငရ်မယားနှင့်ေ
၁၆။ ပြာဟောတိုင်ပင်၍သက္ကရာဇ်၁၂၂၉ခုနှစ်ကစ၍ကူတော်ကို
၁၇။ ပြင်သည်မှာကိုန်ပါသောဒင်္ဂါးပျားရေ၄ဖ၀သည်မလေါ ံ
၁၈။ ၍မပြီးစီးနိုင်သည်နှင်ထပ်မံ၍တခါကျံဘံသည်မှာငရ်
၁၉။ မယားသားသ္မီတို့ကိုအရှင်ဝံထောက်တော်မင်းထံေ
၂၀။ ငွဒင်္ဂါး၄၀၀နှင့်ပေါင်နံ့ထားသည်တွင်အရှင်ဝံထော်
၂၁။ တော်မင်းကဆြာကျီမယားသားသသ္မီးတို့ကိုမယူအ(ဠ)မျော်

<u>**(ကြောဘက်)**</u>

၁။ အောင်လုပ်ပါဟုငွေဒင်္ဂါးပျားယေ၄၀၀ခြေမှိုးလိုက်သ
၂။ သည်နှင့်လုပ်ပါသော်လည်ကျောင်းတော်သာပိုသည်
၃။ ကူတော်မိုးမလုံရှိပုံ၍ထပ်မံပြီလျှင်ကျံဘန်သည်မြို့ဒ
၄။ ည်ဝတီတိုင်ပြည်သူအားကိုး၍ကျံမသာလျှင်အဠေ
၅။ မျာက်မည်ထင်၍လုတ်သည်မှာဒါရကာလှုသူနာ
၆။ မည်အရှင်ဝန်ထောက်မင်မောင်ကလား၁၀အရှင်ဖွဲဒါ
၇။ ကျီစိန် · · ဒရကာစံထွန်ဍိတရဇင်သာထွန်ဍိအရှင်စစ်
၈။ ကဲတော်မင်တောင်ရွှေတောစိစရေကျီပေါ်ထွန်၁၀ေ
၉။ · · · · · မောင်ဂလေဖဝ်ကျောင်တကာညိုရောင်၃၁
၁၀။ · · · · မောင်ဓ၏ · · ယ်ဍိမောင်နှထိုစွေဍိတရ
၁၁။ ဇင်စံ · ဖွေဍိရှမ်ဆြာမောင်ရွှေမင်ဦစုပေါင်းငွေ
၁၂။ ၃၄၅ပြားကိုရှမ်းဆြာကြီးမောင်ရွှေမှုံလက်သို့အလှုဝင်ဂျ
၁၃။ သည်ထိုမှဝ · · · · · · သွဲဥသံဘိက၍များလှ
၁၄။ ဒါရကာလူ · · ထိုသဒ္ဒါဖြုစ္စလှုရသောအားအကျိုများကျောင်း
၁၅။ သုံးပါးသောကတ်ရှစ်ပါးရပ်မှမစပ်မငွေ့မတွေ့လို၍ကု
၁၆။ သိုလ်ကျောင်မင်ဖိုလ်နိဗ္ဗာန်ချမ်းသာမှန်သည်။ ။နိဗ္ဗာန်ရွှေမျို့ရော်စေ
၁၇။ သာဝ်။ ။သက္ကရာဇ်၁၂၃၂ခုတံကုလ္ဆန်၄ရက်အင်္ဂါနေ့ရှမ်ဆြာကျီမောင်မှုံ
၁၈။ မဟာမနိစက်တော်ကိုပြင်၍ပျီသည်ကောင်မှုနိဗ္ဗာန်ဆုသာဒုနတ်လူခေါ်စေသောဝ်။

<u>**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**</u>

ကျောက်တော်မြို့နယ်၊ မဟာမုနိကုန်းတော်မြောက်ဘက် ပထမပစ္စယံအတွင်းတွင် စတင်တွေ့ရှိရသည်။ ယခု လုံးဝပျောက်ဆုံးနေသည်။

ရှမ်းဆရာမောင်ရွှေမှုန်သည် မဟာမုနိဂူတော်ကို ပြုပြင်ခဲ့လေသည်။မိမိပိုင်ငွေနှင့်ပြုပြင်ပါသော်လည်း မလုံလောက်သဖြင့် ဇနီးမယားနှင့်သားသမီးတို့ကို ဝန်ထောက်မင်းထံ ပေါင်နှံ၍ ပြုပြင်ခဲ့သည်။ မလောက်၍ တစ်ဖန် မိတ်ဆွေ အပေါင်းအသင်းများထံမှ အလှူဝင်ငွေများဖြင့် ထပ်မံပြုပြင်ခဲ့သည်ဟူ၍ ရေးထိုးထားသည်။

စကားပြေလင်္ကာနှစ်မျိုးဖြင့် ရေးသားထားသည်။ နိဗ္ဗာန်ဆုကို တောင်းထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။

## ၃း၈။ နို့င်ငံတောင်မှဂူဝကျောက်စာ

### သက္ကရာဇ် ၁၂၃၅ ခု (AD 1874)

**<u>ကျောက်စာမူရင်းအရေးအသား</u>**

၁။ ၁၂၃၅ခုတပို့တွဲလဆန်းဆယ်ရက်၂လာတွင်ပြီး၏

၂။ ၄သင်္ချေတိစွန်းကမ္ဘာတသိန်းကြာအောင်ပါရမီဖြည့်မူ

၃။ လုံးလပြုမှသံဗုဒ္ဓလျှင်မိန့်ဟဒေသနာ၊ရတနာရွှေငွေနှင့်

၄။ ကျောက်စုထုလုပ်ကိုးကွယ်၊နိမ်ဖြည်သို့ရောက်မည်ဇကန်မြတ်

၅။ မွန်ဟောကြားတရားဒေသနာယုံကြည်ပါ၍ကျွံသာလင်မယား

၆။ ကျွန်ကားရမ္မာနေရာမူရင်းတပ်ဝင်းဝင်းနှင့်သတင်းမွှေး

၇။ ဖြူကျွန်မူနှာမေမောင်သာဝယ်တဲ၊မိအေအမြတ်

၈။ လက်ထပ်ကျွန်ဝင်အိမ်ရှင်မျောက်သားမယားနာမည်အညို

၉။ ယေတည်ရောက်သည်ခြည်ညနေကပဒေသာရှေမြင့်ကြာသော်

၁၀။ ရတနာမြ • နှစ်သက်ကြည်ဖြူ၃ဆူဗုဒ္ဓဂူဝတွင်းဖောက်

၁၁။ ပေးမြောက်လက်ခံ၅၅၀ခေါ်သည်သာခု၂ပါးစုငြားငွေ

၁၂။ သား၇၀၀ကျွန်လှူဒါကိုဝသုန္ဒရာကနရွာစသည်

၁၃။ အမျှသာခုခေါ်စေသော

**<u>ခေတ်ကာလအရေးအသား</u>**

၁။ ၁၂၃၅ ခု တပိုတွဲလဆန်းဆယ်ရက် တနင်္လာတွင် ပြီး၏

၂။ လေးသင်္ချေတိစွန်း ကမ္ဘာတစ်သိန်းကြာအောင် ပါရမီဖြည့်မှု

၃။ လုံးလပြုမှ သံဗုဒ္ဓလျှင် မိန့်ဟဒေသနာ ရတနာရွှေငွေနှင့်

၄။ ကျောက်စုထုလုပ်ကိုးကွယ် နိဗ္ဗာန်ပြည်သို့ ရောက်မည်ဇကန် မြတ်
၅။ မွန်ဟောကြား တရားဒေသနာ ယုံကြည်ပါ၍ ကျွန်သာလင်မယား
၆။ ကျွန်းကားရမ္မာ နေရာမှုရင်း တပ်ဝင်းဝင်းနှင့် သတင်းမွေး
၇။ ကျူ ကျွန်မှုနာမည် မောင်သာဝေတည်း၊ မိအေအမြတ်
၈။ လက်ထပ်ကျွန်းဝင် အိမ်ရှင်မျောက်သား မယားနာမည် အညို
၉။ ယေတည်း ရောက်သည်ခြေ နေကပဒေသာ ရှည်မြင့်ကြာသော်
၁၀။ ရတနာမြ(တ်) နှစ်သက်ကြည်ဖြူ ၃ဆူဗုဒ္ဓ ဂူဝတွင်းဖောက်
၁၁။ ပေးမြောက်လက်ခံ ၅၅ဝခေါ်သည် သာခုနှစ်ပါး စုငြားငွေ
၁၂။ သား ၇ဝဝကျွန်လှူဒါကို ဝသုန္ဓရာက နတ်ရှာစသည်
၁၃။ အမျှသာခု ခေါ်စေသော

**ကျောက်စာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရ၊ ပါဠိအဓိပ္ပာယ်များ**

၁။ ၂ လာ = တနင်္လာ
၂။ နိမ်ဗြည် = နိဗ္ဗာန်ပြည်
၃။ ကျွံ = ကျွန်
၄။ နာမေ = နာမည်
၅။ မျောက်သား = အစ်ကို (ဝါ) မောင်၊ ၏သမီးနှင့် အစ်မ (ဝါ) ညီမ၏သားကို မျောက်သား တော်စပ်သည်။
၆။ ခြည်ည = ခြေ
၇။ ရှေမြင့်ကြာ = ရှည်မြင့်ကြာ
၈။ နရှာ = နတ်ရှာ

<u>**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**</u>

ရခိုင်ပြည်၊ ပုဏ္ဏားကျွန်းမြို့နယ်၊ ရေပေါက်ချောင်းကျေးရွာအနီး နိုင်ငံတောင်(မြတ်စွာဘုရားရှင်၏ နံကိုင်းတော်(နံရိုး)ဓာတ်တည်ရှိရာတောင်)ဂူထဲတွင် စတင်တွေ့ရှိသည်။ ဘဘာဝကျောက်တောင်တွင် ဂူ၊ ဘုရားနှင့် ကျောက်စာတို့ကို ရေးထွင်းထားသည်။ ကျောက်စာရေးထိုးသော ၁၂၃၅ ခုနှစ်သည် အင်္ဂလိပ်သက္ကရာဇ် ၁၈၇၄ ခု၊ စစ်တွေခရိုင်၏ ၁၅ ဆက်မြောက် ကော်မီရှင်နာမင်းကြီး Lt. Col Edward Mooby Ryan B.Sc (1873-1876) လက်ထက်ဖြစ်သည်။ အလှူမှတ်တမ်းကမ္ပည်းစာဖြစ်သည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။မူလထိုးစာမျိုးဖြစ်သည်။

## ၃း၉။ သျှစ်သောင်းကျောင်းမှကြေးဆင်းတုငယ်ပလ္လင်စာ
### သက္ကရာဇ် ၁၂၃၇ ခု (AD 1875)

**ကမ္ပည်းစာမူရင်းအရေးအသား**

၁။ တကာကြာဦး၁၂၃၇ခုနှစ်ပြာသိုဝ်တွင်သွန်သောဘုရားပုဒိအာနှင့်ပြည့်ပါစေ

၂။ ရခိုင်မြို့ရက္ခတောင်ရပ်တွင်နေသောဆရာစံရာသွန်သောရပ်တုတော်

**ကမ္ပည်းစာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

မြောက်ဦးမြို့ညောင်ပင်ဈေး ဘုန်းတော်ကြီးကျောင်းတိုက်တွင် စတင်တွေ့ရှိသည်။ ယခု မြောက်ဦးမြို့ သျှစ်သောင်းဘုန်းတော်ကြီးကျောင်းတွင်ရှိသည်။

သက္ကရာဇ် ၁၂၃၇ ခုနှစ်တွင် ဘုရားတကာကြာဦးသည် ဘုရားသွန်းလုပ်လှူဒါန်းခဲ့သည်။ ရခိုင်မြို့ ရက္ခတောင်ရွာနေ ဆရာစံရာ သွန်းလုပ်သည်ဟူ၍ ကမ္ပည်းစာရေးထိုးထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။

## ၃း၁၀။ ဦးရာဇ်တောင်စေတီတော်ရှိ မမြတ်ဦးကျောက်စာ

**သက္ကရာဇ် ၁၂၄၀ ခု (AD 1878)**

**ကျောက်စာမူရင်းအရေးအသား**

၁။ ဦးရာဇ်တောင်မဟာစေတီတော်မြပ်ဘုရား

၂။ နမောတဿဘဂဝတောအရဟတောသမ္မာသဗ္ဗုဒ္ဓဿ

၃။ သံဂေနသဟဿယောရဋ္ဌံသဒ္ဓမ္မောသာသဏာရဏံ၊အနေကဝါရယန္တာသဒ္ဓါတိဋ္ဌတုသာသနံယောဇိနောငါးပါး အောင်မြင်

၄။ ဘုရားရှင်သည်ရဋ္ဌံသုနာပရာန်တမ္ပဒီပနာမဝှန်လိူင်း၊မြပ္ပာတိုင်းသို့သံဂေနထေရ်မြတ်အရိယာသဃ်ာတော်နှင့် တကွအနေကဝါရံအ

၅။ ကြိမ်များစွာအာဂန္တာကြွလာတော်မူ၍သဒ္ဓမ္မောသာသဏာရဏံသူတော်ကောင်းတရားသုမ္ပါးသာသနာ ထွန်းလင်းယာသောအကြောင်း

၆။ ကိုအကာပြုတော်မူလေပြီတဿဇိနဿထိုငါးပါးအောင်မြင်ဘုရားရှင်၏သာသနံမြင့်ရှည်နောက်နောင် ငါးထောင်ပိုင်းခြားထားခဲ့မိန့်

၇။ မှာသာသနာတော်မြတ်သည်သဒ္ဓါအခါခပ်သိမ်းတိဋ္ဌတုထွန်းပရှန်းဝေတက်သည့်နေသို့ကြေညာအံ့နှီး ပွားကြီးမြင့်မြတ်တည်လတ်တော်မူ

၈။ စေသတည်း။ ။မင်္ဂလာတဆောင်ထွန်းလင်းပြောင်စိမ့်ချောက်ရောင်ဖြိုးဖျက်လျှပ်နယ်လက်သားအထက်စိုးစွင့် ဘဝက်မိုးမြင့်ကိုးဂုဏ်ပွင့်၍

၉။ လေးဆင့်မဟိဒ္ဓိရှိန်းရှိန်းညီသားမြတ်ဘုရား၏တည်ထားသာသနာငါးထောင်သာဝယ်မြင့်ကြာရှည်စေပံနက်ချွေ၍ လုထွေမှံလစ်သက္ကရာဇ်

၁၀။ ၄၀ပြည့်ကြွယ်မလွန်အမွန်ကဲလှိုင်ရခိုင်မြို့ဧည့ဝဓီသာစည်ပြန့်မှီးတိုင်းပြည်ကြီးနှိုက်သိမ်းပိုက်အဝင်မည်တွင် ရာန်နှိပ်အင်္ဂလိပ်မင်းတပ်

၁၁။ လျှင်းမသွေပြုပြင်ပေသောစစ်တွေမြို့ဝင်ပါမောလိတ်ဆိုသည့်ဈေးဟောင်းရှာ၌မွေးပိုက်မှန်စွာသဒ္ဓါသီလ သုတစာကပညာဟီရိသြတ္တပ္ပါခွန်

၁၂။ နှစ်ဖြာမှံန်လှမြတ်ခမ္မကိုနိစ္စမသွေစေါင့်စွဲနေသောဇရပ်တကာသဒ္ဓါပြည့်ဆောင်မောင်ချင်တောင်သည် လုဘုံဘဝစုတိကျ၍ကြင်စဇနီးရှု

၁၃။ မညီးသည့်မယားကြီးကြွက်မျှုးမမြက်ဦးကကြည်နူးလှပါ၊စေတနာနှင့်နောင်သံသရာကျိုးများစွာကိုတည်ပါရစ် စေဇောစိတ်ချွေ၍သေသူ

၁၄။ ကိုယ်စားဖြစ်စေသားဟုမိဋ္ဌာန်ပြုသည်နောင်သုံးလူ့ဆွေသဗ္ဗဒွေ၏ရွှေကိုယ်တော်စားရုပ်ပွားတော်စစ်ဦးရာဇ်တောင်ပေါ်စေတီတော်မြတ်

၁၅။ သုံးလုနတ်ကိုနောင်မှတ်အစွန့်ရှည်စေညွန့်သားစိတ်ဝေထား၍ရွှေသားမွန်းမံတပ်ရံစုဆောင်းသပျာပေါင်းရေကုန်လေအကြောင်း

၁၆။ သောင်းငါးထောင်ကျော်ကုံလျှာဘုံခန်းနားစွန့်ကြဲပြန့်ပွားအကျိုးအားကြောင့်ပြောင်းသွားဘဝစုတိကျသည်မောင်လှသက်ဝေရွှေပြည်

၁၇။ နိဗ္ဗာန်သာထူးလွန်သည်ပြည်မွန်မှန်စွာနိဗ္ဗုတာသို့ရောက်ပါစေကြောင်းဓောကောင်းမှန်စွာလျှုဒါန်းရာသားအကျိုးအားကြောင့်လေးဝအ

၁၈။ ပါယ်သုံးသွယ်သောကတ်ငါးရပ်ရန်သူမပြုပုန်ရှောင်းသူတော်ကောင်းတို့အလောင်းတကာတောင်ကုံရာသားပဋ္ဌာဆုအာရဝဏ္ဏာသုခဗ

၁၉။ လပတိပွန္နာပြည့်စုံပါစေတောင်းဆုဝေ၏ရေမြေသနင်းမင်းဇကရာဇ်မှစ၍တောင်ညာစံဒေဝီသေနီကေတညီရွှေတညီကြင်ဒေဝီမိဖုရား။

၂၀။ သားတော်သွီးတော်ဆွေတော်မျိုးတော်မှူးတော်မတ်ရာသေနာပတိစရိုများစွာဆရာသမားဆွေသားမိဘညာတမိတ်ဆွေအိမ်နေသားချင်း

၂၁။ မရှင်းမှန်စွာဝေဓောယျာသတ္တဝါတို့အားရညာပါစေအမျှဝေ၏တသုန္ဓြေဉ်မြေနတ်သားတည်ပံကြားသည်။ ။ အများသာခု၂ခေါ်စေ

၂၂။ သော။ ။ယွှာအကျွန်ပ်အားထုတ်စိုက်လျှုကြည်ဖြူသဒ္ဓါစေတနာကြောင့်ဥစ္စာရွှေငွေဆံရေစပါးကျွဲနွားမြင်းဆင်လိုချင်ခပ်သိမ်းမရိမ်းမှံ

၂၃။ စွာပြည့်စုံရာထွေဝဏ္ဏောအဆင်းကောင်းချင်းအသံချံရုံတသီးသားသွီးနှင့်မညီးပြည့်စုံလျှုထုံခမ်းနားကြီးမားမြင့်မြတ်ဥဂ္ဂါတ်တိဟိတ်

၂၄။ စိတ်သဒ္ဓေတည်နေရစေတောင်းဆုဝေ၏တထွေထူးလေနတ်တို့ပြည်ဝယ်ရှုဖွယ်ဆန်းပြားပတ္တမြားစိန်ကျောက်ဝင်းတောက်လျှံထိမ်စွဲ

၂၅။ အိမ်ရွှေနန်းစံခန်းမွေ့လျှော်စည်းစိမ်ပြော်၍လူကျော်နတ်ကောင်းဖြစ်ရကြောင်းဟုဆုတောင်းပံတွာလျှုဒါန်းပါသည်။ ။ လျှင်စွာပြည့်စုံပါ

၂၆။ စေသော။ ။နိဗ္ဗာနပစ္စယောဟောတု။ ။

**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ ပုဏ္ဏားကျွန်းမြို့နယ်၊ ဦးရာဇ်တောင်စေတီတော်အနီးတွင်စတင်တွေ့ရှိသည်။ ယခုကျိုးပြတ်ပျက်စီးသွားပြီး အပိုင်းအစအချို့ကို ယခုအခါ ဦးရာဇ်တောင်စေတီတော် ဗုဒ္ဓပြတိုက်တွင် သိမ်းဆည်းပြသထားသည်။

အလျှုမှတ်တမ်း ကမ္ပည်းစာဖြစ်သည်။ ပါဠိ၊ စကားပြေ၊ လင်္ကာတို့ဖြင့် ရေးသားထားသည်။ နိဗ္ဗာန်ဆုကို တောင်းထားသည်။ မူလထိုးစာမျိုး ဖြစ်သည်။





၃း၁၁။ ပြိုင်းခါတ်တောင်စေတီတော် ခြေတော်ရာကျောက်စာ

သက္ကရာဇ် ၁၂၄၅ ခု (AD 1883)

# ၃း၁၁။ ပြိုင်းခါတ်တောင်စေတီတော် ခြေတော်ရာကျောက်စာ

## သက္ကရာဇ် ၁၂၄၅ ခု (AD 1883)

**ကျောက်စာမူရင်းအရေးအသား**

၁။ သက္ကရာဇ်၁၂၄၅ခုတပေါင်လပြည်နေ့တွင်ပါဒဇေဒီတော်မြတ်ကိုဝ်ထုလုတ်ပြီးပါသည်

၂။ တကာဖိုဝ်ခိုင်တကာမမရ်စိုဝ်ခင်ပွန်မောင်နှံနိဗ္ဗာန်ယွရ်ဆုမြတ်ကောင်မှုကိုဝ်သာ

၃။ ခုနတ်လူခေါါဇေသောဝ်

**ခေတ်ကာလအရေးအသား**

၁။ သက္ကရာဇ် ၁၂၄၅ ခု တပေါင်းလပြည့်နေ့တွင် ပါဒစေတီတော်မြတ်ကို ထုလုပ်ပြီးပါသည်

၂။ တကာဖိုးခိုင် တကာမမရ်စိုးခင်ပွန်းမောင်နှံ နိဗ္ဗာန်ရည်၍ ဆုမြတ်ကောင်းမှုကို သာ

၃။ ခုနတ်လူခေါါစေသောဝ်

**ကျောက်စာအရေးအသား၊ ပေါရာဏ၊ ဝေါဟာရအဓိပ္ပာယ်**

၁။ ဇေဒီ = စေတီ

၂။ ထုလုတ် = ထုလုပ်

၃။ ဖိုဝ်ခိုင် = ဖိုးခိုင်

၄။ မရ်စိုဝ် = မေစိုး

၅။ ယွရ် = ရည်၍

၆။ ကိုဝ် = ကို

၇။ ခေါါဇေသောဝ် = ခေါါစေသော

**ကျောက်စာနှင့်ပတ်သက်သည့်အကြောင်းအရာများ**

ရခိုင်ပြည်နယ်၊ မင်းပြားမြို့နယ်၊ ပန်းမြောင်းမြို့နယ်ခွဲ၊ ပြိုင်းခာတ်တောင်စေတီတော်တွင် စတင်တွေ့ရှိသည်။ ယခု မူလနေရာတွင်ပင်ရှိနေသေးသည်။ သက္ကရာဇ် ၁၂၄၅ ခုနှစ် Deputy Commissioner Mr,T.C Mitchell.C.S လက်ထက်တွင် တကာဖိုးခိုင်နှင့်တကာမမေစိုးတို့ဇနီးမောင်နှံ ပါဒခြေတော်ရာကို ထုလုပ်လှူဒါန်းကြောင်း ရေးထိုးထားသော ကျောက်စာဖြစ်သည်။ ဤကျောက်စာကို ခြေတော်ရာထုလုပ်ထားသော ကျောက်ပြား၏ အပေါ်ပိုင်းတွင် ရေးထိုးထားသည်။

ရခိုင်ဘာသာ ရက္ခဝဏ္ဏအက္ခရာဖြင့် ရေးထိုးထားသည်။ မူလထိုးစာမျိုးဖြစ်သည်။



၃း၁၂။ လက်ကောက်ဈေးဘုန်းတော်ကြီးကျောင်းကျောက်စာ

သက္ကရာဇ် ၁၂၅၁ ခု (AD 1889)

## ၃း၁၂။ လက်ကောက်ဈေးဘုန်းတော်ကြီးကျောင်းကျောက်စာ

### သက္ကရာဇ် ၁၂၅၁ ခု (AD 1889)

**ကျောက်စာမူရင်းအရေးအသား**

၁။ စီရံတိတ္တုသဒ္ဓမော။ ။ သဒ္ဓမော။ သူတော်ကောင်းတရား။
၂။ ကိုစီရံကြာမြင့်စွာ။ တိတ္တု။ တည်းပါစေသတည်း။
၃။ ယတ္ထိဒ္ဒက္ခိလော။ ပထဝီသိတော။ သီရာစတုပ္ပိ။ ပါတေဟိ
၄။ သောဝဇနတ္တဝိတ်ဂဟနှင့်လျော်ညီစွာနှစ်သိမ်လေးသောင်း
၅။ အထုရှိသောမဟာပထဝီမြေတို့ကို။ ဖောက်ထွင်းစိုက်မြှုတ်
၆။ အပ်သောကျော်စာတိုင်သည်မြဲးခိုင်တည်စေခြင်းငှာလည်း
၇။ တဋ္ဌာန။ ကျော်စာတိုင်အထမှာ။ သုံလောကမြတ်စွာမိန့်ဟော
၈။ သိစေသနာဝယ်။ လေဖြာသောစေတီတွင်။ ဥဒိဿရော်ရည်၍
၉။ ခိုင်ရွှေပြည်ခည်။ ရွာအမည်နာမ၊ ရက္ခတောင်ဒေသဝယ်။ မြတ်ဒါန
၁၀။ ပုတ်ပိုင်း၊ ဒါရကာသိုင်းနှင့်၊ ဆက်တိုင်းအေတူ။ ဇနီးမသဒ္ဒါ
၁၁။ ဖြူနှင့်၊ ပါရက္ခုဘ၀၊ ပုတ္တာ · နှစ်ငတိုကို၊ သာသနာရဇ္ဇန်။
၁၂။ မြတ်ဘုရားကောင်းဒမ္မ · · · · · · နံရည်ရှ၊ သားနှစ်ဖြာရှင်
၁၃။ ပြုမှာ၊ အတုလသာသနာ · · · · · · ။ သက္ကရာဇ်ကောဇာ၊
၁၄။ ထောင့်နှစ်ရာအခေါင်၊ · · · တခုကျော်တွင်။ လနတ္တော်
၁၅။ ဆန်းပဉ္စာ။ နေအင်္ဂါ · · · ဒါတပ္ပပြည့်အောင်မြင်၍ငသိုင်း
၁၆။ · · · · · · · · · · · ယောင်းမ၊ မောင်မယ်စုံ
၁၇။ · · · · · · · · · · · · · · · · · · ည်
၁၈။ တောင်းဆုကို၊ နတ်လူပါပေါင်းစု၍အဝေရာဟောန္တု
၁၉။ သာသနာ။ ရှည်အကြာရန်းမပြုရအောင်။ များသာတုခေါ်စေ
၂၀။ သော။
၂၁။ သက္ကရာဇ်၁၂၅၁ခု၊ နတ္တော်လဆန်း၅ရက်။
၂၂။ ၃င်္ဂါနေ့တွင်။ ဘုရားတကာသိုင်းနှင့်၊ ဘုရာ
၂၃။ တကာမသဒ္ဒါဖြူကောင်းမှုဖြစ်သည်။

**ကမ္ပည်းကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ**

မြောက်ဦးမြို့၊ လက်ကောက်ဈေးရွာ၊ ဘုန်းတော်ကြီးကျောင်းတွင် စတင်တွေ့ရှိသည်။ ယခုတိုင် မူလနေရာတွင်ရှိသည်။ သက္ကရာဇ် ၁၂၅၁ ခုနှစ်တွင် လက်ကောက်ဈေးရွာ၊ ရက္ခတောင်ရပ်နေ ဦးငသိုင်းနှင့် ဇနီးဒေါ်မသန္တာဖြူတို့၏ သားရှင်ပြုတွင်ရေးထိုးခဲ့သော ကမ္ပည်းကျောက်စာဖြစ်သည်။

ရက္ခဝဏ္ဏအက္ခရာ ရခိုင်ဘာသာနှင့် ပါဠိဘာသာ နှစ်မျိုးရေးထိုးထားသည်။

## ၃း၁၃။ မဟာမုနိသီရိပဝရသကျမာရဇိန်ရုပ်ပွားတော်မြတ်နှင့် မဟာအတုလဝေယန်တန်းဆောင်တော်ကြီး မော်ကွန်း

### သက္ကရာဇ် ၁၂၆၂ ခု (AD 1900)

### <u>အပိုင်း(၁)</u>

၁။ ဝဋ္ဋေကု။ မဟာပကတုး။ ကပ်ဦးအာဒီ။ ဇာတိဘဝ။ သမတနွယ်လာ။ ဥက္ကာကရာဇ်။ နေမြစ်ကွန်လှိုင်။ ဂိုဏ်သူရဇ္ဇ။ သကျသာကီယ။ မောရိယနွယ်။ ဆက်သွယ်ပုံ့ပျူး။ မြောက်ဦး

၂။ လောင်းကြက်။ သောင်မြေချက်တင်။ ကနက်စိုက်ထောင်။ ဘုန်းရောင်လွှံပတ်။ ဘေးတော်နတ်မှ။ မပြတ်နွယ်လျှည်။ အစည်သဖြင့်။ ဖြူစန်းပွင့်လျက်။ ဆယ်ဆင့်မြော်စွာ။ မဟာစက္ကဝတ်။

၃။ လူတို့အထွဋ်။ မနောဘူနတ်။ မြတ်တကာမြတ်ဖြစ်တော်မူသော၊ မဟာဓမ္မရာဇ်။ တရားမင်းမြတ်သည်။ ရေဓာတ် မြေဓာတ်။ ထုတ်ခတ်စက္ကဝါ။ ဖီလာပတ်ဝန်း။ ကျွန်းစတုရန်း။ သတ္တရဘန်တောင်ရေ။

၄။ မြောင်ခွေမှီထိ။ ဂီရိပရဇမြစတိရုံ။ ချုံလျက်ချပ်လျက်။ ပတ်ရှက်သွယ်ရစ်။ မြစ်ဟိမတင်။ တသွန်လောက။ သြကာသဍ္ဍ။ ချမ်းမြဇကြည်။ မွေးရည်ပုံ့ကြွယ်။ ရနံ့ကယ်လျက်။ ဆွတ်လှယ်

၅။ ခေါက်တင်။ နတ်သဘင်ဖြင့်။ စံရှင်ကျင်းပ။ သာကီယတို့။ ရင်းစတည်ရာ။ မဟာဘူသီခ။ သာသနာသိုက်။ အကိုက်ပွားညွှန့်။ သားသားကွန့်လျက်။ အစွန့်စည်ရှည်။ ငါးမည်အတိတ်။ မင်္ဂလာ

၆။ အောင်ဟိတ်။ ကြာနိမိတ်ဖြင့်။ ယာဒိစ္ဆက။ ဗြဟ္မထိန်းမှတ်။ ကိန်းဓာတ်ဂြိုဟ်နတ်။ နက်သတ်အလို။ ဗဟိုအောင် မြေ။ ညောင်ရွှေဗောဓိ။ သီရိနတ်သန်။ ဓာတ်ရိပ်မှန်သော။ ရက္ခာပူရ။ ဓညဝ

၇။ ဝတီ။ ဠာနီအင့။ ဘွေဇမ္ဗူတက်။ အံ့သူမာလိ။ ဇာတိတော်မြတ်။ သိဒ္ဓိဇာတ်ဖြင့်။ ဣဒ္ဓိပါတ်အလှိုင်။ ပတ်ဝန်းဆိုင် သော။ ရခိုင်ပြည်ကြီးသို့။ ခရီးနဘာ။ ဝေဟင်္ဂါမှ။ ရဟန္တာပုံ။ ထေရ်အရံတို့

၈။ ဖြင့်။ ကြည်လျှံသမ္ဘာ။ ကြွရော်လာလျက်။ ရတနာရုပ်ပွား။ မုနိဖျားကို။ ဘုရားကိုယ်တော်တိုင်။ သွန်းလုပ်တော်မူ သဖြင့်။ ဇမ္ဗူပတ်ကုံး။ ရပ်အလုံးတွင်။ အမြတ်ဆုံးသောအောင်မြေဖြစ်လေ

၉။ သတည်း။

### အပိုဒ်(၂)

၁၀။ ဘူညီခရ။ မြေများသေဋ္ဌနင်း။ မြေမင်းရာဇ။ ဤဋ္ဌာနတွင်။ မာရယုအစ။ မဟာသမတတိုင်။ နှစ်ရာတကျိတ် နှစ်ယောက်။ ဖြူရိပ်ဆော်လျက်။ လွှဖောက်မယိုင်။ တန်ခိုးကြိုင်သော။

၁၁။ ရခိုင်အောင်ဇေ။ ဓညမြေဋ္ဌ။ စစ်တွေရွှေမျို့။ မင်းနေမြို့တွင်။ ဝန်ဆို့ခြေရွှေ။ ရွှေငွေရတနာ။ သပြာသိန်းသန်း။ ဂဏန်းတွက်ဆိုင်။ မချင့်နိုင်ဘဲ။ အပိုင်မြေစား။ လယ်ယာများနှင့်။ ရေသွား

၁၂။ ကတ္တူ။ ခပ်ပြုနဝါ။ ကရိယာတို့ဖြင့်လည်းကောင်း။ ဘဏ္ဍာတိုက်အကြီးဥက္ကဋ္ဌ ရွှေကုန်သည်ကြီးသူကြွယ်မင်း။ မောင်ကျော်ဦး။ ဝတ်လုံတော်ရ။ ရှေ့နေတော်မင်း။ မစ္စတာစံထွန်း။

၁၃။ ၄င်းဝတ်လုံတော်ရမင်း။ မောင်ရွှေသာ။ ၄င်းဝတ်လုံတော်ရဝန်ထော်မင်း။ မောင်ရွှေပန်း။ ၄င်းဝတ်လုံတော်ရ ဝန်ထော်မင်းမောင်သာစံ။ ဟုအမည်တော်နာမ။ ထင်ပေါ်လှသော။ သား

၁၄။ တော်။ ခင်ပွန်းစာရေးကြီး။ ထွန်းအောင်ရီ။ စာရေးကြီးကတော်။ မိစံဝင်း။ ခင်ပွန်းမြို့အုပ်မင်း။ မောင်သာပန်း။ မြို့အုပ်ကတော်မိရွှေခိုင်။ ခင်ပွန်းကုန်သည်ကြီး။ မောင်အောင်ကျော်

၁၅။ မိစံထွေးမ။ အမည်လှသော။ သမီးတော်။ ရွှေလှော်နှထွား။ ရေခြားလိမ္မာ။ ရတနာအနုဇာဘ။ အဋ္ဌရှစ်ယောက်။ ညွှန်ညှောက်မြစ်မြေး။ သူဋ္ဌေးနွယ်စင်။ စပယ်တင်တို့ဖြင့်လည်း

၁၆။ ကောင်း။ ဝန်းကျင်ခယလျက်။ ဋ္ဌာနမင်္ဂလာ။ စည်မျက်နှာသို့။ သာယာစည်ပင်။ ထင်ထင်ပေါ်ပေါ်။
လမ်းမတော်ဟု။ မှန်းမျှော်တိုင်းကြွ။ စိုရွှင်လှသော။ ဒေသအောင်ချက်။ မျိုးတူးစက်
၁၇။ တွင်။ လက်လက်ပြောင်ပြောင်။ အရောင်ဝင့်ဝင့်။ ဘုံသုံးဆင့်ဖြင့်။ ဘုန်းပွင့်ခိုင်ဖြိုး။ တိုက်ဆောင်ကြီး၌။
တိမ်နီးမိုဃ်းခေါင်။ ယုဂန်တောင်မှ။ အရောင်လျံဖြာ။ ပုဏ္ဏမာကို။ တာရာ
၁၈။ ရံလှည့်။ ထွန်းပြိုင်စည်သို့။ ရွှန်ကြည်သမ္ဘာ။ နာယကာနှင့်။ လေးဖြာစတု။ ခုနှစ်ခုသူတော်။ ငါးတော်ဗလ။
အကျော်ရလျက်။ ဇော်တရတနာ။ ရံများစွာတို့ဖြင့်။ ဒေဝါနမိန်။ နတ်စည်း
၁၉။ စိမ်နှင့်။ တသိမ်ရည်တူ။ စံတော်မူသောကြက်သရေဆောင်ရွှေစလွယ်ရ။ ဘောဂသေဋ္ဌ။ ဓနသေဋ္ဌ်နင်း။
သူဌေးမင်းဦးရဲကျော်သူနှင့်။ ဇနီးသဒ္ဒါဖြူအမည်ရှိသော သူဌေးကတော်ကြီး။
၂၀။ တို့သည်။ တေဘုမ္မက။ သင်္ခါရဍ္ဍ။ ဘဝဖန်ဖန်။ ရုပ်နံခန္ဓာ။ ဇရာဗျာစိ။ စရှိဆက်ဆံ။ အတန်တန်ဆင်းရဲခြင်း
တည်းဟူသောစက်သမုပ္ပါဒ်။ ချုပ်အစပ်မှ။ ထုတ်လှပ်လွတ်ထွက်လိုသော
၂၁။ သံတေနလုံးအားဖြင့်။ ရာထောင်မကွ။ များမြောင်လှသောအလှူဒါန။ ပုညကိရိယာ။ ရတနာကုသိုလ်ထူးကို။
ဆည်းဘူးဖွေရှာလျက်ရှိနေစည်အတွင်း။ မင်းစန္ဒသူရိယ။ နရ်န္ဒကို
၂၂။ နရသီဟ။ နရဝရ။ လောကနာထ။ အာဒိစ္စဗန္ဓု။ သဗ္ဗညုသည်။ ဝေနဆိုင်းဆိုင်းပတ်လည်ဝိုင်းသား။ အိန္ဒြိယ။
မန္တြိမဟု။ ဋ္ဌာနအထွဋ်။ သာဝတ်ရာဇဂြိုဟ်။ နပျိသာယာ။
၂၃။ ဓမ္မာနဂရ။ ဗာရဏာမှ။ ရက္ခာပူရ။ ဤဋ္ဌာနသို့။ ကာလမကြာ။ ကြွရောက်တော်မူလာ၍။ သတ္တဝါတို့အကျိုး။
ပွားတိုးအံ့သောငှာ။ ကိုယ်တော်တိုင်။ သွန်းလုပ်တော်မူခဲ့သော။ ပဋ္ဌ
၂၄။ မဥက္ကဋ္ဌ။ ဗုဒ္ဓကိုယ်စား။ ရုပ်ပွားတော်မြတ်သည်။ ပြဿာဒ်ယုန်ဆိုင်။ ဘုံရခိုင်မှ။ ထုံလှိုင်ဖျန်းကြည်။ မန်း
ရွှေပြည်သို့။ ကွန့်လည်နှစ်ဆူ။ ကြွမြန်းတော်မူသောကြောင့်။ ပြည်
၂၅။ သူအများ။ နှစ်များလရှည်။ လွမ်းပွဲစည်ကို။ ပြကြည်အံ့သောငှာလည်းကောင်း။ သာသနာတော်မြတ်အကျိုး။
တိုင်းကျိုးပြည်ကျိုး။ ကြက်သရေမျိုးတို့ဖြင့်။ ပွားတိုးအံ့သောငှာ
၂၆။ လည်းကောင်း။ ပြည်သူလူရှင်ရဟန်းတို့သံသရာအကျိုး။ မိမိသရာအကျိုးပွားတိုးအံ့သောငှာလည်းကောင်း။
မဟာမုနိသိရိပဝရသကျမရာဇိန်။ ရောင်ရှိန်ငွါးငွါး၊ ဒုတိယရုပ်တော်ပွားကို
၂၇။ ပတ္တမြားရတနာ။ စုံလင်စွာတို့ဖြင့်။ ချယ်လှယ်ကာသွန်းလုပ်လှူဒါန်းတော်မူလိုက်သောဆန္ဒအာသာ။ လွန်စွာ
တောင့်တလျက်ရှိပြန်လေသတည်း။

**အပိုဒ် (၃)**

၂၈။ ယင်းသို့ဆန္ဒ။ ပဏိဘကို။ ပြည့်ဝစေကြောင်း။ ထေရ်ကောင်းထေရ်ကျော်။ ဆရာတော်သင်္ဃာတော်တို့နှင့်တကွ။
ဋ္ဌာနအဝှန်း။ တက်ထွန်းရဝိ။ လက်လက်ညီသော။ ဂုဏ်အသရေရှိလူကြီးလူကောင်းမှုထမ်းအရာထမ်းအပေါင်း
၂၉။ တို့နှင့်။ တစ်ကြောင်းတည်းစည်းဝေး။ ဆွေးနွေးတိုင်ပင်။ ကြည်ရွှင်မနော။ သဘောတူမျှကြသည်အတိုင်း။
၄င်းရုပ်ပွားတော်မြတ်ကိုသွန်းလုပ်ရန်။ သွန်းလုပ်ပြီးစီးသောအခါ။ နေရာချထားတော်
၃၀။ မူရန်။ ရှေးအထက်ကျော်ကာလ။ အဋ္ဌမုနိရုပ်ပွားတော်မြတ်။ ကျိန်းဝပ်စံတော်မူရာ။ ကဋ္ဌညူတောင်ကို။
ကြည့်ရှုစုံစမ်းသည်ရှိသော်။ ၄င်းတောင်သည်ကား။ ရှေးရှေးသောသာသနာပြု။ မင်း
၃၁။ ကောင်းမင်းမြတ်တို့။ သင်္ခါရသဘော။ ရွှေ့လျှောကွယ်ပျော်ကြသည်နော်။ နှစ်ပေါင်းများစွာ။ ကန္တာတောငူ။
လူသူအရော်နည်းပါး။ သစ်ကျားခြသေ့်။ အတွေ့မရှောင်။ ဆင်ပြောင်ကြံ့ဝက်။ ခွေး
၃၂။ ၄က်နွားကျွဲ။ သားရဲတိရစ္ဆာန်တို့ပုန်းအောင်းခိုလှုံရာ။ ဂုမ္ဘာဂြမ္ဘာ။ ဒဝလေခါ။ သေလာတောင်ဆွယ်။

မြောင်ပိတ်ကွယ်လျက်။ ကျော်မက်ဘွယ်အလွန်ကောင်းသဖြင့်။ ၄င်းသူဌေးမင်းသည်။ ယင်း
၃၃။ကဋ္ဌည္ဍဍ္ဍ်။ ငါကဲ့သို့သူမျှမပြုစုလျှင်။ စိတ်နုငယ်သွေး။ နော်သားတို့လက်ထက်၌။ အဆက်ဆက်ဝေးသောမည်
တကားဟု။ များစွာသောသံဝေဂနှလုံးကို။ အမြတ်ဆုံးချင့်ချိန်လျက်။ ကလိမ်
၃၄။ ကြိမ်ဆူးရုံ။ စုံရဂုံစေးပြစ်။ ထွေးရစ်စိမ့်မြိုင်။ ဂနိုင်ပိတ်ပေါင်း။ နာမောင်းခြံနွယ်။ စက်စယ်ကိုင်းပန်းပြား။ ၄က်များစီည်။ ကာရန်ံဟု။ အရံပိတ်ဆီး။ မြိုင်တောကြီးကို။ ခရီးတီထွင်။ လမ်းသုတ်
၃၅။ သင်၍။ ရွှေစင်ရတနာ။ သန္တာညွှန့်ညီ။ ကွန့်ညွှန့်ချီလျက်။ ဣန္ဒနီထပ်။ စီအုတ်စပ်၍။ ချုပ်ကွယ်ချောမွေ့။ သာမောဟေ့ဖြင့်။ မရွှေ့နိုင်အောင်။ စီမံခင်းကျင်းတော်မူပြီးမှ။ ပြည်သူတို့အလှူဒါ
၃၆။ န။ တတ်စွမ်းသမျှဝတ္ထုကို။ ကျွတ်ဆုရစေခြင်းငှာ။ လက်ခံထည်ဝင်စေ၍။ ရွှေငွေကာဟာပန။ လိသမျှကု။ ဘဝတည်းသိမ်းချုပ်။ စိုက်ထုတ်အပ်နှံ။ မိမိကျခံ၍။ အရင်းခံဒါယကာ။ စေတန
၃၇။ မြင်းမိုရ်။ နှလုံးသင်းကြည်ညိုလျက်။ ကုသိုလ်တော်နိဗ္ဗာန်ထုပ်ကို။ အကြီးအမှူးဥက္ကဋ္ဌပြုလုပ်။ သွန်းလုပ်လှူဒါန်းတော်မူရာ။ ၁၂၆၂-ခုရတုဆန်းထူးနှစ်ဦးစိတ္တကာ။ လမေသာတွင်၊ အ

## အပိုဒ် (၄)

၃၈။ ထူးထူးသောရတနာတို့ဖြင့်။ ဗိုလ်ပါဝန်းရံ။ နိုင်ငံရှင်အစိုးရ၊ သမဏထေရ်ကျော်။ ဆရာတော်တို့နှင့်တကွ။ ပွဲသဘင်ကြီးကျယ်စွာကျင်းပလျက်။ သွန်းလုပ်လှူဒါန်းပြီးစီးအောင်မြင်
၃၉။ ခြင်းသို့ရော်တော်မူလေသတည်း။ (၄)ပိုဒ်။ တောင်ကဋ္ဌည္ဍ။ အစလဏ်ဋ္ဌာနနီးစပ်။ ခရီးညှပ်လျက်။ မီထပ်တခု။ မိလက္ခုဟု။ မျက်ရှုမရိုင်း။ ရင်သိုင်းအင်္ကျီ။ ကြွေခင်းစီလျက်။ ကွင်းညီမြောင်တိုက်။ တောင်
၄၀။ တပိုက်တွင်။ ခေါင်ကြိုက်သူရာ။ ကဇော်ပါ၍။ လှော်စာဘူးကုပ်။ ခမော်စုပ်နှင့်။ ဆော်လုပ်တီထွင်။ လေးတိုင်စည်ဖြင့်။ ယာပြင်စူးထိုး။ ချင်းလူမျိုးတို့။ ရိုရိုးတောချောင်။ စပ်လျက်မှောင်သော။ ဤ
၄၁။ သည်တောင်ကို။ တာဆောင်တွက်ရေ။ မြို့စစ်တွေက။ သုံးရေဒီးဒီး။ ဝေးအနီးဖြင့်။ ခရီးကိုခန့်အပ်လေသတည်း။ ဘုရားသထွေ်။ ဘုံနိကြော်တွင်။ ကိုယ်တော်ကျိန်းတော်မူသကဲ့သို့။ ၄င်းရပ်
၄၂။ ပွားတော်မြတ်ကျိန်းစံတော်မူရာ။ မဟာပရဝုဏ်။ မြေခုံပတ်ဝိုင်း။ တံတိုင်းသုံးထပ်။ အရပ်မိုမို။ ဗဟို၌ဌာန။ မဏ္ဍိုမက။ အာပရုံသိုင်း။ ပြင်တံတိုင်းကိုချင့်နှိုင်းအဲ့အော်။ ဘန့်၍မျှော်လျက်။ တခေါ်
၄၃။ ခန့်လောက်။ ဆန့်တိုင်းရော်လိမ့်။ အရှေ့အနော်တောင်မြော်ဝဲယာ။ လေးမျက်နှာလည်း။ မဟာဥသဘာ။ နွားလှတတွန်။ မြေမွန်ဝတ္တကံ။ ချက်မှန်ဘူမိ။ တောင်သီရိတွင်။ အစိန္တိကိုယ်စား။ ပဋ္ဌမ
၄၄။ ရုပ်ပွား။ မုနိဖျားဟု။ ဘုရားမြတ်စွာ။ ကျိန်းစံရာအရပ်၌။ တင့်အပ်လျော်ပတ်စွာ။ ရတနာနဝရပ်။ ပြဿာဒ်စိန်ချုန်။ အမွှန်အပြောက်။ ထက်အော်ညီးညီး။ ရွှေချောင်းစီးသို့။ မဟာအတု
၄၅။ လဝေယန်တန်းဆောင်တော်ကြီးကို။ မိုဃ်းပါးနီးဆော်လုပ်လျက်။ ပြည်သူတို့အကြီးဥက္ကဋ္ဌ။ နာယကဦးစီး။ အမှူးအကြီးအဖြစ်အဖြင့်။ ကိုးကွယ်တည်ထားတော်မူလေသတည်း။

## အပိုဒ် (၅)

၄၆။ ၄င်းတန်းဆောင်တော်ကြီးသည်။ စိန့်သီးစိန်ညွှန့်အတွန့်အထပ်။ ပြဿာဒ်မှဒ်လှိုင်း။ အခိုင်အဖူးအထူးထူးကြောင့်။ ရှက်ကူးရောင်ခြည်။ ထောင်မှောင်ဖြည့်သို့။
၄၇။ ဝန်းလည်ပတ်ချုံ။ ရန်လုံအောင်မှို့။ ကြငှန်စို့သောရတနာပုံမန္တလေးမြို့။ ဒုတိယမြို့တည်။ နန်းတည်။ မာန်အောင်ရတနာစေတီတော်ဒါယကာမင်းတရားဆော်လုပ်လှူဒါန်း
၄၈။ တော်မူသောစကျာသီဟတန်ဆောင်တော်ကြီးနှင့်။ အသီးမခြား။ မကွဲပြားဘဲ။ တစားတည်းဆော်လုပ်တော်မူ

ရာ။ သပြာသိန်းကျော်။ ချင့်မျော်စာရင်း။ လက်ငင်းကုန်ကျ၍။
၄၉။ ၁၂၆၉-ခုဥတုသတ်မှတ်။ အခါမြတ်ကို။ ဗ္ဗဟာဇ်ရာဇဓမ္မတ္တဏ်။ ကျမ်းဂန်သာကေ။ ပါဠိ၏အရမှာ။ ဗသဘာ။ ဖြိသရာသီ။ တာပုရိ။ ဖြိသရာသီ။ ပသု။ ဖြိသရာသီ။ ဥက္ခာဂ်။ ဖြိသ
၅၀။ ရာသီ။ သောရဘေယံ။ ဖြိသရာသီ။ ဝါစီရွှင်းရွှင်း။ နွားအဆင်းဖြင့်။ ကန်ရင်းချောင်းရင်း။ မြစ်ကမ်းရင်း၌။ တသင်းတအုပ်။ ခြိုကုပ်ခြိုကွေး။ မြေနံဖေးကို။ သွေးဟန်တမုံ။ မြူး
၅၁။ ထူးခုန်လျက်။ စေခြံဂနိုင်။ ထုံးအိုင်ဆည်မြောင်း။ မြစ်ချောင်းရေကန်။ အတန်တန်တို့တွင်။ ကံဥဒကံဆိန္ဒတီတိက ဆိန္ဒ။ ဝစနဖွင်လှစ်။ ရေပြတ်စစ်၍။ ခေတ်ဝေသာခ။ ထုည
၅၂။ ပြည့်ဝလျက်။ မာသတန်းနူး။ ရတုကျူးသည်။နွားမြူးဗသဘာ။ ကဆန္ဒဟု။ မာဂဓဘာသာ။ အက္ခရာမှ။ ပျက်ကာလျှောခုန်။ လကဆုန်တွင်။ အုပ်ချုံနိဋ္ဌိတ။ လက်စရုပ်သိမ်း။ ပြီးငြိမ်း
၅၃။ အော်မြင်တော်မူလေသတည်း။ အပိုဒ်၆ ကုသလပုည။ မဟဗ္ဗလဟု။ ကမ္မအစု။ ဤကောင်းမှုတို့ကြောင့်။ သုံးခုဝဋ္ဋ။ ဘုံဘဝမှ။ မကြာမြင့်မှီကျွတ်လွတ်ရ၍။ အမတရွှေမြို့။ ဘေးမကြို့။
၅၄။ သည်။ ဇဘိုရိပ်ပျံ။ မြိုက်နိဗ္ဗာန်သို့။ အမြန်ရောက်ရပါစေသတည်း။ နိဗ္ဗာနသုခ။ မရမှီအကြား။ ဝဋ္ဋသုံးပါး၌။ လွတ်ရှားမသွေ။ သံသာဘွေတွင်။ ကြင်လည်သမျှ။ ဘဝါဘဝတို့၌။ ဉာ
၅၅။ ဏနန္တဂ္ဂိ။ လက်ထက်ညီ၍။ မရှိစကား။ မကြားဘူးပါ။ ခန္ဓာမြင်ရှည်။ တည်ကြည်စွာဘိ။ သတိမယွင်း။ ဘေးရန်ကင်း၍။ အဆင်းတင့်လှ။ ကောင်းစွအသံ။ လိုရန်ကိစ္စ။ ဟူသမျှလည်း။
၅၆။ တောင်းတဥဿသုံ။ လွန်ပြည့်စုံလျက်။ လေးဘုံအပါယ်။ ရှစ်သွယ်ရပ်ပြစ်။ မွဲညစ်ခြင်းတည်းဟူသော ဝဋ္ဋဆင်းရဲ။ ထမင်းဆာလောင်ခြင်း။ ရေမွတ်သိပ်ခြင်းတည်းဟူသောဝဋ္ဋဆင်း
၅၇။ ရဲအပေါင်းတို့မှ။ ကြည်ရှောင်ဝေးခွာ။ ဇေဿာ၍။ မဟာလာဘ။ ကိုယ်စိတ်ချမ်းသာခြင်းတည်းဟူသော သုခကို။ နည်းများမဆိုထည့်ဝင်လှူဒါန်းကြသောဒါယကာ။ ဒါယိကာမတို့နှင့်တကွဘဝတိုင်းရကြစေကုန်သတည်း။ အပိုဒ် ၇ ယင်းသို့ ကျွန်ုပ်နှင့်အတူ။ ကြည်ဖြူရွှင်လန်း။ တက်စွမ်းနိုင်မျှ။ ထည်ဝင်ကြသောဒါနရှင်အပေါင်းတို့။ မစောင်းထပ်တူ။ မြတ်အမှုကြောင့်
(၅၉) အလှူ၏အကျိုး။ တန်းခိုးလက်ကိုင်။ ပြည်သီဝံမဏ္ဍိုင်သို့။ ပိုင်ပိုင်ရောက်ကြရပါစေသောဝ်။ နိဗ္ဗာန်ပူရီ။ မရောက်မှီလည်း။ ထိုဤဘဝ။ ကြုံသမျှ၌။ ဆုံးဆယူမျှော်။ သူတော်ဥစ္စ။ ခုနှစ်ဖြာ
(၆၀) နှင့်။ ပညာရောင်။ နေတန်ဆောင်သို့။ ပြောင်ပြောင်ထွန်းတော်ပစေသောဝ်။ ကုသိုလ်၏အဘို။ ကောင်းမှုတို့ကို လည်း။ ငါတို့ကျေးဇူးရှင်။ ဆရာသခင်နှင့်။ အရှင်ဘိုးဘွား။ မိနှစ်
(၆၁) ပါးနှင့်။ မင်းဖျားသမုတိ။ သီရိသမ္မတ်။ ကြငှန်းနတ်နှင့်။ မြတ်မဟေသီ။ ဒေဝီတောင်ညာ။ မဟာပုတ္တ။ ဓိတရွှေကျော်။ သားတော်သမီးတော်။ မဟာဆွေတော်။ မျိုးတော်မူးတော်
(၆၂) မတ်ရာ။ သေနာပတိ။ စရှိများစွာ။ သုခါဒုက္ခ။ နရပိုလ်လူ။ ဟိန္ဒူဂူတို့နှင့်။ ခြောက်ဆူရပ်ထက်။ ဘဝဂ်အထိ။ အဝိစီရောက်။ ထက်အောက်မကျန်။ တိရစ္ဆာန်အများ။ ငရဲသားမှစ၍။ ဒါနမချို။ ကု
(၆၃) သိုလ်တို့ကို။ အဘိုးတူကွ။ အမျှရ၍။ ချမ်းသာကြပါစေသောဝ်။ သုဋ္ဌေဟု။ ဘုံမဟေရပ်။ ဂုဏ်နေမြတ်၍။ မြေနတ်သေဋ္ဌနှင်း။ သက်သေမင်းလည်းစရင်းတင်ကာ။ မှတ်သားနာ၍။ နောင်
(၆၄) သောအခါ။ တမလွန်ရွာတွင်။ ဆောစွာမရွှေ့။ ကျွန်ုပ်တို့ပင်မေ့သော်လည်း။ စေ့စေ့ငုငု။ သက်သေပြု၍။ ယှုကောင်းကျိုး။ တန်းခိုးနဘော်။ ကုသိုလ်တော်ကို။ ထုတ်ဘော်မြွက်ကြား
(၆၅) နိုင်ပါစေသောဝ်။ ယင်းကုသိုလ်အနည်းအများ။ စွမ်းအားအလျော်။ ဝမ်းမြော်ကြည်ရွှင်။ ထည့်ဝင်အလှူ။ ရှေ့ပြည်သူအလုံးတို့၏။ အထွဋ္ဋဆုံးသောကုသိုလ်တော်မြတ်ကို။ လူနတ်

(၆၆) သာစုခေါ်ပါစေသောဝ်။ (အမှား)ဗဿဘအစ။ သောရဘေယံ အဆုံးရှိသော ၅ပုဒ်တို့ကား။ ဗြိဿရာသီ ပရိယာယ်တည်း။ အဘိဓာန်ဋီကာမှာ။ ပဿဘဥ္စ။ ဗကိုဥနှင့်လဲ၍။
(၆၇) ဥဿဘဟုဆို၏။ ၄င်းရာသီကား။ နွားတိုကြိုက်နှစ်သက်သောရာသီ။ နွားနှင့်တူသောအဆင်းရှိသောဟူ၍။ ရာဇမတ္တဏ်စသောကျမ်းကြီးများတွင်ဆို၏။ ၄င်းဖဿဘ
(၆၈) တည်းဟူသောမူလဘာသာရင်းပျက်ယွင်း၍။ တလိုင်းမြန်မာရခိုင်တို့က ကဆုန်လကို။ ယခုအခါ ဗြိဿရာသီ ဟုခေါ်ဝေါ်ကြ၏။
ကျောက်စာမူလစာရေးသူဆြာညီ

## ကမ္ဘည်းကျောက်စာနှင့်ပတ်သက်သည့် အကြောင်းအရာများ

ကျောက်တော်မြို့ မဟာမုနိဘုရားကြီး ကုန်းတော်ပေါ်တွင် စတင်တွေ့ရှိပြီးမူလနေရာတွင်ပင် ရှိသေးသည်။ သက္ကရာဇ် ၁၂၆၂ခုနှစ်တွင် သူဌေးကြီး ဦးရဲကျော်သူမှ မဟာမုနိသီရိသရေသကမာရဇိန်ကြေးသွန်းရုပ်ပွားတော်ကြီးနှင့် မဟာအတုလဝေယန်တန်ဆောင်းတော်ကြီးလှူဒါန်းမှုအတွက် ရေးသားထားသော ကျောက်စာဖြစ်သည်။ ကဗျာလင်္ကာဖြင့် စပ်ဆိုရေးသားထားသည်။ မူလထိုး စာမျိုးဖြစ်သည်။

